



# ကျေးဇူးရှင် ဆရာတော်ကြီးများ၏ အံ့ဖွယ်ဘာဝဖြစ်စဉ်နှင့် စမ္မာကျင့်စဉ်များ

မောင်သွေးချွန်




မဏိရတနာစဉ် ( ၁၂၆ )

● ဖြန့်ချိရေး ●

မဏိရတနာပေ

အမှတ် (၂၃၇) (ပထမထပ်-ဝဲ) ၃၉-လမ်း အပေါ်ဘလောက်၊

ကျောက်တံတားမြို့နယ်၊ ရန်ကုန်မြို့။

ဖုန်း - ၀၁-၃၉၂၈၃၅၊ ၀၉-၇၃၀၅၉၉၃၅၊ ၀၉-၅၀၅၆၇၄၃

ကျေးဇူးတော်ရှင်

ဆရာတော်ကြီးများ




အံ့ဖွယ်ဘဝဖြစ်စဉ်နှင့်

ဓမ္မကျင့်စဉ်များ





ကျေးဇူးတော်ရှင် ဆရာတော်ကြီးများ၏

အံ့ဖွယ်ဘဝဖြစ်စဉ်နှင့် ဝမ္မကျင့်စဉ်များ

## ပုံနှိပ်မှတ်တမ်း


ထုတ်ဝေသည့်ကာလ — ၂၀၁၃ ခုနှစ်၊ စက်တင်ဘာလ။

ထုတ်ဝေသူ — ဒေါ်မျိုးမျိုးလတ် (ရွှေခေတ်စာပေ)
၂၁၊ ဒါနလမ်း၊ သာယာကုန်း၊
မင်္ဂလာတောင်ညွန့်မြို့နယ်။

အတွင်းနှင့်မျက်နှာဖုံးပုံနှိပ် — ဦးမျိုးမြင့်ကျော်
မြတ်ထက်ဟိန်းပုံနှိပ်တိုက်
အမှတ်(၅)၊ ဈေးလမ်း၊
တပ်မြေ(၆)ရပ်ကွက်၊ ပုဇွန်တောင်။

အတွင်းဖလင် — ကိုဦး(၀၉၅၀၇၀၆၆၃)

မျက်နှာဖုံး — ပန်းချီ လင်းဝဏ္ဏ

အတွင်းအပြင်အဆင် — နေရီရီ

တန်ဖိုး — ၃၀၀၀ ကျပ်

ပေါင်သွေးချုပ် CIP - 294.3

ကျေးဇူးတော်ရှင် ဆရာတော်ကြီးများ၏
အံ့ဖွယ်ဘဝဖြစ်စဉ်နှင့် ဝမ္မကျင့်စဉ်များ - ရန်ကုန်။
ပဋ္ဌိပစာပေ၊ ၂၀၁၃။
တာ - ၂၈၄ ၊ ၁၃ × ၂၀ စင်တီ။



မာတိကာ


# အမှာစာ

## ဂဠုန်ဒါန်း

မောင်သွေးချွန်

တာပေလွတ်လပ်ခွင့်ရလာတော့ တစ်ခေတ်တစ်ခါက ပိတ်ပင်ခံထားရတဲ့ နိုင်ငံရေးစာအုပ်စာပေတွေ ပြန်လည်ထုတ်ဝေလာကြတယ်။ နိုင်ငံရေးစာပေ တစ်ခေတ်ဆန်းချိန်လို့ ဆိုရပါလိမ့်မယ်။ (၂၀၁၃) ခုနှစ်၊ ဇန်နဝါရီလမှာ ကျွန်တော့်ရဲ့ နိုင်ငံတော်စစ်တမ်း (ခေတ်ပြိုင်နိုင်ငံရေးဝေဖန်စာများ) ထွက်တယ်။ ဗုဒ္ဓစာပေတွေ အရေးများခဲ့သူရဲ့နိုင်ငံရေးစာပေဖြစ်လေတော့ တချို့မျက်စိလည်သွားကြတယ်။ အကြောင်းအရာက နိုင်ငံရေး ဖြစ်ပေမယ့် ဗုဒ္ဓဓမ္မ အခြေခံပေါ် ရဲရဲရင့်ရင့်၊ ယုံယုံကြည်ကြည် ရပ်တည်ပြီး ရေးခဲ့တာ ဖြစ်တယ်။ နိုင်ငံရေးနဲ့ ဘာသာရေးဆိုင်ရာ သီးခြားလွတ်လပ်နေတဲ့အရာ မဟုတ်ဘူး။ ကျေးငှက်စိမ်းစိမ်း၊ ပေါက်ရွက်စိမ်းစိမ်းလို့ ဆိုကြတယ်။ ဆိုလိုတာက ဒွေးရောယှက်တင် အတူတွဲယှဉ်နေတတ်တဲ့သဘော ရှိတယ်လို့ ပြောနိုင်ပါတယ်။

ဥပမာ - ရခိုင်အရေး ဆိုပါတော့။

ဘာသာရေး လူမျိုးရေး မဟုတ်ဘူးဆိုပြီးတော့ နိုင်ငံရေးသမားတွေကတောင် မျက်စိစုံမှိတ်ပြီး ငြင်းဆန်ကြတယ်။ အမှန်ပြောရရင် နိုင်ငံရေး

ခေါင်းဆောင်များနဲ့ နိုင်ငံရေးနောက်လိုက်များ အတော်များများဟာ ဘာသာရေး အားနည်းကြရှာတယ်။ ဗုဒ္ဓ ဓမ္မစာပေတွေကို ထဲထဲဝင်ဝင် ဖတ်ဖူးသူ နည်းတယ်။ ကျင့်ဖို့ကတော့ ဝေးရောပေါ့။ အထူးသဖြင့် ပျူခေတ်၊ ပုဂံခေတ်ကစပြီး ဒီနေ့အထိ နိုင်ငံတော်ကို ဗုဒ္ဓဘာသာ ယဉ်ကျေးမှုအားဖြင့် တည်ဆောက်ခဲ့တယ်ဆိုတာကို အထူးသတိပြုဖို့ လိုပေလိမ့်မယ်။ သမိုင်း အမြင်ကြည်လင်ရမယ်။

လူ့အဖွဲ့အစည်းကြီးတစ်ခု လူသားကမ္ဘာနဲ့ နိုင်ငံတော်ကို မပျက်မစီးအောင်၊ ယဉ်ကျေးအောင် နိုင်ငံရေးစနစ်တွေက အပြည့်အဝ တာဝန်မယူနိုင်ပါဘူး။ ဆိုင်ရာ လူ့အဖွဲ့အစည်း၊ (နိုင်ငံတော် သို့မဟုတ် နိုင်ငံများ) က ယုံကြည်သက်ဝင်လက်ခံကျင့်သုံးနေတဲ့ ဘာသာတရားကသာ သတ္တလောက တည်မြဲအောင် ထိန်းသိမ်းစောင့်ရှောက် ကာကွယ်ပေးနိုင်ပါတယ်။ ဘာသာတရားတို့ရဲ့အနှစ်သာရဟာ မေတ္တာဝါဒ ငြိမ်းချမ်းရေးနဲ့စပြီး ငြိမ်းချမ်းရေးသာလျှင် အန္တိမ အဆုံးပန်းတိုင် ဖြစ်ပါတယ်။

ဘာသာရေးဟာ ကမ္ဘာလောကအတွက် ဘယ်လောက်အရေးကြီးသလဲဆိုရင် ကုလသမဂ္ဂမှာတောင် ထောင်စုနှစ် ဘာသာရေးညီလာခံကြီး ကျင်းပ၊ ပြီးတော့ ကမ္ဘာ့ငြိမ်းချမ်းရေးအတွက် အဖြေရှာခဲ့ရတဲ့အထိပဲ။ မြန်မာ့ငြိမ်းချမ်းရေး လှုပ်ရှားမှုတွေမှာ ပြည်တွင်းစစ် စတင်အားကောင်းခဲ့တဲ့ (၁၉၄၉) ခုနှစ်ကစပြီး ဒီနေ့အထိ သံဃာတော်တွေ ဦးဆောင်ပါဝင်နေလျက်ရှိပါတယ်။ ဒါကြောင့် နိုင်ငံရေးနဲ့ ဘာသာရေးဆိုတာ ရေအိုးနဲ့ရေမှုတ်လို၊ ထမင်းနဲ့ဟင်းလို ဒွန်တွဲနေတာကို မြင်သိစေချင်ပါတယ်။

အစ္စလာမ်မစ်နိုင်ငံတော်၊ အစ္စလာမ်မစ်ဥပဒေနဲ့ အစ္စလာမ်မိုက်ဇေးရှင်း ဆိုတာတွေဟာ ဘာသာရေးပဲ။ အမေရိကန်သမ္မတတွေ ကျမ်းသစ္စာကျိန်ဆိုတော့ "အမေရိကန်ကို ဘုရားသခင် ကောင်းချီးပေးပါစေ" လို့ ဆုတောင်းရတာပဲ မဟုတ်လား။ အမေရိကန်ဒေါ်လာပေါ်မှာ "1N GOD WE TRUST" လို့ ပုံနှိပ်ထားတာ အထင်းသား တွေ့မြင်ရပေလိမ့်မယ်။ ဒေါ်လာကို ယုံတာလား၊ ဘုရားသခင်ကို ယုံကြည်တာလားဆိုတာတော့ အမေရိကန်တွေပဲ သိလိမ့်မယ်။

အစ္စရေးနိုင်ငံတော်အလံဟာ အစ္စရေးတို့ရဲ့ ဘာသာရေးပဲ။ ဒီ

ဘာသာရေးကြောင့်ပဲ နိုင်ငံတော်တွေ ကြံ့ကြံ့ခံ တည်မြဲနေတာ ဖြစ်တယ်။ ဆိုလိုတာက ဘာသာရေးဆိုတာ သိမ်မွေ့သလောက် ခိုင်ခံ့တယ်။ ဘာသာရေး အကျင့်ရှင်တွေရဲ့ဖွဲ့၊ သတ္တိ၊ လုံ့လ၊ ဝီရိယဆိုတာလည်း တော်ရုံတန်ရုံ နိုင်ငံရေးသမား လိုက်လို့မမီအောင် ပြင်းထန်တယ်။ အခက်အခဲတွေ၊ တိုက်ပွဲတွေ၊ ဘေးဒုက္ခတွေကို ကျော်လွှားလွန်မြောက် ကျင့်ကြံပေါက်မြောက် အောင်မြင်သွားချိန်မှာလည်း ဒီအောင်ပွဲဟာ အများအတွက်၊ သတ္တဝါတွေ အတွက် ဖြစ်တယ်ဆိုတာ ဘုရားရဟန္တာ၊ အရိယာသူတော်ကောင်းကြီးများ ရဲ့ ဘဝခမ္မကျင့်စဉ်များက သက်သေခံနေပါပြီ။

မြန်မာနိုင်ငံဟာ ဗုဒ္ဓဘာသာရဲ့နောက်ဆုံးခံတပ်နိုင်ငံတော်ကြီး ဖြစ်ပါတယ်။ မြန်မာပြည်မှာ ဗုဒ္ဓဘာသာ ကွယ်သွားရင် တစ်ကမ္ဘာလုံး ဗုဒ္ဓဘာသာ ကွယ်သွားပြီလို့ မှတ်ယူလိုက်ပါတော့။ တရားစစ်၊ တရားမှန်၊ တရားထူး၊ တရားမြတ်ကို ဘယ်လိုရယူတည်ဆောက်ခဲ့တယ်ဆိုတာ ဒီစာအုပ်က အထိုက်အလျောက် ပြောပြနိုင်မယ်လို့ ယုံကြည်မျှော်လင့်ပါတယ်။

တရားခမ္မရဲ့တန်ဖိုးကိုသိမှ တရားခမ္မကို ကာကွယ်စောင့်ရှောက်နိုင်ပေလိမ့်မယ်။ ဒီစာအုပ်မှာ ပူဇော်ထားတဲ့ ဆရာတော်ကြီးများအနက် ကချင်တိုင်းရင်းသား အောင်မော်စံဆရာတော်၊ ရှမ်းတိုင်းရင်းသား မိုင်းလင်းဆရာတော်၊ ရခိုင်ဆရာတော် ဦးအဂ္ဂခမ္မတို့ဟာ ဒီနေ့ထိ သက်တော်ထင်ရှား ရှိနေဆဲဖြစ်ပါတယ်။ သာသနာပြု ဆရာတော်ကြီးများရဲ့ ဘဝကံဖန်လာပုံ ဆန်းကြယ်လွန်းသလို ကျင့်ကြံအားထုတ်သွားပုံတွေကလည်း အင်မတန် အားကျကြည်ညိုစရာ ကောင်းလှပါတယ်။

ဒီစာအုပ်ဟာ ဆယ်စုနှစ်များအတွင်း ဘာသာရေးမဂ္ဂဇင်းတွေမှာ ကျွန်တော်ရေးခဲ့တာတွေထဲက ရှာတွေ့သမျှ စုစည်းပေးလိုက်တာ ဖြစ်ပါတယ်။ ရေးတာများတော့ ထိန်းသိမ်းရတဲ့ အခက်အခဲလည်း ရှိပါတယ်။ ပျောက်သွားပြီး ပြန်မရတဲ့ စာအုပ်မဂ္ဂဇင်းတွေလည်း ရှိရဲ့။ အခု အချိန်မရတဲ့ကြားက အချိန်ကိုလုပြီး စုစည်းပေးလိုက်တာ ဖြစ်ပါတယ်။

ဆရာတော်များရဲ့ ပုံတော်များ ပြန်ရှာရတာလည်း တစ်နေကုန် အောင်ပါပဲ။ ဒါနဲ့တောင် မိုင်းလင်းဆရာတော်၊ ပုံတော် ရှာမတွေ့လို့ မဖော်ပြနိုင်တာကို တောင်းပန်ပါတယ်။ နောင် အချိန်ရရင်တော့ စနစ်တကျ စုစည်းပြီး

နောက်တစ်ကြိမ် ပြန်ပုံနှိပ်ထုတ်ဝေနိုင်အောင် စီစဉ်သွားပါမယ်။

ဒီစာအုပ်မှာ သမထ၊ ဝိပဿနာ၊ ပဋိပတ် ကျင့်စဉ်များကို အထူးပြု ဖော်ထုတ်ထားပါတယ်။ တရားရှာတယ်ဆိုတာ စီးပွားရှာရတာထက် ဘယ်လောက် ခက်တယ်ဆိုတာ သိစေလိုရင်းပါပဲ။ သူတော်ကောင်းကြီးများ ဘဝနဲ့ အသက်နဲ့ ရင်းပြီး ရှာပေးတဲ့ တရားဓမ္မကို လောကထဲ၊ ဘဝထဲမှာ အစဉ်အမြဲ ထွန်းညှိပူဇော်ထားချင်တာပါပဲ။

တရားရှင်များနဲ့ တရားဓမ္မရဲ့တန်ဖိုးကိုသိရင် တရားဓမ္မကို ကာကွယ်စောင့်ရှောက်ဖို့ ကျွန်တော်တို့မှာ တာဝန်ရှိတယ်လို့လည်း ပြောခဲ့ချင်ပါတယ်။

**လေးစားစွာဖြင့်**

**မောင်သွေးချွန်**
**(၁၃၇၄) ခု၊ တပို့တွဲလဆန်း၊ (၁၃) ရက်။**
**(၂၀၁၃) ခု၊ ဖေဖော်ဝါရီလ၊ (၂၃) ရက်။**





မူလမင်းကွန်း ဇေတဝန်ဆရာတော်ကြီး

# သထုံမြို့
# မူလမင်းကွန်းဇေတဝန်ဆရာတော်ကြီး
## ၏သတိပဋ္ဌာန် အပ္ပမာဒ အကျင့်လမ်းစဉ်

(၁)

သာသနာအစ သထုံကဟု ပညာရှိ သူတော်ကောင်းတို့ မိန့်ဆိုခဲ့သည်။

သာသနာတော်၏အမွန်အစ သုဝဏ္ဏဘူမိ သထုံသို့ ကျွန်တော်တို့ရောက်ခဲ့ကြပြန်ပြီ။ ကျေးဇူးရှိသောနေရာသို့ ကျေးဇူးမဆပ်နိုင်မီ ကျေးဇူးသိတတ်ခြင်းဖြင့် မြတ်မြတ်နိုးနိုးရောက်ရှိခဲ့ခြင်းဖြစ်သည်။ ကျွန်တော်တို့ဆိုသည်မှာ အပ္ပမာဒ စာတည်းချုပ် ဆရာမြသန်းစံ၊ သူ၏ဓမ္မမိတ်ဆွေ မဟာစည်ယောဂီ ဦးသိန်းထိုက်ဦး၊ ယာဉ်မောင်း မောင်အောင်ဗလနှင့် ကျွန်တော်တို့ဖြစ်ပါသည်။ ဆရာမြသန်းစံက မဟာစည် ဆိတ်ငြိမ်တွင် ရဟန်းဝတ်ဖြင့် သုံးလအားထုတ်ပြီးနောက် သထုံမြို့ မူလမင်းကွန်းဇေတဝန်တောရမှာ(၁၁)ရက်တိုင် ဆက်၍ အားထုတ်ပြန်သည်။ သူ့တရားက သူအားထုတ်ရမည့်နေရာသို့ ခေါ်ဆောင်သွားခြင်းဖြစ်ပေလိမ့်မည်။

'အဲဒီတုန်းက အသိအကျွမ်းကလည်းမရှိ၊ ရောက်တဲ့အချိန်ကလည်း ညမှောင်မှောင်၊ ခွေးတွေက ဟောင်လို့ပေါ့ဗျ။ အထုပ်အပိုးကလေးချပြီး . . .'

သူက သထုံ မူလမင်းကွန်း ဇေတဝန်ကျောင်းသို့ ရောက်ခဲ့ပုံ အတွေ့အကြုံကို ပြန်ပြောနေသည်။ မှောင်ရိပ်ထဲမှာ ယောဂီတစ်ယောက်၏ ရုပ်ပုံလွှာက ဖျတ်ခနဲ ဝင်းပလာသည်။ မာန်မာနအစရှိသော ကိလေသာတို့မှာ နှိမ့်ချခွာချထားသော ရုပ်ပုံလွှာ။ အပြင်မှာ မှောင်နေသော်လည်း အတွင်းမှာ လင်းနေ

သည်။ ထို အလင်းဓာတ်ကလေးသည် ဤဇေတဝန်တောရမှာ ဝေးလံသီခေါင် မိုင်ပေါင်းများစွာ ကွာလှမ်းသော တောနက်နက် မဟာမြိုင်ဆီ ရောက်သွားသည်။ ကျေးဇူးရှင်ဆရာသခင်ကို ဆက်သွယ်သတင်းပို့ပြီးသား၊ ဖြိုဟတ်တုဖုန်း မလို၊ အီးလ်မေး မလို၊ တရားဓမ္မကသူ၏ပင်ကိုယ်သတ္တိဖြင့်သူ လုပ်သွားသည်။

'အဲဒါနဲ့ . . . ဒီမှာ (မင်းကွန်းဇေတဝန်မှာ) တစ်လလောက်အားထုတ်မယ့် အစီအစဉ်က သူ့ဟာသူပြောင်းသွားပြီး အထက်ချင်းတွင်း မဟာမြိုင်ကိုရောက်သွားတယ်။ ခုနစ်နှစ်လောက်ဝေးကွာနေခဲ့ရတဲ့ ဆရာသခင်ကျေးဇူးရှင်ကို ပြန်ဖူးခွင့်ရတယ်။ တရားနာခွင့်၊ တရားလျှောက်ခွင့်ရတယ်။ ဆက်လျှောက်ရမယ့် တရားလမ်းကိုလည်း မြင်လာတယ် . . .'

ကျေးဇူးရှင်ဆရာသခင်နှင့် ပြန်ဆက်သွယ်မိအောင် မူလမင်းကွန်းဇေတဝန်ကျောင်းတော်ကြီးက လောလောလတ်လတ် ကျေးဇူးပြုလိုက်သည်။ ထိုကျေးဇူးကို မမေ့နိုင်ခြင်းဖြင့် သထုံသို့ တစ်ခေါက် ရောက်ခဲ့ပြန်သည်။ ဦးသိန်းထိုက်ဦးကလည်း မဟာစည်ယောဂီမြို့ပေါ် ရိပ်သာတွေမှာ အားထုတ်နေရာမှ နိက္ခမပါရမီက နှိုးဆော်လာသဖြင့် သထုံခရီးစဉ်မှာ လိုက်ပါလာခြင်းဖြစ်သည်။ ဤခရီးစဉ်အတွက် သွားလာစားသောက်ရေးကိစ္စအဝဝကို သူကပဲ တာဝန်ယူ ဒါနပြုခဲ့သည်။ သူသည် စီးပွားရေးနယ်ပယ်မှ လုပ်ငန်းရှင်တစ်ဦး ဖြစ်သည့်တိုင် ဓမ္မနယ်ပယ်ထဲမှာပဲ မွေ့လျော်နေသည်။ ငယ်ငယ်ကတည်းက မဟာစည်မှာ ကိုရင်ဝတ်ခဲ့သူ၊ ကြီးလာတော့လည်း မဟာစည်ယောဂီအဖြစ် နှစ်နှစ်ကာကာကြီး အားထုတ်ခဲ့သူ။ ဘယ်လောက် အလုပ်တွေများများ နေ့စဉ်တရားထိုင်မပျက်သူ။ လေးစားဖွယ် လူငယ်တစ်ယောက်အဖြစ် တွေ့မြင်ရပါသည်။

'မဟာစည်မှာက ပစ္စယာနုဂ္ဂဟတွေနဲ့ ပြည့်စုံတယ်လို့ဆိုပါစို့နော် . . . ဒီမှာ မင်းကွန်း ဇေတဝန်မှာက မဟာစည်ဆရာတော်ကြီး ပဋိပတ္တိအကျင့်သာသနာ စတင်ခဲ့တဲ့နေရာ၊ ပညာရင်နို့ သောက်စို့ခဲ့တဲ့နေရာဖြစ်သော်လည်းပဲ ဖြည့်ပေးရမယ့် ကွက်လပ်လေးတွေ ရှိနေတယ်လို့ ကျွန်တော်ထင်တယ်။ ကျွန်တော် ကိုယ်တွေ့ပဲလေ . . . အိမ်သာ၊ ရေချိုးခန်း၊ လျှပ်စစ်မီး စသည်ဖြင့် လှူသင့်၊ လှူထိုက်၊ လုပ်သင့်လုပ်ထိုက်တာလေးတွေ ရှိနေတယ်။ ဒါနဲ့ . . . ဆရာသွေး ဒုလ္လဘ ရဟန်းဝတ်တုန်းက ဒီကျောင်းကို ရောက်ခဲ့သေးလား'

'မရောက်ခဲ့ဘူး ဗိုလ်မှူးရေ . . . ဒီကျောင်းရှေ့က ဖြတ် ဖြတ်သွားခဲ့တာ

အချိန်လည်းမရ၊ အသိအကျွမ်းကလည်း မရှိနဲ့ဆိုတော့ ဟိုဘက် တောင်ကြောနဲ့ အောင်သွားတယ်။ ကေလာသတောင်မှာ ဆရာတော်ရှင်ဆန္ဒာဓိကကို သွားဖူးတယ်။ မြသပိတ်တောင်မှာ ဘုရားသွားဖူးတယ်။ ဝေဘူနည်းနဲ့ တရားပြနေတဲ့ ဘုန်းဘုန်းလေးကျောင်းကိုရောက်တယ်။ ကျွန်တော် အားထုတ်ခဲ့တာက စွန်းလွန်းဆရာတော်ကြီး သိမ်သမုတ်ခဲ့တဲ့ လေးကျွန်းရန်အောင် ဘုရားရင်ပြင်တော်ပေါ်က သိမ်ထဲမှာ၊ ဆရာတော်ကြီး ဦးဉာဏိန္ဒရဲ့ ကျောင်းမှာ ကျွန်တော့်ရဲ့ ကမ္မဝါဆရာတစ်ပါးဖြစ်တဲ့ ဦးဝါသေဋ္ဌဟာ မင်းကွန်းဇေတဝန်ကျောင်းကပါပဲ။ အခုတော့ တောင်ဝိုင်းကြီးကျောင်းမှာ ကျောင်းထိုင်ပါတယ်။ အဲဒီတုန်းက ဦးဝါသေဋ္ဌက စာအုပ်လေးတစ်အုပ်ပေးတယ်။ 'မဇ္ဈိမပဋိပဒါ အပ္ပမာဒလမ်းစဉ်တရားတော်'တဲ့။ ကျမ်းပြုသူက ဒုတိယမင်းကွန်းဇေတဝန်ဆရာတော် အရှင်တိက္ခာစာရ စာအုပ်ကလက်တွေ့အလုပ်ပေးတရား၊ ဆရာတော်ရဲ့ဓမ္မဂုဏ်ရည်ကို ကြည်ညိုလို့မဆုံးနိုင်ဘူး။ မူလ မင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီး မွေးထုတ်ပေးလိုက်တဲ့ တပည့်တွေက နှယ်နှယ်ရရတွေ မဟုတ်ပါလားဆိုပြီး မူလ မင်းကွန်းဆရာတော်ကြီးကိုလည်း အတိုင်းထက်အလွန် ကြည်ညိုမိပြန်တယ်'

ရန်ကုန်က ထွက်လာကတည်းက စကားတပြောပြော၊ တဖွဲဖွဲရွာနေတဲ့ မိုးကမှ ရပ်သွားသေးသည်။ စကားပြောကတော့ မရပ်၊ ကားခဏရပ်နားသည့်တိုင်လည်း စကားပြောမရပ်၊ ထမင်းဆိုင်မှာ၊ လက်ဖက်ရည်ဆိုင်မှာ စကားနောက် တရားပါနေခဲ့သည်။

'ဖားအောက်ဆရာတော်ကြီးလည်း သထုံမှာ သီတင်းသုံးခဲ့ဖူးပါတယ်။ အဲဒီ တောင်ဝိုင်းကြီးကျောင်းမှာ တောင်ပုလုဆရာတော်ကြီးလည်း မူလမင်းကွန်းဆရာတော်ကြီးဆီမှာ တပည့်ခံပြီး အားထုတ်သွားခဲ့တာပါ။ ဒါကြောင့် မင်းကွန်း ဇေတဝန်ကျောင်းတော်ကြီးဟာ တကယ့်အောင်မြေ၊ သာသနာ့အောင်မြေပါပဲ . . . '

'မူလ မင်းကွန်းကိုရောက်လာတာ တောင်ပုလုဆရာတော်နှင့် မဟာစည်ဆရာတော် ဘယ်သူက စောသလဲ'

'မဟာစည်က စောတယ်ဗျ၊ မဟာစည်ဆရာတော်ကြီးက မူလမင်းကွန်းကို ရောက်လာတာ (၁၂၉၃) ခုနှစ်ကဆိုတော့ လွန်ခဲ့တဲ့နှစ်ပေါင်း ခုနစ်ဆယ်ကျော်ကပေါ့ဗျာ။ ကားနဲ့ဘာနဲ့ လာခဲ့ရှာတာမဟုတ်ဘူး။ နှစ်ရက်လုံးလုံး

ခြေလျင်ကြွခဲ့ရတာတဲ့ . . .

ထိုစဉ်က မဟာစည်ဆရာတော်မှာ ရဟန်းရှစ်ဝါမျှသာ ရသေးသည်။ မော်လမြိုင် တောင်ဝိုင်းကလေးကျောင်းတိုက်မှာ ပရိယတ္တိစာပေပို့ချနေခဲ့သော ရဟန်းအရှင်မြတ်ဖြစ်သည်။ ပဋိပတ္တိအကျင့်မြတ်လမ်းစဉ်သို့ လက်တွေ့ ကျင့်သုံးအားထုတ်လိုသဖြင့် မူလ မင်းကွန်းဇေတဝန်ဆရာတော်ကြီးအပေါ်မှာ ယုံကြည်အားကိုးခြင်းအပြည့်အဝဖြင့် ရောက်လာခဲ့ခြင်းဖြစ်သည်။ ရောက်သည့်နေ့မှာပင် (နှစ်ရက်လုံးလုံး ခြေလျင်လာခဲ့သည့်တိုင် နားနေခြင်းမပြုတော့ဘဲ) ကမ္မဋ္ဌာန်းတောင်းသည်။ မူလမင်းကွန်းဇေတဝန်ဆရာတော်ကြီးက ညည့်ဦးယံ (၇)နာရီလောက်မှာ အောက်ပါ ပါဠိကို မူတည်ပြီး တစ်ပိုဒ်စီ၊ တစ်ပိုဒ်စီ အနက်အဓိပ္ပာယ်ပြန်ကာ ရှုမှတ်ပုံနည်းကို ပေးတော်မူလေသည်။

**နေတ္တိပါဠိ(၁၉)**

သတောဘိက္ခု ပရိဗ္ဗ၊ တေန၊ ဒိဋ္ဌ၊ ဓမ္မ-သုခ၊
ဝိဟာရတ္တံ အဘိက္ကန္တေ အာလောကိတေ ဝိလောကိတေ
သမိဉ္ဇိတေ ပသာရိတေ သင်္ဃာဋိပတ္တ စီဝရ ဓာရဏေ အသိတေ
ပေတေ ခါယိတေ သာယိတေ ဥစ္စာရပဿာဝကမ္မေ ဂတေဌိတေ
နိသန္နေသုတ္တေ ဇာဂရိတေ ဘာသိတေ တုဏှိဘာဝေ သတောန
သမ္ပဇာနေန ဝိဟာတဗ္ဗံ။

**မြန်မာပြန်**

သံသရာဘေးကိုရှုသော ထိုသူ (ရဟန်း)သည် မျက်မှောက်ဘဝ၌ပင် (ရဟန္တာဖြစ်လျက်) ချမ်းသာစွာနေရခြင်းအကျိုးငှာ ရှေ့သို့သွားလျှင်၊ နောက်သို့ဆုတ်လျှင်၊ တည့်တည့်ကြည့်လျှင်၊ စောင်းငဲ့ကြည့်လျှင်၊ လက်ခြေတို့ကို ကွေးလျှင်၊ ဆန့်လျှင်၊ သင်္ကန်းသပိတ်ကို ကိုင်ယူသုံးစွဲလျှင်၊ စားလျှင်၊ သောက်လျှင်၊ ခဲလျှင်၊ လျက်လျှင်၊ ကျင်ကြီး ကျင်ငယ်စွန့်လျှင်၊ သွားလျှင်၊ ရပ်လျှင်၊ ထိုင်လျှင်၊ အိပ်လျှင်၊ နိုးလျှင်၊ ပြောဆိုလျှင်၊ ဆိတ်ဆိတ်နေလျှင် အမှတ်ရလျက် မှန်စွာသိ၍ နေရာ၏။

(၁၉၉၂ ဩဂုတ်လထုတ် မူလမင်းကွန်းထေရုပ္ပတ္တိ စာ-၇၆)

မူလ မင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီးက စာတွေ့ လက်တွေ့ ပေါင်းစပ်ကာ တစ်နာရီခန့် ရှင်းပြခြင်းဖြင့် ကမ္မဋ္ဌာန်းနည်းပေးလိုက်တယ်။

မဟာစည် ဆရာတော် ဦးသောဘနသည် မင်းကွန်းဇေတဝန်ဆရာတော် ဘုရားကြီး ညွှန်ပြတော်မူသည့်အတိုင်း ထိုညဉ့်မှစ၍ မပြတ်မစဲ ရှိရှိသေသေ ရှုမှတ်အားထုတ်ခဲ့သည်။ သို့သော် အားထုတ်ကာစ ရက်အနည်းငယ် အတွင်း၌ 'သွားခြင်း၊ ရပ်ခြင်း၊ ထိုင်ခြင်း၊ လျောင်းခြင်း၊ ကွေးခြင်း၊ ဆန့်ခြင်း စသည်ကို ရှုမှတ်ရာမှ ဝိပဿနာအခြေခံလောက်သာဖြစ်မည်။ နောက်တစ်ဆင့်တက်၍ အားထုတ်ရန် နည်းသစ်များကိုလည်း ပေးလိမ့်ဦးမည်ဟု ထင်မြင်မျှော်လင့်ခဲ့သည်။ ထို့နောက် အတော်အသင့်အားထုတ်မိသောအခါကျမှ ကောင်းကောင်း သဘောပေါက်လာသည်။ ထိုအခါမှာ 'သွားခြင်း၊ ရပ်ခြင်းစသော ကိုယ်အမူအရာတိုင်းကို သိအောင်မပြတ် ရှုမှတ်ခြင်း၊ စိတ်အမူအရာတိုင်းကို ရှုမှတ်ခြင်းမှာ အစမျှသာမဟုတ်၊ အမှန် အားဖြင့်မူကား ဖြစ်ပေါ်တိုင်းသော ရုပ်နာမ်ဟူသမျှကို အမှန်အတိုင်း ပိုင်းခြား၍ သိနေသောကြောင့် ဝိပဿနာ၏ အစအလယ် အဆုံး သုံးပါးလုံးပင် ဖြစ်ပေသည်။ အခြားနည်းဖြင့် ပြောင်းလဲပြုပြင်၍ အားထုတ်ရန် မလိုတော့ပြီ'ဟု သဘောပေါက်လာပေသည်။

( မူလမင်းကွန်းထေရုပတ္တိ စာ-၇၇)

ထို့ကြောင့် မဟာစည်ဆရာတော်သည် နေ့ညမပြတ် အမှတ်ချင်းဆက်အောင် အားထုတ်လေရာ လေးလခန့်ကြာသွားသည်။ အကြောင်းထူးမရှိဘဲ စကားမပြော အားထုတ်၍သာ နေတော့သည်။ မအိပ်မနေအားထုတ်သော ရက်များ၊ နေ့လုံးပေါက် စင်္ကြံလျှောက်လျက် အားထုတ်သော ရက်များလည်း ရှိသည်။ ထိုသို့ ပြင်းထန်စွာအားထုတ်သော်လည်း ထိုလေးလအတွင်းမှာ နေမကောင်းထိုင်မသာ မကျန်းမာခြင်း လုံးဝမဖြစ်၊ နှာစေးခေါင်းကိုက်မျှပင် မဖြစ်။ ထိုသို့ ရောဂါတစ်စုံတစ်ရာမျှ မဖြစ်သည်ကို အံ့သြသောကြောင့် လျှောက်ထားကြည့်ရာ မင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီးက 'တရားအားထုတ်သူမှာ ဗောဇ္ဈင်တရားတွေဖြစ်ပွားနေကြောင်း၊ ထိုဗောဇ္ဈင်တရားတွေက ဖြစ်ပြီးသားရောဂါကိုတောင်မှ ပျောက်စေနိုင်ကြောင်း၊ ဗောဇ္ဈင်တရား၏ အစွမ်းကြောင့် ရောဂါကင်းနေသည်ဟု မှတ်ယူအပ်ကြောင်း' မိန့်ကြားတော်မူလေသည်။

ဤသို့ဖြင့် မဟာစည်ဆရာတော်သည် မင်းကွန်းဇေတဝန်ဆရာတော် ကြီး ညွှန်ပြသည့်အတိုင်း အားထုတ်ခဲ့ပါသည်။ သိလိုသမျှ ဓမ္မအရေး မေးမြန်း လျှောက်ထားမှတ်သားနာယူခဲ့ပါသည်။ နောင်သော် 'မဟာစည်ဆရာတော်'

ဟူ၍ ဂုဏ်သတင်းပျံ့နှံ့ထင်ပေါ် အထူးပင်ကျော်ကြားသော သာသနာပြု ဆရာတော်ကြီး ဖြစ်ခဲ့ပါတော့သည်။ ယနေ့မြန်မာကမ္ဘာအနှံ့ မဟာစည် သာသနာပြန့်ပွားထင်ရှားအားကောင်းခဲ့ခြင်း၏ မူလအစမှာ မင်းကွန်းဇေတဝန် ကျောင်း အောင်မြေဟု ဆိုသင့်ဆိုထိုက်ပါပေသည်။

(၂)

သစ်လွင်ခဲ့ညားသော တံတားကြီးပေါ် ဖြတ်လျှောက်ရတာ လွယ်သလောက် ထိုတံတားကြီး ဆောက်လုပ်ရသော အခက်အခဲများကား ကြီးမားပြင်းထန်လှပါသည်။ ထိုထိုသော ပကတိတံတားကြီးများကို ဆောက်လုပ်ပေးရသည်ထက် သံသရာမြစ်ကူးတံတားကို ဆောက်လုပ်ပေးရသည်က ပို၍ ခက်ခဲလှပါတော့သည်။ မြတ်စွာဘုရားသော်မှ လေးသင်္ချေနှင့်ကမ္ဘာတစ်သိန်းလုံး ဒုက္ခခံစား တံတားဆောက်တော်မူခဲ့ရသည်။ ဘုရားရှင်တော်၏ သာဝက အရှင်မြတ်ကြီးများကလည်း တံတားပေါင်းများစွာ ဆောက်လုပ်ပေးတော်မူခဲ့ကြသည်။ ဘေးအန္တရာယ်နှင့် ဒုက္ခအသွယ်သွယ် ပြုံတီးသော သံသရာမြစ်ကြီးပေါ် ဖြတ်ကျော်ကြပါကုန်လော့၊ လျှောက်လှမ်းကြပါကုန်လော့။

မြစ်တစ်မြစ်မှာ နှစ်ခါရေမချိုးနိုင်ဆိုသော်လည်း ကျွန်တော်တို့က သံသရာမြစ်ကြီးထဲ လျှောဆင်းကာ အကြိမ်ကြိမ်အခါခါ ရေချိုးနေကြသည်။ ရေသဘင်ပွဲ ဆင်နွှဲနေခဲ့ကြသည်။

ကျေးဇူးရှင် မူလမင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီးသည် မဟာသတိပဋ္ဌာန်တံတားကြီးတည်ဆောက်ရန်အတွက် အကြိမ်ကြိမ်ကြံဆလေ့ကျက်ခဲ့ရသည်။ ကိုယ်တော်တိုင်က ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ၊ ဂဏ္ဌိစသည့် ပရိယတ္တိအရာတွင် တစ်ဖက်ကမ်းခတ် ထူးချွန်တော်မူခဲ့ပြီးဖြစ်သည်။ စာနှင့်မျက်နှာမခွာသလောက်ရှိခဲ့သည်။ မင်းကွန်းတောင်ပေါ်ကြီးကျောင်းမှာ စာသင်စာချတာဝန်များကို စွမ်းစွမ်းတမံ ထမ်းဆောင်ခဲ့သည်။ လက်ပံတန်းမြို့ဆရာတော်ဦးဂန္ဓမာ၏ ကျောင်းမှာလည်း ပရိယတ္တိသာသနာကို တစ်ဝါမျှ ပို့ချချီးမြှောက်တော်မူခဲ့သည်။ လက်ပံတန်းမှ သပွါယ မမျှသဖြင့် အထက်အညာသို့ပြန်လာပြီး မင်းကွန်းအလယ်တောရဆရာတော်ထံ ခွင့်ပန်နေထိုင်ခဲ့ပြန်သည်။ အလယ်တောရမှာလည်း တိုက်တာတာဝန်များ၊ စာပေပရိယတ္တိတာဝန်များကို ကြိုးစားထမ်းဆောင်တော်မူခဲ့သည်။ သို့ပါသော်လည်း ထိုထိုများပြားလှသော တာဝန်တွေကြားကပင် ပဋိပတ်အကျင့်မြတ်လမ်းစဥ်ဆီသို့ မျှော်ရည်တမ်းတ စိတ်

က သွားနေသည်။ စာသင်စာချနေရုံမျှဖြင့် ရဟန်းကိစ္စပြီးဆုံးမည်မဟုတ်။ နိဗ္ဗာန်ရောက်မှ ရဟန်းကိစ္စပြီးဆုံးမည်ဟု တွေးမြင်လာသည်။ ဤတွင် အလယ်တောရဆရာတော် ဦးမဥ္ဇူထံချဉ်းကပ်လျက် 'နိဗ္ဗာန်ရောက်ရန် အကျင့်မှန်ကို နာခံလိုပါကြောင်း' တောင်းပန်လျှောက်ထားလေသည်။ ထိုအခါ အလယ်တောရကျောင်းဆရာတော်မှ 'ဝဋ်ဆင်းရဲဒုက္ခမှ မုချလွတ်မြောက်ပြီး မဂ်ဉာဏ်ဖိုလ်ဉာဏ်ကို နိဗ္ဗာန်ကို မျက်မှောက်ပြုနိုင်သော တရားကား သတိပဋ္ဌာန်အကျင့်သာ ဖြစ်ပေသည်။ ဤသတိပဋ္ဌာန်အကျင့်တရားကိုသာ မပြတ်ပွားများပါလေ'ဟု မိန့်မှာတော်မူသည်။

အလယ်တောရဆရာတော် ဦးမဥ္ဇူမှာလည်း ရဟန္တာဟု ကျော်ကြားသော ကင်းဆရာတော်၊ သီးလုံးဆရာတော်ကြီးများ၏ တပည့်ဖြစ်ကာ အပ္ပမာဒတရားလက်ကိုင်ထားကာ ကျင့်အားသန်လှသောကြောင့် အနာဂါမ်ဆရာတော်ကြီးဟု ယုံကြည်ကိုးစားခြင်းခံရသော ဆရာတော်ကြီး ဖြစ်ပေသည်။ ထို့ကြောင့် ပင် မင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီးအား နိဗ္ဗာန်လိုချင်လျှင် 'ဘူတံ ဘူတတောပဿတိ'နှင့်ပင် ရနိုင်ကြောင်း ပြတ်ပြတ်သားသား မိန့်ကြားခဲ့ခြင်း ဖြစ်ပေသည်။ ရုတ်တရက်သော် ဤမိန့်ကြားချက်မှာ လက်ခံနိုင်ဖွယ် မရှိ၊ လက်တွေ့လည်း ကျင့်မကြည့်ရသေးသောကြောင့် ဇေတဝန်ဆရာတော်သည် ပရိယတ်ကို လေ့လာသင်ကြားတော်မူလျက်ရှိသည်။ နိကာယ်ငါးရပ်၊ ပိဋကတ်သုံးပုံကို ချောက်ချားအောင်တတ်မြောက်ခဲ့ပြီးနောက် ပါဠိ၊ အဋ္ဌကထာ၊ ဋီကာ၊ ဂဏ္ဌိ စသည်တို့ကို အပြန်ပြန်အလှန်လှန် အဖန်ဖန်ရှေ့နောက်ညှိနှိုင်း၍ မွှေနှောက်ရှာဖွေခဲ့ရာတွင် ပဋိပတ်အရာ၌ 'ဘူတံ ဘူတတောပဿတိ'ဟူသော မိန့်ခွန်းနှင့် လွတ်ကင်းသောတရားကို လုံးဝမတွေ့ရချေသောကြောင့် အလယ်တောရကျောင်းဆရာတော်ဘုရားကြီး၏ ဂုဏ်ကျေးဇူးတော်ကို အတိုင်းမသိချီးကျူးသတိရမိလေသည်။

ထို့ကြောင့် သက်တော်(၃၇)မှစ၍ လူသူပရိသတ်ကိုရှောင်၍ အလယ်တောရမှ လေးဖာလုံခန့်အကွာတွင် တစ်ပါးစံကျောင်းကလေးဖြင့် ပတိပဋ္ဌာန်တရားတော်ကို အားထုတ်လေတော့သည်။ သို့သော် ထိုနေရာတွင် လုံလောက်သော စိတ်ငြိမ်ခြင်းကို မရရှိသဖြင့် သမုံးချပ်ချောင်သို့ပြောင်းကာ တစ်ပါးစံကျောင်းငယ်လေးတွင် ဧကစာရီ သီတင်းသုံးလျက် သုံးနှစ်လုံးလုံး မဆုတ်မနစ် မဖြစ်မနေ သေချင်သေ ဟူသောစိတ်ဖြင့် အားထုတ်လောရာ သဘာဝမွှေတို့

ကို ထိုးထွင်းသိမြင် မဂ်ရောက်ဖိုလ်ဝင် သတိပဋ္ဌာန် အပ္ပမာဒအကျင့်လမ်းစဉ်ကို မိမိဆန္ဒစိတ်တိုင်းကျဖြစ်ခဲ့ရသည်ဟု ကိုယ်တော်တိုင် မိန့်မြွက်တော်မူဖူးလေသည်။

( မူလမင်းကွန်းထေရုပ္ပတ္တိ စာ-၃၂ )

မင်းကွန်းဇေတဝန် ဆရာတော်သည် ကျင့်ကြံအားထုတ်ခြင်းနှင့် ပတ်သက်၍ လိုအင်ဆန္ဒပြည့်ဝခဲ့ပြီဖြစ်၍ ဝေနေယျများအတွက် တရားခွင်မှ ထွက်ခဲ့ပြီး သတိပဋ္ဌာန်လေးပါး အကျင့်တရားကို စတင်ဟောကြားတရားပြ လေတော့သည်။

'မြင်ရင်မြင်တယ်မှတ်၊ ကြားရင်ကြားတယ်မှတ် . . . " စသည်ဖြင့် သတိပဋ္ဌာန်အကျင့်တရားကို မြန်မာစကားဖြင့် အများနားလည်အောင် ဟောပြလေရာ အများပရိသတ်အဖို့ ငါးစိမ်းမီးတွေ့ဖြစ်ခဲ့ရလေသည်။ (တပည့်ရင်းချာမှစ၍ ထိုစဉ်အခါက နာလိုသူကျင့်လိုသူကို မဆိုထားဘိ၊ အမြင်အမျိုးမျိုးနှင့် သူခိုးကလူဟစ်သလို မရိုးသောတရားဟု အမှားကိုဝေဖန်ကာ ရယ်ဖွယ်ရာအနေနှင့် အထွေထွေပြောင်လှောင်ပြောဆိုကြသတဲ့)

(ထေရုပ္ပတ္တိ - စာ ၃၇)

သို့သော်ဆရာတော်ဘုရားသည် ဇွဲမလျော့၊ သတ္တဝါဝေနေယျတို့၏ အပါယ်ဘေးကြီးကို ရှုမြင်၍သနားသောစိတ်အစဉ်ဖြင့် အပါယ်ပိတ်၊ သတိပဋ္ဌာန် တရားတော်ကြီးကို ဆက်၍ဟောပြနေခဲ့သည်။ ဤသို့ဖြင့် တစ်နှစ်မျှကြာညောင်းခဲ့ပါသော်လည်း တရားဦးနာသူများမှာ ပြုတ်မနူးသော အရွတ်တုံးကြီးများ ပမာသာရှိလေသည်။ ဆရာတော်၏တရားကို ဟားတိုက်ပြောင်လှောင်မြဲရှိ ကြလေသည်။ ဆရာတော်ကား စိတ်ရှည်သည်းခံဇွဲသန်သန် ဆန္ဒပြင်းပြင်းဖြင့်သာ ဆက်၍ဆက်ကာ တရားပြပါသော်လည်း စိုးစဉ်းမျှအရာမထင်သောကြောင့် အလယ်တောရဝန်းကျင်မှ ဆုတ်ခွာ မွေးဇာတိရွာဘက်ဆီ ဦးတည်လိုက်သည်။ ဆွေမျိုးဉာတိတို့ကို တရားဖြင့် ကယ်တင် ချီးမြှောက်ရသော်ကောင်းလေစွ။

ထိုအချိန်၌ မင်းကွန်း ဇေတဝန်ဆရာတော်၏ ဥပဇ္ဈာယ်လည်းဖြစ်၊ နောင်ကော်လည်းတော်စပ်သော မန်ကျည်းစုတောရကျောင်း ဆရာတော်ဦးလက္ခဏာသည် မိမိထံ ဆင်ဖြူတော်တစ်စီး ဆိုက်ရောက်လာသည်ဟု အိပ်မက်မြင်မက်တော်မူသည်။ နီးစပ်သူများအား ဆင်ဖြူတော်အိပ်မက်ကို

ပြောပြခဲ့သည်။ သို့သော် ဝေနေယျတို့သည် ဆင်ဖြူတော်မှီပြီး ကြံမစုတ်တတ်ခဲ့ကြ။ မင်းကွန်းဇေတဝန်ဆရာတော် နီးနာရဒ ဇာတိရွာကန်ကြီးကုန်းသို့ ပြန်ကြွလာ၍ သတိပဋ္ဌာန်တရားများ ဟောကြားတရားပြလေရာ . . .

'သွား . . . သွားတယ်၊ ဝါး . . . ဝါးတယ်၊ စား . . . စားတယ်၊ မျို . . . မျိုတယ်၊ ဆို့ . . . ဆို့တယ်၊ တို့ . . . တို့တယ်၊ ဆိတ် . . . ဆိတ်တယ်' လို့ပင် သောင်တင်ရေမရ ပြောင်လှောင်ကာပြောဆိုကြသတဲ့။

ဆွေတော်မျိုးတော် ချစ်ကျွမ်းဖော်တို့၏ မလျော်ရှက်ဖွယ် ပြက်ရယ်ပြောင်ကြသော အရာများကား ဤမျှသာမဟုတ်သေး၊ 'ဒီဘုန်းကြီးဟာ သူများမဟောတဲ့ တရား ဟောလားဟောရဲ့၊ သူများမပြတဲ့ တရားပြလားပြရဲ့၊ သူများမပေးတဲ့ တရားပြလားပြရဲ့၊ သူများမပေးတဲ့ တရားပေးလားပေးရဲ့၊ သူများမကျင့်တဲ့ တရားကျင့်လားကျင့်ရဲ့' စသည်ဖြင့် မင်းကွန်းတစ်ခွင်အထူးဆန်းဆုံး သတင်းဖြစ်လျက်ရှိလေသည်။ ဆရာတော်ကမူ သည်းခံလျက် သူများမဟောဖူးတဲ့ တရားဟောတော့ မနာဘူးတဲ့တရားနာရတာပေါ့ကွယ်ဟုသာ နှစ်သိမ့်လျှက် 'သူတစ်ပါး မကျင့်သေးတဲ့ တရားကိုကျင့်မှ သူတစ်ပါး မသိမမြင်သေးတဲ့ တရားကို သိမြင်ရပြီး အကျိုးထူးခံစားရတာပေါ့ကွယ်'ဟု တည့်တည့်ကြီး မိန့်တော်မူလိုက်သတဲ့။

( မူလမင်းကွန်းထေရုပ္ပတ္တိ စာ-၃၉ )

မွေးဇာတိကန်ကြီးကျေးရွာအရှေ့ဘက် ကျောက်ပြုကုန်းတောရ၌ သီတင်းသုံးလျက် ဆွေမျိုးဉာတိတို့အား သာသနာပြုပါသော်လည်း လက်ခံသူတစ်ဦးတစ်ယောက်မျှ မပေါ်ပေါက်သဖြင့် ဂူကလေးချောင် အလယ်တောရမူလ တရားပြရာအနောက်တို့ကို ထင်ကြေးမပေါက်ဘဲ နောက်ဆုတ်ပြန်ခဲ့ရလေသည်။ ဆရာတော်၏ တရားလမ်းသစ်ကို ဘယ်သူကမှ လက်မခံသော်လည်း မင်းကွန်းတစ်ကွန်းလုံးနှင့် ချောင်အရပ်ရပ်သို့ကား ဆရာတော်၏ တရားလမ်းစဉ်သည် ပျံ့နှံ့ကျော်ကြားလျက်ရှိလေသည်။

ဤသို့လျှင် အများမကြိုက်သော်လည်း ထိုက်သူပန်သာဝကများလည်း ရှိနေသေးရာ မန္တလေးမြို့သူရဲ့ဈေးမှ ပွဲစားကြီး ဦးသစ်+ဒေါ်ကျော့ ဇနီးမောင်နှံတို့သည် သတိပဋ္ဌာန်တရားတော်၌ နာလွယ်ကျင့်လွယ်သူများဖြစ်ခဲ့ပါသည်။ မင်းကွန်းသို့ ဥပုသ်ရက်ရှည်လာစောင့်ရင်း ဆရာတော်ထံ သတိပဋ္ဌာန်တရားနာကြားမိရာမှ နာရုံနှင့်အားမရတော့ဘဲ လက်တွေ့ကျင့်ကြံအားထုတ်ရန် နည်း

ခဲ့ကြလေသည်။

'လှမ်းဆဲခဏ လှမ်းတယ်မှတ်၊ လှမ်းတိုင်း လှမ်းတိုင်း လှမ်းတယ်မှတ်'

'ရပ်ဆဲ တိုက်ဆိုင် လျှောင်း(အိပ်)ဆဲ စသည် နည်းတူမှတ်ရမည်'

ပါရမီရှင်တပည့်ထူးတို့၏ ဣန္ဒြေအမူအရာ ရုပ်လက္ခဏာများကို အမြဲမကွာ ကြည့်ရှု ပြုပြင်လျက်ရှိသော ဆရာတော်သည် တခါတစ်ရံ၌ ပိုင်းခြားမှတ်သားပုံများကို စစ်ဆေးမေးမြန်း၍ တစ်ခါတစ်ရံ၌ ထင်မြင်တွေ့ရှိပုံများကို ဝေဖန်ဆုံးဖြတ်ကာ မကြာမကြာ ယောဂီများ၏ အမူအရာကို ထောက်ထားပြီး စောင့်ရှောက်ပြုပြင်ခဲ့လေသည်။

(ထေရုပတ္တိစာ-၄၂)

ယောဂီများအား ရုပ်ပိုင်းဆိုင်ရာအားထုတ်စဉ်ကိုသာ ဦးစွာအားထုတ်စေခဲ့၏။ ရုပ်ကမ္မဋ္ဌာန်းအစဉ် အလေ့အလာတင်သော် နာမ်တရား အစဉ်အာရုံပြုလျက် အလိုလို ထင်စေခဲ့၏။

(က) ဖြစ်အောင်မပြုနဲ့၊ ပျက်အောင်လည်းမပြုနဲ့။
ဖြစ်တာ ပျက်တာ သိပါစေ။

(ခ) ဖြစ်အောင်ပြုတော့ လောဘ၊
ပျက်အောင်ပြုတော့ ဒေါသ၊
ဖြစ်ပျက်တာကို မသိတော့ မောဟ။

ဤကဲ့သို့ လွယ်ကူရှင်းလင်းသော တရားများကို ပွဲစားကြီးမောင်နံ့ လွန်စွာသဘောတွေ့ခဲ့ကြလေသည်။ မောင်နံ့မှတစ်ဆင့် လူသတင်းလူချင်းဆောင်ကာ ဦးညွန့်ဆိုသူ ဒါယကာလည်း ဆရာတော်ထံရောက်ရှိကာ သတိမလပ်မှတ်နေသော တရားလမ်းစဉ်အတိုင်း အားထုတ်ခဲ့ရာ သဘာဝအမြင်မှန် ဝိပဿနာဉာဏ်ကို ပိုင်ပိုင်ကြီး ရရှိခဲ့ပါတော့သည်။

မဂ်ဉာဏ်၊ ဖိုလ်ဉာဏ် နိဗ္ဗာန်ကို အမှန်ရနိုင်သော ကောယနမဂ်ခေါ် တစ်ကြောင်းတည်း၊ တစ်ခုတည်း မလွဲနိုင်သော ခရီးဖြစ်သော သတိပဋ္ဌာန်လေးပါး အပ္ပမာဒါအကျင့်တရားကို နာကြားခွင့်ရသော ဖြူးမြို့က ဒါယိကာမကြီးတစ်ဦးသည်လည်း ဆရာတော်၏ ရှေ့မှောက်ဝယ် လက်တွေ့အားထုတ်လေရာ ကျေနပ်လောက်သော ဉာဏ်အမြင်ကို ရခဲ့ပြန်ပါသည်။ ထို ဖြူးဒါယိကာမကြီးသည် လူဝတ်ကြောင်ဘဝမှ သီလရှင်ဘဝသို့ ကူးပြောင်းလျက် သူတော်ကောင်းတရားများ အားထုတ်လာပါသည်။ နောင်အခါ ဆရာကြီး ဒေါ်ကုသလ ဟူ၍

မော်လမြိုင်မြို့တွင် အထူးထင်ရှားခဲ့ပါသည်။

ထို့နောက် ကညွတ်ကွင်းမြို့မှ ဦးခင်ဆိုသော ဒကာကြီးသည်လည်း ဆရာတော်ကြီး ညွှန်ပြသည့်အတိုင်း အားထုတ်လေရာ သုံးလအတွင်း ဝိပဿနာ ဉာဏ်စဉ် ထင်မြင်၍ သဘာဝတရားတို့ကို သိမြင်ပိုင်းခြားနိုင်ခဲ့လေသည်။ ဦးခင်သည် နှစ်လများစွာဆက်၍ အားထုတ်လေရာ လိုအင်ဆန္ဒစိတ်တိုင်းကျသဖြင့် လူဖြစ်ရကျိုးနပ်ပြီဟု ဆိုကာ လူဝတ်ကြောင်ကို ပယ်စွန့်လျက် ဦးမေဓာဝီဟူသော ဘွဲ့တော်ဖြင့် သာသနာအသက် ဆက်ခဲ့ပြန်ပါသည်။

ကညွတ်ကင်း ဦးခင် (ဦးမေဓာဝီ)မှ တစ်ဆင့် မြို့လှ ဦးစံဒွန်းသည် မင်းကွန်းဇေတဝန်ဆရာတော်ဘုရား၏ တရားကို နာကြားခွင့်ရကာ ဆရာတော်ထံမှောက်အရောက် လာအားထုတ်ခဲ့ပြန်သည်။ ဝိပဿနာတရားဟူသည် ထင်ရှားဖြစ်ပေါ်နေသော ရုပ်နာမ်နှစ်ပါးကို အမြဲမပြတ် တရစပ်တည်းမှတ်နေရ၏ဟု အစချီကာ ဆရာတော်မှ တရားပြလေသည်။ ဦးစံဒွန်းလည်း ရိုသေလေးမြတ်စွာ မှတ်သား၍ အားထုတ်ခဲ့ရာ ဘာဝနာဉာဏ်များ တစ်ဆင့်မှ တစ်ဆင့်သို့ မြင့်တက်ခဲ့လေသည်။ ရှစ်လနီးပါးကြလေသော် သမာဓိအခြေခံ ရင့်သန်ကာ ဝီရိယမှန်မှန်နှင့် သတိပညာခြံရံပြီး ဝိပဿနာဘာဝနာဉာဏ်များ ရှိ၍လာရာ သိမ်မွေ့စွာသော အမြင်မှန်သို့ အစဉ်ဆိုက်ရောက်ခဲ့လေသည်။ ထိုအချိန်တွင် ဆရာတော်ဘုရားသည် ယောဂီ၏ ဣန္ဒြေကို ချင့်မျှော်၍ သင့်လျော်သော အာရုံသို့ ကူးပြောင်းရန်စီမံလေသည်။ ဦးစံဒွန်းအား နေပဲထဲ၌ စတုမဓုဆေး အမွှေခိုင်းလျက် မွှေသောအခါ လက်အမူအရာမွှေမှုကို အာရုံပြု၍ 'မွှေ . . မွှေတယ်' ဟု အပြတ်မလပ် ဆက်စပ်အောင်မှန်နေစေရာ ထိုခဏမှာပင် သမာဓိနှင့် ဝီရိယ၊ သတိနှင့်ပညာ ချိန်ကိုက်တူမျှ၍ သဘာအစဉ်တရားတို့အပေါ် ထင်ရှားသော ဉာဏ်အမြင်ရောက်ပြီး မဖောက်မပြန် အမှန်သိမြင် သူတော်စင်တို့ သက်ဝင်ယုံကြည်မြဲဖြစ်သော ရတနာသုံးပါး၌ ယုံမှားမှုများ ကင်းပျောက်ပြီး ဆရာနှင့်တကွ ကျင့်အပ်သော တရားများအပေါ်၌လည်း ဖျက်ဆီး၍မရ ခိုင်မြဲလှသော ဥပသကာဘဝသို့ ရောက်ရှိခဲ့လေသည်။

တရားအရ သိခဲ့ပြီဖြစ်သော ဦးစံဒွန်းသည် မင်းကွန်းမှ မြို့လှအပြန် သတိပဋ္ဌာန်တရားလမ်းစဉ်ကို ဖြန့်ဝေလေသည်။ အချို့ကား လက်ခံ၊ အချို့ကား ငြင်းဆန်ဖြင့်။ လက်ခံသူများက မင်းကွန်း ဇေတဝန်ဆရာတော်ထံ အရောက်သွားအားထုတ်ကြပြန်သည်။ မိမိ၏ ဆွေမျိုးရင်းချာတစ်ယောက်တစ်

လေကမှ လက်မခံသော သတိပဋ္ဌာန် သံသရာမြစ်ကူးတံတားကြီးပေါ်မှာ လျှောက်သူ၊ ရောက်သူ၊ ပေါက်သူများဖြင့် စည်ကားစပြုခဲ့လေပြီ။

(၃)

သို့သော်လည်း မင်းကွန်းဇေတဝန်ဆရာတော်ဘုရား၏ တရားသည် အဝေဖန်ခံရဆဲရှိလေ၏။ မြတ်စွာဘုရားသော်မှ ပုဂ္ဂိုလ်ရေးစွပ်စွဲသိက္ခာချမှုများ၊ ဝါဒပြိုင်ပွဲများ ကြုံတွေ့တော်မူခဲ့ရ၏။ ယခုလည်း . . . 'လှမ်းရင် လှမ်းတယ်မှတ်၊ ရပ်ရင်ရပ်တယ်မှတ်တဲ့၊ ဘယ်နှယ့်တရားလဲ၊ ကိုယ်သွားတာ ကိုယ်မသိဘဲ ရှိပါ့မလား၊ ဒီလိုမျိုးအသိတော့ သူလည်းသိ၊ ငါလည်းသိ၊ ခွေးလည်းသိ၊ ဝက်လည်းသိတာပဲ၊ ခွေးသိဝက်သိတရားအားထုတ်နည်းပေါ့' စသည်ဖြင့် ပြင်းပြင်းထန်ထန်ဝေဖန်ကဲ့ရဲ့ကြလေသည်။

သတိဖြင့် သိနေခြင်းသည် ခွေးသိ ဝက်သိနှင့် မတူကြောင်း မင်းကွန်းဇေတဝန်ဆရာတော်ကြီးက သုတ်မဟာဝါ အဋ္ဌကထာကို ကိုးကား၍ ဤကဲ့သို့ ရှင်းလင်းတော်မူခဲ့ပါသည်။

ခွေး၊ မြေခွေး အစရှိကုန်သော တိရစ္ဆာန်တို့သည်လည်း သွားကုန်သည်ရှိသော် သွား၏ဟူ၍ သိကုန်၏။ ထိုသို့ သိသော်လည်း တိရစ္ဆာန်သိသော သဘောရှိသော သိခြင်းကို ရည်၍ ထိုသိခြင်းကို မဟောအပ်။ တိရစ္ဆာန်တို့ သိခြင်းသည် သတ္တဝါအယူကို မစွန့်၊ သတ္တဝါအမှတ်ကိုမခွာ၊ ဝိပဿ ကမ္မဋ္ဌာန်းလည်း မဖြစ်၊ သတိပဋ္ဌာန်လည်းမဖြစ်၊

ယောဂီရဟန်း၏သိခြင်းသည် အတ္တအယူကိုစွန့်၏။ သတ္တဝါအမှတ်ကို ခွာ၏။ ဝိပဿနယကမ္မဋ္ဌာန်းလည်း ဖြစ်၏။ သတိပဋ္ဌာန်ဘာဝနာလည်း ဖြစ်၏။

(မင်းကွန်းဝိပဿနာဉာဏသူဒနီ စာ ၃၂၄၊၃၂၅ ရှု)

'သွားတယ်'ဟူသော အမှတ်ကို မှတ်သည်ဆိုပါစို့။ ဘယ်သူသွားသနည်း။ ဘာကြောင့် သွားသနည်း။

'တစ်စုံတစ်ယောက်သော သတ္တဝါသည်မသွား၊ ပုဂ္ဂိုလ်သည်လည်း မသွား၊ စိတ္တဇဝါယောဓာတ်လှုပ်ရှားခြင်းကြောင့် သွားအံ့ဟူသော စိတ်အကြံသည် ဖြစ်၏။ ထိုစိတ်သည် လေကို ဖြစ်စေ၏။ လေသည် မိမိသူတစ်ပါး နှစ်ပါးစုံကို သွားတယ်ဟု သိစေတတ်သော ဝိညာဏ်ကို ဖြစ်စေ၏။ စိတ်ကြောင့်ဖြစ်သော ဝါယောဓာတ်လှုပ်ရှားခြင်းကြောင့် တစ်ကိုယ်လုံး၏ ရှေ့သို့ဆောင်သည်ကို

သွား၏ဟူ၍ ဆိုအပ်၏။ ရပ်ခြင်း၊ အိပ်ခြင်း၊ ထိုင်ခြင်းတို့သည်လည်း ဤနည်းကဲ့သို့သော နည်းပင်တည်း။

(ဧင်း၊ စာ ၃၂၆)

စာလေးအုံ့စိုး၍ ပါဠိစာသားများ ခွင်းချန်၍ စကားပြေဖြင့်သာ ဖော်ပြလိုက်ပါသည်။ ဤသို့လျှင် ဟုတ်တိုင်းမှန်ရာ တင်ပြပါသော်လည်း တစ်ယူသန်သမားတို့က ဝေဖန် ချေချွတ်လျက်သာရှိကြလေသည်။

'ဘာဝနာဉာဏ်သိနှင့် ဒေသနာတော်သိကား အသိချင်းတူသော်လည်း သဘောအားဖြင့် ကွဲပြားလျက်ရှိကြသည်။ ဒေသနာအတန်တန် ကျမ်းဂန်အားလုံး သိမ်းကြုံးသိစေကာမူ သဘာဝတရားတို့၌ တိကျသောအသိမျိုးမဖြစ်နိုင်၊ ဘာဝနာဉာဏ်ကား တိကျသော အသိမျိုးကို ဖြစ်နိုင်လေသည်။ ဥပမာအားဖြင့် သစ္စာလေးပါးကို ဒေသနာတော်အရ ပိုင်းခြား၍ သိသော်လည်း ပရမတ္ထအရိယာများ၏ ပိုင်းခြားသိသော အသိမျိုးမဟုတ်သော ဒေသနာကျမ်းဂန်ကို သင်အံလေ့ကျင့်မှုမရှိ၍ သစ္စာလေးပါးသရုပ်အားဖြင့် ပိုင်းခြားမသိသော်လည်း ဝိပဿနာ ဘာဝနာဉာဏ်အဆင့်ဆင့် မဂ်ဖိုလ်လမ်းပွင့်လျက်လေးချက်သော သစ္စာကို ဟုတ်မှန်စွာ ပိုင်းခြားသိသူကို ပရမတ္ထအရိယာဟု မည်ပြု သတ်မှတ်ခေါ်ဝေါ်အပ်ပေ၏။

(ထေရုပတ္တိ၊ စာ-၈၁)

သို့သော် ငါးသည်မများကပင် ငါးကိုအလေးနှင့်ထု၍သတ်ရာ၌ ကိုင်တယ်၊ ထုတယ်၊ သတ်တယ်ဟူ၍ ပြောင်လှောင်ခြင်းခံခဲ့ရပါသည်။ မည်သို့ပင်ဖြစ်စေ သတိပဋ္ဌာန်အောင်လံတော်ကြီးကား တလူလူလွင့်လျက်၊ ရွှေသို့ ခရီးနှင်လျက်။

'ဣရိယာပုတ် ၄ ပါး၊ တစ်ပါးတစ်ပါး၌ဖြစ်သော ခဏခဏ ဤနည်းနှင်နှင် အသွားအပြန် ရုပ်နာမ် ၂-ပြင်ကို မလစ်မလပ်ဉာဏ်အစဉ်မပြတ်အောင် သတိအမှတ်ပြုသော ဂေါစရသမ္ပဇဉ်သည်သာလျှင် ဝိပဿနာအထွတ်အထိပ်သို့ ရောက်၏'

ပုထုဇဉ်လောကကြီးကား မှားယွင်းပျက်စီးမှုဖြင့် ကျန်ခဲ့သည်။

'ဘုရားဟောကိုရှေ့ပြု စေ့စေ့ကြီးရှုမိသဖြင့် မိမိသဘော သူရောကိုယ်ပါ တစ်ယောက်ယောက်က ပုထုဇဉ်ဖြစ်ခဲ့ပါလျှင် အသွားအလာအတူများ၊ အထွက်အဝင်အတူများ၊ အတွေ့အကြုံအတူများ၊ အနေအထိုင်အတူများ၊ အတူအိပ်အတူသွား၊ အပြောအဆိုအတူများ၊ ကြံရည်ဖန်ရည် အမူအရာတွေ

အတူများခဲ့လျှင် အမိနှင့်သား မှားယွင်းပျက်စီး၏။ အဖနှင့်သမီး မှားယွင်းပျက်စီး၏။ မောင်နှင့်နှမ မှားယွင်းပျက်စီး၏။'

(မင်းကွန်းဝိပဿနာ ဉာဏသူဒနီ စာ-၃၂၀)

ပုထုဇဉ်လောကသည်ကား နေရဲစရာမရှိလောက်အောင် ကြောက်စရာကောင်းခဲ့လေပြီ။ ထို့ကြောင့် ဝိပဿနာ၏ တည်ကြည်မှုဖြင့်သာ လွတ်မြောက်ရာ အားသစ် ပို့ဆောင်လေ၏။ မင်းကွန်းဇေတဝန်ဆရာတော်၏ ဝိပဿနာကွန်ရက်သည် အမြို့အမြို့အနယ်နယ်သို့ စတင်ဖြန့်ကျက်နိုင်ခဲ့ပြီ။ ၁၂၇၃ (သို့မဟုတ်) ၁၂၇၅ ခုတွင် လူယောဂီတပည့်များ၏ ပင့်လျှောက်ချက်အရ မြို့လှမြို့ ဗိုလ်တဲကုန်း ကမ္မဋ္ဌာန်းဌာနသို့ ကြွရောက်ကာ တရားဟော တရားပြလေသည်။ ဆရာတော်၏ဂုဏ်သတင်း နီးဝေးနှစ်ဌာနတို့၌ ထင်ရှားကျော်ကြားခဲ့လေပြီ။ မြို့လှကမ္မဋ္ဌာန်းဌာနမှ ဆက်စပ်ရာ တပည့်များ၏ ပင့်ဖိတ်မှု ကြောင့် တရားဟော(ပဋိပတ်သာသနာပြု)ထွက်ခဲ့သော ဌာနများကား ရေတာရှည်၊ သာရ၊ ဆွာ၊ တောင်ငူ၊ ဖြူး၊ ဒိုက်ဦး၊ ညောင်လေးပင်၊ ရွှေကျင်၊ ပဲနွယ်ကုန်း၊ ကညွတ်ကွင်း၊ ပဲခူး၊ မအူပင်၊ နတ္တလင်း၊ ကြို့ပင်ကောက်၊ ရွှေတောင်၊ ပြည်၊ ဟင်္သာတ၊ ရေနီ၊ ဇလာ၊ ပျဉ်းမနား၊ ပျော်ဘွယ် စသည့်မြို့ ရွာဌာနပေါင်းများစွာသို့ ဝိပဿနာတရားမိုးကြီး သွန်းဖြိုးတော်မူနိုင်ခဲ့ပါသည်။ လက်ပံတန်းဦးပညာဇောတ၏ကျောင်း၌ကား ကမ္မဋ္ဌာန်းဌာနဖွင့်လှစ်၍ တရားပြရသည်အထိ အောင်မြင်ခဲ့လေသည်။

အောင်မြင်မှုများ သီးပွင့်ခဲ့သကဲ့သို့ အမွေအနှောက် ပိုးလောက် အကိုက်ခံရတာများလည်း ရှိခဲ့ပါ၏။ လူနတ်ပြဟ္မာ သတ္တဝါပေါင်းတို့က သောင်းသောင်းဖြဖြ အပူဇော်ခံရသော မြတ်စွာဘုရားသော်မှ ဒေဝဒတ်၏ မကောင်းကြံမှုခံရလေသကဲ့သို့ မင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီးသည်လည်း ရွှေကျင်မြို့တွင် အဆန့်ကျင်ခံရလေသည်။ ဆရာတော်ဘုရား၏ တရားတော်များကို မကျေလည်သူ လူတစ်စုက စောဒကအမျိုးမျိုးတက်၍ မေးချက်များကို ဖြေရှင်းသော်လည်း မကျေမနပ်ဖြစ်ကြလေသည်။ ဇေတဝန်ဆရာတော်သည် အမြင်မှန်မရရှာသော သတ္တဝါတို့ကို သနား ကရုဏာဖြစ်လျက် ခန္တီဗမ္မဖြင့် အခက်အခဲများကို ကျော်ဖြတ်ခဲ့ပေသည်။

'မျက်စိအဆင်းကိုမြင်သော ခဏသောကာလမှာ ဝိပဿနာကို အားထုတ်သူတို့၏ အသိအမှတ်ဖြင့်သာမှတ်၍ စက္ခုန္ဒြေကို စောင့်ရှောက်သော သီလ၊

မမေ့မလျော့သော သတိ၊ သိသော ဉာဏ်၊ သည်းခံသော ခန္တီ၊ အားထုတ်သော ဝီရိယ၊ ဤတရားငါးပါး ဖြစ်သည်ရှိသော် စကျွန်ုပ်ကို စောင့်ရှောက်သည် မည်၏။ ဒွါရတခါး လုံခြုံသည် မည်၏။ ဘဝင်စိတ် ဝီထိစိတ် လုံခြုံသည် မည်၏။ လောဘ၊ ဒေါသ၊ မောဟတည်းဟူသော သူခိုး မဝင်နိုင်၊ ကုသိုလ်တည်းဟူသော ဥစ္စာထုပ်ကို လုမယူသည်မည်၏။ သဘောအားဖြင့် ဖြူစင်ကြည်လင် သန့်ရှင်းသော အာဝါသိကဖြစ်သော ဘဝင်စိတ်၊ ဝီထိစိတ်သည်လည်း ဧည့်သည် အာဂန္တုကဖြစ်သော လောဘ၊ ဒေါသ၊ မောဟ၊ ကိလေသာအညစ်အကြေးဖြင့် မညစ်ညူးမလူးလဲ မပေရေ မလိမ်းကျံသည် မည်၏။

(ဝိပဿနာ ဉာဏသူဒနီ စာ-၃၀၆)

စာရေးပုံ ကျစ်လျစ်၍ ဩဇာခတ်ကြီးလှပါသည်။ မင်းကွန်းဇေတဝန်ဆရာတော်၏ ဓမ္မဩဇာသည် အမွှေအနှောက်များကြားမှ တစ်နေ့တစ်ခြားကြီးမား၍ လာခဲ့သည်။ မြို့လှမှ မော်လမြိုင်သို့ကြွရာ သထုံဘူတာအရောက်တွင် ဦး ကေလာသမှ ကြားဖြတ်ပင့်ဆောင်၍ သထုံမှဆင်းကြွတော်မူရသည်။ သထုံမြေ ခြေချရခြင်း၏ ထူးကဲသော အကြောင်းရင်းလည်း ရှိပေလိမ့်မည်။ ဦးကေလာသမှာလည်း စိတ်ရင်းစေတနာ လွန်စွာရိုးဖြောင့်၍ မှန်ရာကို နောက်မဆုတ်စတမ်း လုပ်ဆောင်တတ်သော ရဟန်းတော်ဖြစ်၏။ မင်းကွန်းဇေတဝန်ဆရာတော်၏ ဂုဏ်သတင်းတို့ကိုလည်း ကြည်ညိုရင်းစွဲရှိသည့်အလျောက် ဝိပဿနာ တရားစစ် တရားမှန်၏ အထောက်အမကို ကိုယ်တိုင်လည်းရ အများသို့လည်း ဝေငှလိုသော စေတနာဖြင့် မင်းကွန်းဇေတဝန်ဆရာတော်ကို မရရအောင် ပင့်ဆောင်ခဲ့ခြင်းဖြစ်ပေသည်။ (ဦးကေလာသမှာ နောင်အခါ ပဲခူးဆံတော်အတွင်း ဆရာတော်၊ ရွှေကျင်နိကာယဂိုဏ်း၏ မဟာနာယကဆရာတော်အဖြစ် ကျော်ကြားခဲ့ပါသည်။)

မင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီးလည်း ရောက်မဆိုက်ပင် တရားဟော တရားပြလေရာ တစ်ယောက်ကစ တစ်ရာ တစ်နေ့တခြားတိုးပွားများပြားစည်ကားလာလေတော့သည်။ ခေတ္တတည်းခိုရာ မေဃဝန်အောက်တိုက် စကြိုကျောင်းနှင့် မဆန့်အောင်ရှိခဲ့လေသည်။ ထို့နောက် မြေလှူသူများ၊ ကျောင်းဓမ္မာရုံများလည်း နတ်ဖန်ဆင်းသကဲ့သို့ လျင်မြန်စွာ ဖြစ်ပေါ်လာခဲ့လေတော့သည်။ ဤသို့ဖြင့် သတိပဋ္ဌာန်အကျင့်မြတ် အပ္ပမာဒတရားလမ်းစဉ် ဝိပဿနာ တရားတော်ကြီးစတင်ရာ သထုံမြို့ မူလမင်းကွန်းဇေတဝန်ကျောင်း

တော်ကြီး ပေါ်ပေါက်လာခဲ့ရပါသည်။ များပြားလှသော ယောဂီများကို ဝိပဿနာ တရားတော်ဖြင့် ဤနေရာမှ ချီးမြှောက်ကယ်တင်တော်မူခဲ့ရာ မင်းကွန်း ဇေတဝန်ဆရာတော်ဘုရားကြီး၏ ထင်ရှားသော နိဿည်းခံတပည့်များမှာ

၁။ ဦးကေလာသဆရာတော်
ဆံတော်တွင်းကျောင်းတိုက်၊ ပဲခူး။

၂။ ဦးဝိသုဒ္ဓဆရာတော်
ရန်ကုန်မင်းကွန်းဌာနနှင့် အင်းစိန်မင်းကွန်းဌာန။

၃။ မဟာစည်ဆရာတော် ဦးသောဘန
ရန်ကုန်သာသနာ့ရိပ်သာ။

၄။ ရွှေဂူဆရာတော် ဦးဝဏ္ဏ
သထုံသာသနာ့ရိပ်သာ။

၅။ တောင်ပုလုဆရာတော် ဦးနန္ဒိယ
မိတ္ထီလာ။

၆။ ဦးနရိန္ဒဆရာတော်
ခံတော၊ ချောင်းဦး။

၇။ ဦးပဏ္ဍိတဆရာတော်
ကမ်းရင်တောရ၊ မကွေး။

၈။ ဦးဇောတိကဆရာတော်
ကျီးတော၊ တောင်ငူ။

၉။ ဦးသုန္ဒရဆရာတော်
ရွှေပြေသာရိပ်သာ၊ ပျော်ဘွယ်။

၁၀။ ဦးပဏ္ဍဝဆရာတော်
မြို့ပေါက်သတိပဋ္ဌာန်တိုက်၊ မော်လမြိုင်။

အထက်ပါ ဆရာတော်ကြီးများမှတစ်ဆင့် ပဋိပတ္တိသာသနာတော်ကြီး သည် တစ်ပြည်လုံးသို့ ထွန်းလင်းတောက်ပစေခဲ့ပါသည်။ ဆရာတော်ကြီး၏ ထေရုပ္ပတ္တိကို ပြုစုခဲ့သော တောင်တွင်းဘိက္ခု အရှင်တိက္ခာစာရ (ဒုတိယ မင်းကွန်းဇေတဝန်ဆရာတော်) မှလည်း ဆရာတော်ကြီး မြင်တွေ့လိုသည့် အတိုင်း အပ္ပဂဒတရားလမ်းစဉ်ကို မြှင့်တင်ပြုစုတော်မူသွားခဲ့ပါသည်။

(၄)

မင်းကွန်း ဇေတဝန်ဆရာတော်ဘုရားသည် သထုံ၌ ၁၀ နှစ်နီးပါး တရားဟော တရားပြုအလုပ်ကို အားပါးတရ ဆောင်ရွက်တော်မူပြီးသောအခါ ငယ်စဉ် ရဟန်း(၆) ဝါ ဘဝက ဖြစ်ပေါ်ခဲ့သည် ဆန္ဒသည် ပြန်လည်နိုးကြားလာခဲ့ပြန်သည်။ ထိုဆန္ဒကား အခြားမဟုတ်၊ ပဋ္ဌာနပဒေသ ပါဠိတော်ကို အဖွင့်ကျမ်းရေးလိုခြင်းပင်တည်း။ ထို ပါဠိတော်ကြီးကို အဖွင့်ရေးရန်အတွက် မင်းကွန်းသို့ ပြန်ကြွတော်မူလေသည်။ သထုံမှာ ပရိသတ်လူသူများပြားလှသဖြင့် စာရေးရန် အခြေအနေမပေးခဲ့ပေ။ ထို့ကြောင့် မင်းကွန်းသို့ တိတ်တဆိတ်ကြွတော်မူရသည်။ မင်းကြီး ဦးဘိုးစ သိသွားပြီး ဇွတ်တားသော်လည်း မင်းကွန်းသို့ အရောက်ကြွခဲ့ပါတော့သည်။ ပွဲစားကြီး ဦးသစ်+ ဒေါ်ကျော့တို့ လှူဒါန်းသော ဆိတ်ငြိမ်ကျောင်းကလေး၌ တစ်ပါးတည်း သီတင်းသုံးလျက် အဋ္ဌကထာရေးရန် ရည်သန်တော်မူလေသည်။ မိမိရေးသားစီရင်လိုသော အဋ္ဌကထာကျမ်း၏ ပဋ္ဌာနပဒေသပါဠိတော်ကျမ်းရင်းကို နှုတ်၌အရဆောင်လျက် ပိဋကတ်သုံးသွယ်၊ နိကာယ်ငါးဖြာ၊ အဋ္ဌကထာ၊ ဋီကာ၊ ဂဏ္ဌိတို့ဖြင့် အလီလီတိုက်ဆိုင် ညှိနှိုင်းခဲ့ပါသည်။

မှတ်ချက်။ ။ ဤပဋ္ဌာနပဒေသအဋ္ဌကထာကျမ်းကို ရေးသားစီရင်ရာ၌ နှုတ်ထဲတွင် အာဂုံဆောင်၍ ရေးသားစီရင်ခဲ့ရာ လေးနှစ်ခန့်ကာလတိုင်ပင် နှုတ်တွင်ဆောင်လျက် မနှစ်သက်ရာ ပုဒ်၊ ပါဌ်၊ အက္ခရာ ဝါကျများကိုပါ သုတ်သင်ရှင်းလင်းစင်ကြယ်စေရန် အဖန်ဖန်စိစစ်တော်မူခဲ့ပြီး စိတ်တိုင်းကျ အလိုပြည့်ဝမှ စာရွက်ပေါ်တင်၍ စီရင်ရေးသားခဲ့သည်ဟု ကျေးဇူးရှင် အဋ္ဌကထာဆရာမြတ်ကြီး ကိုယ်တိုင်မိန့်ကြားတော်မူခဲ့လေသည်။ ပြိုင်ဘက် တုဘက်နှိုင်းဘက်ကား ရှာမှရှား ဖြစ်တော်မူသော၊ ဝီရိယနှင့် ဉာဏ်စွမ်းတော်ကို ထုတ်ဖော်ပြောပြမဆုံးနိုင်အောင် အနန္တဂုဏ်တော်ရှင်ကြီးဖြစ်ပါပေသည်။ ဤအဋ္ဌကထာကျမ်းကြီး ပြီးစီးသောနှစ်ကား ၁၂၈၆ ခုနှစ်ဖြစ်၏။ ပုံနှိပ်ပြီးစီးသောခုနှစ်မှာကား ၁၂၈၈ ခုဖြစ်၍ ရေးသားသောကာလနှင့် ပြီးစီးသော ကာလမှ လေးနှစ်ခန့်ကြာ၍ သက်တော်(၅၂)နှစ်လောက်မှ ရေးသားစီရင်သည်ဟု တွက်ချက်ရပါသည်။

(ထေရုပတ္တိ စာ-၉၀)

မန္တလေးတောင်ရသေ့ကြီး ဦးခန္တီသည် ဆရာတော်ကြီး၏ ခွင့်ပြုချက်အရ စန္ဒာမုနိဘုရား၌ (၂၈)ချပ်မျှသော ကျောက်စာများပေါ်ဝယ် အက္ခရာရေးတင်၍ ဤကျမ်းကြီးကို စိုက်ထူလှူဒါန်းတော်မူပါသည်။ မင်းကွန်းဇေတဝန်ဆရာတော်ကြီး၏ တစ်ဘဝသာသနာတွင် ကျမ်းကြီးကျမ်းငယ်ပေါင်း (၂၅)စောင်မျှ ရေးသားခဲ့ရာ သက်တော်(၇၀)ပြည့်ချိန်တွင် 'မိလိန္ဒပဉှာအဋ္ဌကထာ'ကိုလည်းကောင်း၊ သက်တော် (၈၄)တွင် နောက်ဆုံး နိဂုံးကျမ်းစာအုပ်အဖြစ် 'ဖလသမာပတ်စာတမ်း'ကိုလည်းကောင်း ရေးသားပြုစုတော်မူခဲ့သည်။ မိလိန္ဒပဉှာအဋ္ဌကထာတွင် ဘိက္ခုနီအရာနှင့် ကထိန်အရာတို့ကို ထိုထိုအရာတို့ အလိုမကျဖြစ်ကာ ရှုပ်ထွေးသော ပြဿနာများပေါ်ပေါက်၍ လာသဖြင့် 'ကထိန်နိသျ' ကျမ်းကို ရေး၍ တုံ့ပြန်ဖြေရှင်းတော်မူခဲ့ရသည်။ တရားပြရာတွင်လည်းကောင်း၊ စာပေရေးသားရာတွင်လည်းကောင်း အတိုက်အခံမကင်းခဲ့ပေ။ မည်သို့ပင်ဖြစ်စေ ပရိယတ္တိ၊ ပဋိပတ္တိ၊ ပဋိဝေဓ သာသနာတော်ကြီး သုံးသွယ်သည် မူလမင်းကွန်းဇေတဝန်ဆရာတော်ကြီးမှာ စုဝေးပေါင်းဆုံလျက်ရှိသည်ကို ကြည်ညိုမဝနိုင်အောင် ဖူးတွေ့ခဲ့ရပါသည်။

ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် သက်တော် (၈၅)နှစ်သို့ရောက်ချိန် ၁၃၁၆ ခုနှစ်၊ တပေါင်းလဆန်း(၃)ရက်နေ့ (၁၀)နာရီအချိန်ခန့်တွင် ရှင်လူအများ အားရပါးရဖူးကြစေရန် ဓာတ်ပုံအရိုက်ခံတော်မူသည်။ နာမကျန်း ဖြစ်တော်မူခဲ့သည်မှာလည်း ခြောက်လခန့်ရှိခဲ့ပြီ။

'တို့သေခါနီးပြီ'

'တို့ ဒီနှစ်မလွန်တော့ဘူး' ဟု ကြိုတင်မိန့်ကြားခဲ့သည်။ ၁၃၁၆ ခု၊ တပေါင်းလပြည့်ကျော် (၁၀)ရက်၊ သောကြာနေ့ (၁၂)နာရီ မွန်းတည့်ချိန်တွင် ကျေးဇူးရှင် ဆရာတော်ဘုရားကြီး ခန္ဓာဝန်စွန့်တော်မူလေသည်။ ဆရာတော်ဘုရားကြီး၏ ဥတုဇရုပ်ကလာပ်တော်သည် (၂၁)ရက်တိုင်တိုင် မပုပ်မသိုးဘဲ ပကတိသော အသွေးတော် အသားတော်တို့ဖြင့် ကျိန်းစက်နေဟန် ဖူးမြင်ခဲ့ကြရလေသည်။

ခန္ဓာဝန်စွန့်ပြီး(၃)ရက်အကြာမှာပင် ငါးပေခန့်ရှည်သော မြွေတစ်ကောင်သည် အလွန်ရှုပ်ထွေးနေသော လူအုပ်ကြီးအကြားမှ ထိုးဖောက်ဝင်ရောက်လာကာ အလောင်းတော်ရှိရာ စင်မြင့်သလွန်ထက်သို့ တက်ရောက်ကာ အလောင်းတော်၏ ခြေရင်းမှာရပ်တည်လျက် ခေါင်းလည်း တညိတ်ညိတ်နှင့်

ဦးနှိမ်ချလေသည်။ ထိုမြွေသည် တစ်နာရီကျော်ကြာအောင် အားပါးတရကြီး ဖူးမြော်သွားခဲ့လေသည်။ ဆရာတော်ဘုရားကြီး၏ အလောင်းတော်မှာ ဖူးရောင် ပုပ်ပွ၊ အရည်ထွက်ခြင်းမရှိ၊ ပကတိ သွေးသားတော်များအတိုင်းသာ အဖူး ခံလျက်ရှိပေသည်။ တန်ခူးလပြည့်နေ့၌ မီးသဂြိုဟ်ရန်ပြင်ဆင်ပြီးသော်လည်း လူထုပရိသတ်ကြီး၏ တောင်းပန်ချက်အရ အထမမြောက်ခဲ့တော့ပေ။ ကဆုန် လဆန်း(၈)ရက်နေ့သို့ ရောက်မှသာ မိတ္ထီလာ တောင်ပုလုဆရာတော်ကြီးနှင့် နောက်ပါသံဃာတော်များ ကြွရောက်လာပြီး စည်းဝေးတိုင်ပင်၊ မဲခွဲဆုံးဖြတ် ချက်အရ ထိုနေ့နံနက်(၇)နာရီအချိန်၌ မီးသဂြိုဟ်ခွင့်ရလေသည်။

'ထူးခြားသော လက္ခဏာကား လူထုများစွာဝန်းရံကာလျက်ရှိသော အလောင်းတော်ကို မီးသဂြိုဟ်သော မီးပုံကြီးသည် အညှော်အသင်း နံခြင်း မရှိဘဲ အလောင်းတော်မှာလည်း ကုန်းကွတွန့်လိမ်မှု မတွေ့ရ။ မူလထားရှိ သည့်အတိုင်းသာလျှင် ယိမ်းယိုင်ခြင်းမရှိ၊ ခိုင်ခိုင်တောင့်တင်း အလျင်းပင် မရွေ့လျားဘဲ မီးစွဲ၍ လောင်ကျွမ်းငြလေသည်။ မီးပုံကြီးအတွင်းမှ ထွင်းဖောက် ၍ တက်လာသော ပြောင်တဝင်းဝင်းနှင့် အရောင်အဆင်းတို့ကား ထူးထူးဆန်း ဆန်း အံ့မခန်းလှပသော ဖြူရောင်၊ ပြာရောင်၊ ဝါရောင်၊ ညိုညောင်၊ ခိုရောင်၊ စိမ်းရောင်၊ နီးမြန်းသောအရောင်တွေ ရောယှက်လျက် ထွက်လာလေရာ ကြည်နူးကြေကွဲ ဝမ်းနည်းဖွယ်ရာ အဖြာဖြာတို့ဖြင့် . . .။

(ထေရုပတ္တိစာ-၁၁၆)

(၅)

'အဲဒါ ဆရာတော်ဘုရားကြီးရဲ့ ဓာတ်တော်တွေပဲ၊ ဖူးကြ . . ဖူးကြ'

ဆရာတော်လေး ဦးတိလောကက ညွှန်ပြသော ဓာတ်တော်များကို ကျွန်တော်တို့ ရိုသေလွမ်းဆွတ်လှစွာ ဖူးမြော်ကြပါသည်။ ဆရာတော်ဘုရားကြီး ၏ ပုံတော်ပန်းချီကားကြီးမှာလည်း ပကတိ အသက်ဝင်နေဆဲ၊ အမြဲရှင်သန် နေသော တရားတော်တို့ဖြင့် ကျွန်တော်တို့ကို ဆုံးမနေသကဲ့သို့ပါပေ။ မှန် ဘီရိုထဲမှ ဆရာတော်ကြီး၏ လက်ရေးမူများ၊ မင်းကွန်းဇေတဝန်သာသနာနှင့် ပတ်သက်သမျှအရာအားလုံးသည် နိုးထရှင်သန်လာသည်ဟု ခံစားရသည်။

ထို့နောက် မူလမင်းကွန်းဇေတဝန်ဆရာတော်ကြီး၏ ပြတိုက်၊ ဒုတိယ ဆရာတော်ဘုရားကြီး အရှင်တိက္ခာစာရ အမှတ်တရပြခန်း၊ ထို့နောက် ဆရာ တော်ကြီးနှစ်ပါး၏ ဓာတ်တော်များဖြင့် တည်ထားသော ဘုရားစေတီလေးနှစ်ဆူ

ကို ကျွန်တော်တို့ ကန်တော့လိုက်စဉ်မှာပဲ ဆည်းလည်းသံလေးတွေ တလွင်လွင် မြည်ကျူးလျက် ကျန်ခဲ့သူများကို နှုတ်ဆက်တရားဟောနေသယောင်ယောင်။

'ဘိက္ခဝေ ရဟန်းတို့၊

အဘယ်သို့လျှင် အချို့သော နတ်လူတို့သည် နေရစ်ကုန်သနည်း။ နတ်လူတို့သည် ဘဝ၌ မွေ့လျော်ကုန်ကြ၏။ ဘဝ၌ မွေ့လျော်ရွှင်လန်းဝမ်းမြောက်ခြင်းသို့ ရောက်ကြကုန်၏။ ထိုနတ်လူတို့အား ဘဝချုပ်ခြင်းငှာ အကျင့်တရားကို ဟောအပ်သည်ရှိသော် စိတ်သည် အကျင့်၌ မသက်ဝင်၊ အကျင့်၌ မယုံ၊ ကျင့်မည်ဟု မဆောက်တည်၊ ကျင့်မည်ဟု နှလုံးမသွင်း'

(မင်းကွန်းဝိပဿနာဉာဏသူဒနီစာ ၃၇၄)

နေရစ်ခဲ့ရာမှ လိုက်ပါနိုင်အောင် ကြိုးစားခြင်းဖြင့် သထုံမြို့ မူလမင်းကွန်း ဇေတဝန်ကျောင်းတော်ကြီးဆီ ပြန်ပါပြီ။ ဇေတဝန်ကျောင်းတော်ကြီးသည် က္ကန္ဒြေကြီးမားစွာ ငြိမ်သက်တိတ်ဆိတ်နေသည်။ တိတ်ဆိတ်ခြင်း၏ အတွင်းနက်နက်မှာ လင်းလက်ဆဲ ဓမ္မရောင်ခြည်က ကျွန်တော်တို့ ဘယ်ကိုသွားရမယ်ဆိုတာကို သေသေချာချာ ညွှန်ပြလိုက်ပေသည်။

ညွှန်း/

၁။ ၁၉၉၇ ဧပြီလထုတ်
မင်းကွန်းဝိပဿနာသူဒနီပေါင်းချုပ်

၂။ ၁၉၉၂ ဩဂုတ်လထုတ်
တောင်တွင်းဘိက္ခုအရှင်တိက္ခာစာရ၏
မူလမင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီး၏ ထေရုပ္ပတ္တိ။



ပိဋကတ်တော်များကို စာအုပ်အဖြစ် စက်တင်ပုံနှိပ်ရာမှာလည်း မဟာစည်ဆရာတော်ကပဲ ကြီးကြပ်တည်းဖြတ် ပေးခဲ့ရပါတယ်။

ရွှေဘိုနယ်မှာ ကမ္ဘဋ္ဌာန်း ဘုန်းကြီးလေးအဖြစ် နာမည်ကျော်နေတဲ့ မဟာစည်ဆရာတော်ဟာ ဆဋ္ဌသံဂါယနာတင်ပွဲကြီးနဲ့အတူ မြန်မာကမ္ဘာ ဗုဒ္ဓဘာသာ လောကမှာ အထူးထင်ပေါ် ကျော်ကြားသွားပါတော့တယ်။

**ငယ်စဉ်ဘဝ ဗီဇပါရမီ**

အလောင်းမင်းတရား ဦးအောင်ဇေယျရဲ့ ရာဇအောင်မြေ ဓမ္မအောင်မြေဖြစ်တဲ့ ရွှေဘိုမြို့နဲ့ (၇)မိုင်အကွာ ဆိပ်ခွန်ရွာမှာ မဟာစည်လောင်းလျာကို ခမည်းတော် ဦးကံတော်၊ မယ်တော် ဒေါ်အုပ်တို့မှ ကောဇာနှစ် (၁၂၆၆) ခု၊ ဒုတိယ ဝါဆိုလပြည့်ကျော် (၃) ရက် (၂၉ ဇူလိုင်၊ ၁၉၀၄) သောကြာနေ့မှာ မွေးဖွားခဲ့ပါတယ်။ ဆရာတော်လောင်းလျာဖွား မြင်တဲ့နှစ်က ရွှေဘိုတစ်ခရိုင်လုံး မိုးကောင်းခဲ့ပြီး စပါး၊ ပဲ၊ ပြောင်းသီးနှံတွေ မကြုံစဖူး၊ အထူးအထွက်တိုးခဲ့ ပါတယ်။ ဆရာတော်လောင်းလျာရဲ့ ဖွားမြင်ခြင်းဟာ လောကကမ္ဘာ စည်ပင်ချမ်းသာစေမယ့် ပုဗ္ဗနိမိတ်ပါပဲ။ ဒါကြောင့်လည်း ဆိပ်ခွန်တစ်ရွာလုံးက အမျိုးသမီးတွေ မယ်တော်ကြီးရဲ့ မီးနေခန်းထဲ ရောက်လာကြပြီး ကလေးငယ် ဆရာတော်လောင်းလျာကို ဝိုင်းအုံကြည့်ကြ၊ မင်္ဂလာစကားပြောကြ၊ ချီးကျူးကြနဲ့ လောကကိုကျော် ထင်ပေါ်မယ့် နိမိတ်ဆောင်ခဲ့ပါတယ်။

ဆရာတော်လောင်းလျာမှာ မွေးချင်းခုနစ်ယောက်ရှိခဲ့ပြီး ဆရာတော်လောင်းလျာဟာ ဒုတိယမြောက်သား ရတနာဖြစ်ပါတယ်။ ငယ်နာမည် မောင်သွင်ဖြစ်ပြီး အသက် (၁၂) နှစ်အရွယ်မှာ အရှင်အာဒိစ္စထေရ်ကို ဥပဇ္ဈာယ်ပြုပြီး ရှင်သာမဏေ ဖြစ်ခဲ့ပါတယ်။ အသံနဲ့ ဥပဓိရုပ်ကောင်းခြင်းတို့ကြောင့် ဘွဲ့တော် 'ရှင်သောဘန'လို့ ဖွဲ့ချည်ခဲ့ပါတယ်။

ရှင်သာမဏေ ဘဝမှာပင် ဇာတ်ကြီးဆယ်ဘွဲ့၊ ဝိနည်းပါဠိတော်၊ ဝိနည်းအဋ္ဌကထာ၊ ကစ္စည်းသဒ္ဒါကြီး၊ အဘိဓမ္မာ သင်္ဂြိုဟ်ကျမ်း၊ ပဒရူပသိဒ္ဓိကျမ်း၊ မုခမတ္တဒီပနီတို့ကို သိန္ဓောမြင်းစိုင်းနှင်သကဲ့သို့ လျင်မြန်ပေါက်မြောက် ခရီးရောက်အောင် သင်ကြား လေ့ကျင့်တော်မူခဲ့ပါတယ်။ ဋီကာကျော်ကျမ်းကိုတော့ အရကျက် အာဂုံဆောင်တော်မူခဲ့ပါတယ်။ အရှင်အာစာရ၊ အရှင်ပရမ စာချဆရာတော်များထံတော်မှာ စာဝါများ သင်ယူတတ်မြောက်ခဲ့ပါတယ်။ အရှင်

စန္ဒိမာထံမှာ အင်္ဂလိပ်စာကို အတော်အသင့် သင်ယူခဲ့ပါတယ်။ ဝိဘင်းပါဠိ၊ အဋ္ဌကထာ၊ မူလဋီကာများ သင်ယူတတ်မြောက်ပြီး အသက် ၁၉ နှစ် ၄ လရှိချိန် ၁၂၈၅-ခုနှစ်၊ တန်ဆောင်မုန်း လပြည့်ကျော် (၄)ရက်၊ တနင်္လာနေ့မှာ မြင့်မြတ်သော ရဟန်းဘဝသို့ ရောက် တော်မူခဲ့ပါတယ်။

ရဟန်းဒါယကာ ဦးအောင်ဘော်+ရဟန်းဒါယိကာမ ဒေါ်သစ်တို့ရဲ့ ပစ္စယာနုဂ္ဂဟဖြင့် အင်ကြင်းတောရတိုက် ဗုဒ္ဓသိမ်တော်မှာ ဂိုဏ်းချုပ် သုမေဓာ ဆရာတော်ကြီး အရှင်နိမ္မလမဟာထေရ်ကို ဥပဇ္ဈာယ်ပြု၍ အရှင်ပရမ မဟာထေရ်စသော ကမ္မဝါဆရာတော်များနဲ့ ၃၅ ပါးသော ကာရကသံဃာတော်တို့ရဲ့ ချီးမြှောက်မှုနဲ့ မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်တော်မူခဲ့ခြင်း ဖြစ်ပါတယ်။

မဟာစည်လောင်းလျာ အရှင်သောဘနဟာ အရှင်ပရမထံမှာ ပါဠိ အဋ္ဌကထာများ ဆက်လက်သင်ယူရင်း သီလတည်းဟူသော အောက်ခြေ ကျောက်မြေကို ခိုင်မာစေတော်မူခဲ့ပါတယ်။ မချွတ်မယွင်း၊ မကွဲအက်၊ မကျိုးပဲ့ အောင် စောင့်ရှောက်တော်မူခဲ့ပါတယ်။ အရှင်သောဘနဟာ ရဟန်းပြုပြီး (၄) လအကြာမှာပင် ဓုတင်အကျင့်ကို ဆောင်တော်မူခဲ့ပါတယ်။ ဓုတင်အကျင့်ဟူသည် ပင်ပန်းဆင်းရဲသည် မှန်သော်လည်း ကိလေသာတို့ကို ခေါင်းပါးငြိမ်သက်စေပါတယ်။ ဆရာတော်လောင်းလျာဟာ ဆွမ်းမခံမီ စာသင်စာချခြင်း၊ စေတိယင်္ဂဝတ်၊ ဗောဓိယင်္ဂဝတ် စသည်တို့ကို ပြုတော်မူပြီးမှ မြတ်စွာဘုရား ရုပ်ပွားတော်ကို ထိခြင်းကြီးငါးပါးနဲ့ ကန်တော့လျက် . .

'အတိရေကလာဘံ ပဋိက္ခိပါမိ၊ ပိဏ္ဍပါတိကင်္ဂံ သမာဒိယာမိ'

'ဆွမ်းခံ၍ရသော ဆွမ်းထက် အပို အလွန်ဖြစ်သော လာဘ်များကို ပယ်ပါ၏။ ဆွမ်းအကျိုးငှာ လှည့်လည်ခြင်း အလေ့ရှိသော ရဟန်း၏အကြောင်း အင်္ဂါစေတနာကို ဆောင်တည်ပါ၏'လို့ အာမဘန္တေခံပြီး စက္ခုဣန္ဒြေချလျက် ဆွမ်းခံကြွလေ့ရှိခဲ့ပါတယ်။ ရဟန်းဖြစ်တော်မူစကပင် ကြည်ညိုဖွယ်ပုံရိပ်သွင်နဲ့ ပြည့်စုံတော်မူခဲ့ပါတယ်။

မဟာစည်လောင်းလျာ ဆရာတော်ဟာ ပတ္တပိဏ်ဓုတင် (တစ်ခွက်တည်း (ဝါ) သပိတ်တစ်လုံးတည်းဖြင့် ရောင့်ရဲစွာဆွမ်းဘုဉ်းပေးခြင်း၊ ရုက္ခမူဓုတင် (သစ်ပင်အောက်၌သာ သီတင်း သုံးခြင်း)၊ ကောသနိက်ဓုတင် (တစ်ထပ်တည်းသာ ဆွမ်းဘုဉ်းပေးခြင်း) စတဲ့ ဓုတင်များကို ငယ်စဉ်ကပင် ဆောင်ခဲ့တာမို့

လူတွင်မက နတ်များကပါ ကြည်ညိုခဲ့ရတဲ့ ရဟန်းတော် ဖြစ်ပါတယ်။

အရှင်သောဘနဟာ ရဟန်းတစ်ဝါမရမီမှာပင် အစိုးရပထမငယ်တန်းကို ဝင်ရောက်ဖြေဆို အောင်မြင်တော်မူခဲ့ပါတယ်။ ပထမငယ်တန်းဆိုင်ရာ ဘိက္ခုပါတိမောက်၊ သဒ္ဒါသင်္ဂြိုဟ်၊ ကစ္စည်း ရူပ သိဒ္ဓိ၊ ဋီကာကျော်၊ မာတိကာ ဓာတု ကထာများကို အရဆောင် အောင်တော်မူခဲ့ခြင်းပါပဲ။ ရဟန်းတစ်ဝါအရမှာ ကျေးဇူးရှင်မိခင်ကြီး ဒေါ်အုပ် ကွယ်လွန်တော်မူတဲ့အခါ သောကထူးထွေ မရောက်ပေမယ့် အိုနာသေဘေးတို့အပေါ် သံဝေဂ ဉာဏ်မြင် ဆင်ခြင်တော်မူနိုင်ခဲ့ပါတယ်။

အရှင်သောဘနဟာ စာပေပရိ ယတ္တိဘက်မှာ ဆက်လက်ကြိုးပမ်းအားသစ်တော်မူခဲ့ရာ ၁၂၈၈-ခုနှစ်မှာ ပထမလတ်တန်းကို ရန်ကုန်မြို့၌လည်းကောင်း၊ ပထမကြီးတန်းကို ရွှေဘိုမြို့၌လည်းကောင်း ဖြေဆိုအောင်မြင်တော်မူခဲ့ပါတယ်။ ဆိပ်ခွန်ရွာမှာ ကျင်းပတဲ့ ဝိနည်းစာပြန်ပွဲမှာလည်း ဝိနည်းငယ်လေးစောင်ပါဠိကို အလွတ်ပြန်ဆို အောင်မြင်တော်မူခဲ့ပြန်ပါတယ်။

မဟာစည်လောင်းလျာ အရှင်သောဘနဟာ ရဟန်းသိက္ခာ ၄ ဝါအရ ၁၂၉၀ ပြည့်နှစ်မှာ မန္တလေးအနောက်ပြင် ခင်မကန်တိုက်မှာ ရောက်ရှိသီတင်းသုံးရင်း တိုက်သစ်ဆရာတော် အရှင်ဣန္ဒသာဘိဝံသ၊ ချမ်းသာကြီးတိုက် စာချဆရာတော် အရှင်လက္ခဏာတို့ ထံတော်မှာ စာပေပညာများ ဆည်းပူး သင်ယူခဲ့ပါတယ်။ တစ်နှစ်ကျော် ပညာသင်ယူခဲ့ပြီး ဇာတိဆိပ်ခွန်ရွာသို့ ပြန်ကြွတော်မူခဲ့ကာ ခမည်းတော်ဦးကံတော်နှင့် ဆွေမျိုးဉာတိတို့အား တရားဓမ္မ သွန်သင်ဟောပြတော် မူခဲ့ပါတယ်။

**မင်းကွန်း ဇေတဝန် ဆရာတော်ဘုရားကြီးထံတော်မှ**
**သတိပဋ္ဌာန်နည်းခံ ကျင့်ဆောင်တော်မူခြင်း**

မဟာစည်လောင်းလျာ အရှင်သောဘနဟာ ရဟန်း ငါးဝါအရ ၁၂၉၁ မှာ မော်လမြိုင်မြို့တောင်ဘက် ၄ မိုင်အကွာ တောင်ဝိုင်းကလေး ကျောင်းတိုက်သို့ ပြောင်းကြွသီတင်းသုံးတော်မူခဲ့ပါတယ်။ တောင်ဝိုင်းကလေး ကျောင်းတိုက်ရဲ့ နာယကဆရာတော်ကြီးဟာ ဆိပ်ခွန်ရွာဇာတိဖြစ်ပြီး ဇရာဘက်ရောက်လာပြီ ဖြစ်လို့ စာသင်စာချ မလုပ်နိုင်ရှာတော့ပါဘူး။ ဒါကြောင့် အရှင်သောဘနဟာ တောင်ဝိုင်းက လေးကျောင်းတိုက်မှ သံဃာ(၁၅)ပါးကို စာချပေးရင်း

'မဟာသတိပဋ္ဌာနသုတ်' ကို အဋ္ဌကထာ ဋီကာ တွဲဖက်လေ့လာလျက် ပဋိပတ္တိ အကျင့်စခန်းဘက်သို့ မျှော်ကြည့်ရည်မှန်းခဲ့ပေပြီ။

တောင်ဝိုင်းကလေးမှာ သုံးနှစ် စာဝါပို့ချတော်မူခဲ့ပြီး ၁၂၉၃-ခုနှစ်၊ ပြာသို လပြည့်ကျော် (၇)ရက်၊ သောကြာနေ့မှာ မိမိနဲ့စိတ်တူသဘောတူ ရဟန်းတော် ဦးတေဇဝန္တနှင့်အတူ တောင်ဝိုင်းကလေးကျောင်းမှ ထွက်ကြွတော်မူခဲ့ပါတယ်။ ဒီတစ်ခါ ကြွတော်မူခြင်းဟာ ဝိပဿနာရှာပုံတော်ခရီးရဲ့ အစ၊ ဒီနေ့ဟာ စာတွေ့ မှလက်တွေ့ ကိုယ်တွေ့သို့ ကူးပြောင်းရန် စတင်တဲ့နေ့လည်း ဖြစ်ပါ တယ်။

ထီးဖိနပ်မပါ၊ နဝကမ္မ ငွေတစ်ပြား တစ်ကျပ်မှမပါ၊ သပိတ်တစ်လုံး သက်န်းသုံးထည်၊ ပရိက္ခရာအချို့ဖြင့်သာ ထွက်ခွာလာခဲ့ခြင်း၊ ကပ္ပိယ ဒကာ တစ်ဦးက ဇင်းကျိုက်အထိ ရထားလက်မှတ်ယူပေးလိုက်ပါတယ်။ ဇင်းကျိုက် ရောက်တော့ ရေတံခွန်တောင်ဝှမ်းမှာ စောင်မပါ ချမ်းချမ်းစီးစီး ကျိန်းစက်ရ၊ ဆွမ်းခံစားပြီး ဇင်းကျိုက်မှ ကတွန်၊ ကတွန်မှ ရင်းငြိမ်၊ ရင်းငြိမ်မှ သထုံသို့ အဆင့်ဆင့် ရောက်ခဲ့ကြပါတယ်။

သထုံမှာ (၆)ရက်၊ တောင်စွန်း ကော့ကဒွတ်ကျောင်းမှာ (၇)ရက်၊ နား နေစဉ်အတွင်း ပဋိပတ် အကျင့်စခန်းများကို လေ့လာစုံစမ်းကြပါတယ်၊ ကေလာသတောင်၊ မြသပိတ်တောင်များသို့လည်း ဘုရားဖူးရောက်ခဲ့ကြပါ တယ်။ ဝေပုလ္လတောင်မှာ ဝေပုလ္လဆရာတော်ကြီးကို ဝင်ရောက်ဖူးမြော်ပြီး ဆရာတော်ကြီးရဲ့လမ်းညွှန်ချက်နဲ့ ကျိုက်ထိုမြို့သို့ ဖြတ်လမ်းမှ ခြေလျင်ကြွ တော်မူခဲ့ကြပါတယ်။ ကျိုက်ထို မေယဝန်ကျောင်းမှာ နှစ်ညတည်းခို၊ ဝိနည်း တော်သြဝါဒများ နာယူခဲ့ကြပြီး ကျိုက်ထီးရိုးဘက် ခရီးဆက်ခဲ့ကြပြန်ပါတယ်။

လမ်းမှာကားကြုံက တင်ခေါ်သဖြင့် ကင်ပွန်းစခန်းသို့ ညနေမှာ ဆိုက် ရောက်ပါတယ်။ ခေတ္တနားပြီး ကျိုက်ထီးရိုးဘုရားဖူး တောင်တက်လမ်းကို မှောင်ရိပ်သန်းချိန်မှာ ဖိနပ်မပါဘဲ တက်ခဲ့ကြခြင်း ဖြစ်ပါတယ်။ တပို့တွဲလ ဟေမန္တရဲ့ အအေးဆုံးအချိန်မှာ လေရိုင်းတွေ တဟူးဟူးတိုက်နေတဲ့ကြားက အခါမဲ့မိုး ကြီးရွာချလိုက်လေရာ နီးရာဇရပ်ထဲ မိုးဝင်ခိုခဲ့ပါတယ်။ အကျင့်ခရီးရဲ့ အစကား ကြမ်းတမ်းလေစွ။

ကျိုက်ထီးရိုးဘုရား ရင်ပြင်တော်သို့ ညဥ့်သန်းခေါင်မှာ ရောက်ခဲ့ပြီး ခဏနားပြီးတာနဲ့ ဘုရားဖူး၊ တရားထိုင်ကြပါတယ်။ ဆံတော်ရှင် ကျိုက်ထီးရိုးကို

အားပါးတရ ဖူးမြော်ကြပြီး အပြန်လမ်းမှာတော့ ရဟန်းတော်နှစ်ပါး လမ်းခွဲသွားကြပြီ ဖြစ်ပါတယ်။ ဦးတေဇဝန္တ သထုံသို့ ဆက်ကြွသွားချိန်မှာ မဟာစည်လောင်းလျှာဆရာတော်က ဒုံဝန်းဘူတာမှာ ဆင်းကျန်နေခဲ့ပါတယ်။ ဒုံဝန်းဘူတာမှ ၅ မိုင်ခန့်ဝေးတဲ့ ရွှေရောင်ပြတောင်ခြေရှိ ဘုန်းကြီးဦးအုန်းခိုင်ကျောင်းသို့ ဆက်ကြွတော်မူခဲ့ပါတယ်။

ဘုန်းကြီးဦးအုန်းခိုင်ဟာ သုသာန် ဓူတင်ဆောင် ရဟန်းဖြစ်လို့ ကျင့်နည်းတောင်းခံရာ 'ခန္ဓာအာယတနဓာတ်များကို နှလုံးသွင်းပြီး ဒါတွေဟာ အနိစ္စ၊ ဒုက္ခ၊ အနတ္တတွေပဲ' လို့ ဆင်ခြင်ရကြောင်း အမိန့်ရှိပါတယ်။

၁၂၉၃-ခု၊ တပို့တွဲလဆုတ် ၁၁ ရက်မှာ အရှင်သောဘန သုသာန်ဓူတင် စတင်ဆောက်တည်ပါတယ်။ ဒီနေ့မှ ကြိုးဆွဲချသေတဲ့မိန်းမ (အစိမ်းသေ)ရဲ့ မြေပုံခေါင်းရင်း သုံးတောင်ခန့် အကွာမှာထိုင်ပြီး အသုဘကမ္မဋ္ဌာန်းရှုပါတယ်။ အရုဏ်တက်လို့ ဆွမ်းခံချိန် ရောက်တဲ့အထိ တစ်ညလုံးပဲ သုသာန်ဓူတင်ဆောင်တော်မူခဲ့ပါတယ်။ သုသာန်ဓူတင်လေးည ကျင့်ပြီးတာနဲ့ ဘုန်းကြီးဦးအုန်းခိုင်ကို ခွင့်ပန်ပြီး သထုံဘက်သို့ ခြေလျင်ခရီး ဆက်ခဲ့ပြန်ပါတယ်။ လမ်းခရီးကျိုက်ကော်ရွာ သုခိတာရုံ ကျောင်းမှာ ခေတ္တနားနေပြီး ခရီးဆက်ခဲ့ရာ ၁၂၉၃-ခုနှစ်၊ တပေါင်းလဆန်း ၅ ရက်နေ့မှာ သထုံမြို့ မူလမင်းကွန်းဇေတဝန်ကျောင်းတိုက်ကြီးသို့ ဆိုက်ရောက်ခဲ့ပါတယ်။ အရှင်သောဘနဟာ ရောက်မဆိုက်ဆိုသလိုပဲ ကမ္မဋ္ဌာန်း (တရားကျင့်နည်း) တောင်းခံလေရာ ကျေးဇူးတော်ရှင် မင်းကွန်းဇေတဝန် ဆရာတော်ဘုရားကြီး ဦးနာရဒက နေတ္တိပါဠိတော်ကြီးကို မူတည်လျက် ရှုမှတ်ပုံကမ္မဋ္ဌာန်း ပေးသနားတော်မူပါတယ်။

တရားရှုမှတ်ရာ၌ သွားလျှင်၊ ရပ်လျှင်၊ လျောင်းလျှင်၊ နိုးလျှင်၊ အိပ်လျှင်၊ စားလျှင်၊ ကျင်ငယ်စွန့်လျှင် စသည့် စိတ်အမူအရာ ကိုယ်အမူအရာဖြစ်ပေါ်တိုင်း ရုပ်,နာမ်ဟူသမျှကို သတိမလွတ်အောင် ရှုမှတ်နေအပ်ပုံကို မင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီးက ရှင်းလင်းမိန့်ကြားပါတယ်။ မင်းကွန်းဇေတဝန်ဆရာတော်ဘုရားကြီးဟာ အဋ္ဌကထာကျမ်းပြုဆရာတော်ကြီးဖြစ်သည့်အတိုင်း စာပေပရိယတ္တိဘက်မှာ အထူးကျွမ်းကျင်နှံ့စပ်တော်မူပါတယ်။ သတိပဋ္ဌာန်တရားလမ်းစဉ်ကို သီးလုံးဆရာတော်ကြီးနဲ့ စစ်ကိုင်းတောင်ရိုးမင်းကွန်းအလယ်တောရဆရာတော်ကြီးများထံမှ နည်းခံကျင့်သုံးခဲ့ပြီး ကိုယ်

တော်တိုင် အားရကျေနပ်တဲ့ တရားအဆင့်ဆင့်ကို သိမြင်တော်မူခဲ့ပြီး ဖြစ်ပါတယ်။ ဒီမှာဘက် ခေတ်တစ်လျှောက် ကွယ်ပျောက်လုနီးပါး သတိပဋ္ဌာန်တရားတော်ကြီးကို ပြန်လည်ဖော်ထုတ်တော်မူခဲ့သူဟာ မင်းကွန်းဇေတဝန်ဆရာတော်ကြီးပဲ ဖြစ်ပါတယ်။

မဟာစည်လောင်းလျာ အရှင်သောဘနဟာ ဆရာတော်ကြီး ချီးမြှင့်လိုက်တဲ့ နည်းအတိုင်း ရှိရှိသေသေ အားထုတ်ပါတယ်။ သွားခြင်း၊ ထိုင်ခြင်း၊ ဆန့်ခြင်း၊ ကွေးခြင်းစသည် ရုပ်,နာမ်တို့ ဖြစ်ပေါ်တိုင်း ရှုမှတ်ရတာ ဝိပဿနာရဲ့ အခြေခံအစပိုင်းပဲဖြစ်မယ်လို့ ယူဆခဲ့ပါတယ်။ အတော်အသင့် အားထုတ်ပြီးတဲ့အချိန်မှာ ဒီရှုမှတ်နည်းဟာ ဝိပဿနာရဲ့ အစ အလယ် အဆုံး သုံးပါးစလုံးဖြစ်ကြောင်း မင်းကွန်းဇေတဝန် ဆရာတော်ဘုရားကြီးက ဆုံးဖြတ်ပေးခဲ့ပါတယ်။

အရှင်သောဘနဟာ နေ့ရောညရာ စကားမပြောဘဲ သည်းသည်းမည်းမည်း အားထုတ်လေရာ လေးလအကြာမှာပဲ ဆရာသမားကျေနပ်လောက်တဲ့ တရားအဆင့်သို့ ရောက်တော်မူခဲ့ပါတယ်။

၁၂၉၄-ခုနှစ်၊ ဝါဆိုလဆန်း (၈) ရက်နေ့မှာ တောင်ဝိုင်းကလေးကျောင်းသို့ ပြန်ကြွရောက်တော်မူခဲ့ရပါတယ်။ အကြောင်းကတော့ တိုက်ကျောင်းဆရာတော်ကြီး နာမကျန်းဖြစ်တော်မူလို့ ပြုစုရအောင် ပြန်ကြွခဲ့ရခြင်းပါပဲ။ သို့သော် ဆရာတော်ကြီး ပျံလွန်တော်မူလေရာ တောင်ဝိုင်းကလေးကျောင်းကို စောင့်ရှောက်ရင်း ပရိယတ္တိစာပေပို့ချခြင်း ပြုတော်မူခဲ့ပါတယ်။ ၁၃၀၃-ခုနှစ်၊ နယုန်လမှာ ရန်ကုန်မှာကျင်းပတဲ့ အစိုးရဓမ္မာစရိယ စာချတန်းကို ကျမ်းရင်းသုံးကျမ်းနဲ့ ဂုဏ်ထူးဆောင်ကျမ်းတို့ကို ဖြေဆိုအောင်မြင်တော်မူတဲ့အတွက် 'သာသနာဓဇ သီရိပဝရဓမ္မာစရိယ' ဘွဲ့ တံဆိပ်တော်ကို ရရှိတော်မူပါတယ်။

အဲဒီအချိန်မှာပဲ ဒုတိယကမ္ဘာစစ်ကြီးရဲ့ စစ်မီးလျှံတွေဟာ မော်လမြိုင်ဘက်ဆီ ဦးတည်လာနေပြီမို့ အရှင်သောဘနဟာ ဇာတိရပ်ရွာ ရွှေဘိုနယ်ဆိပ်ခွန်ရွာသို့ တစ်ဖန် ပြန်ကြွတော်မူခဲ့ရပါတယ်။

'ရွှေဗဟိုစည်သံများကိုလ မကြား ရကြာချေပြီ . . . လေးလရာသီ' အစချီတဲ့ ခွန်းထောက်သံဟာ ကိုယ့်မင်းကိုယ့်ချင်း ကိုယ့်တိုင်းပြည် ကိုယ့် လွတ်လပ်ရေးကို မျှော်တွေး လွမ်းတမ်းနေသလို ရှိပါတော့တယ်။ နန်းတွင်းက ဗဟိုစည်သံမကြားရတော့ပေမယ့် ရွှေဘိုနယ် ဆိပ်ခွန်ရွာက မဟာစည် မြည်သံဟိန်းလိုက်ပုံကဖြင့် ဘေးရန်ကငြိမ်းလို့ ဆိုရပါတော့မယ်။ သံသရာဘေး၊ အပါယ်ဘေး

ဘေးရန်ဟူသမျှ ငြိမ်းစေဖို့ မဟာစည်မြည်သံဟိန်းခဲ့ပါချေပြီ။

ဆိပ်ခွန်ရွာ အနောက်ဘက်မှာ အင်ကြင်းတောစေတီနဲ့ အင်ကြင်းတောကျောင်းတိုက်ရှိပါတယ်။ ကျောင်းတိုက်ရှေ့မှာ ရောမကုက္ကိုပင်ကြီးက လေဒဏ်ကြောင့်လဲကျခဲ့ရာ မဟာစည်လောင်းလျှာ အရှင်သောဘနကို ကြိုနေတဲ့အလား ရှိပါတော့တယ်။ ထူးဆန်းတာကတော့ ကုက္ကိုပင်ကြီးရဲ့ အရင်းပိုင်းဟာ အခေါင်းပေါက်ကြီး ဖြစ်နေတာပါပဲ။ စည်ထွင်းဖို့ အလိုအလျောက် ဖြစ်နေတာဟာ နတ်တို့ ဖန်ဆင်းထားသည့်နှယ် ရှိပါတယ်။ အရင်းအဖျားဘက်က သားရေကြက်လိုက်ရုံဖြင့် အံ့ဖွယ် မဟာစည်တော်ကြီး ပေါ်ပေါက်လာခဲ့ပါတော့တယ်။

မဟာစည်တော်ကြီးဟာ အလျား (၉)ပေနီးပါး(၁၀၅ လက်မ)၊ မျက်နှာဝအကြီးဘက်က အချင်း (၄၀)လက်မ၊ အငယ်ဘက်က (ဝါ) အဖျားဘက် မျက်နှာဝ အချင်း (၃၆)လက်မ၊ လုံးပတ် (၁၂၆)လက်မ ပမာဏရှိပါတယ်။ စည်ကြီးဒါယကာမှာ ဆိပ်ခွန်ရွာမှ ဦးဖိုးတင် ဒေါ်ခတို့ဖြစ်ပြီး ၁၂၉၅-ခုနှစ်ကပင်ပြုလုပ်ခဲ့ကြောင်း သိရပါတယ်။ ဒီစည်တော်ကြီးရှိရာ ကျောင်းတိုက်ကို ‘မဟာစည်ကျောင်းတိုက်’လို့ခေါ်တွင်ပြီး ဒီကျောင်းတိုက်မှာ လာရောက် သီတင်းသုံးတဲ့ အရှင်သောဘနကို ‘မဟာစည်ဆရာတော်’လို့ ခေါ်ဝေါ် ထင်ပေါ်လာခဲ့ပါတော့ တယ်။

မဟာစည်ဆရာတော်ဟာ ကိုယ်တိုင်အားထုတ်ခဲ့ပြီးသော သတိပဋ္ဌာန်တရားကို စတင်ဟောကြားပြသတော်မူပါတယ်။ ဦးထွန်းအေး၊ ဦးဖိုးချုံနဲ့ ဆရာကြံတို့ သုံးယောက်ဟာ မဟာစည်ရဲ့ ပထမဆုံးသော ယောဂီများ ဖြစ်ပါတယ်။ ယခင်က မကြားမနာဘူးတဲ့ ထူးခြားတဲ့ သတိပဋ္ဌာန် တရားအပေါ်မှာ လူတွေတိမ်းညွတ်စိတ်ပါလာပြီး ‘ဝိပဿနာရှုနည်းကျမ်း’ ရေးပေးဖို့ တောင်းပန်တဲ့အတွက် ၁၃၀၅-ခုနှစ်၊ တပို့တွဲလပြည့်နေ့ (၁၉၄၂)မှာ ‘ဝိပဿနာရှုနည်းကျမ်းကြီး’ (ပထမတွဲ၊ ဒုတိယတွဲ) ကို စီရင်ရေးသားတော်မူခဲ့ပါတယ်။ ရွှေစေတီဆရာတော်ရဲ့ အကူအညီနဲ့ ပုံနှိပ်ထုတ်ဝေနိုင်ခဲ့ပြီး ယနေ့တိုင် အကြိမ်ကြိမ်ပုံနှိပ်နေရဆဲ ယောဂီလက်စွဲကျမ်းကြီးလို့ ဆိုနိုင်ပါတယ်။

ရွှေဘိုနယ်မှာ ဝိပဿနာတရားမိုးကြီးစတင် သွန်းဖြိုးနေပြီ ဖြစ်ပေမယ့် မြို့တော်ရန်ကုန်နဲ့အခြားဒေသများမှာ ဝိပဿနာ မိုးခေါင်ရာ ရပ်ဝန်းပမာဖြစ်ခဲ့ပါတယ်။ နယ်ချဲ့အင်္ဂလိပ်တို့ လက်အောက်မှာ အမျိုး၊ ဘာသာ၊ သာသနာ

မေးမှိန်ညှိုးနွမ်းခဲ့ပါတယ်။ ဒါကြောင့် သာသနာကြီးရဲ့ ဘုန်းကံကို အမှီပြုပြီး အမျိုးဂုဏ်မြှင့်တင်ဖို့အတွက် ဆာဦးသွင်၊ ဟသ်ာတဦးမြ၊ ဦးနု၊ ဦးတင်၊ ဦးဝင်း၊ ဦးစံသိမ်း၊ ဦးလှကျော် အစရှိတဲ့ မျိုးချစ်ပုဂ္ဂိုလ်ကြီးများ ဦးဆောင်ပြီး ၁၃၀၉-ခုနှစ်၊ နတ်တော်လဆန်း (၁) ရက်၊ (၁၃. ၁၁. ၄၇)မှာ 'ဗုဒ္ဓသာသနာ့ နုဂ္ဂဟအဖွဲ့ကြီး' ကို စတင်တည်ထောင်ခဲ့ကြပါတယ်။

အဖွဲ့ကြီးရဲ့ ရည်ရွယ်ချက်အရ ပရိယတ်၊ ပဋိပတ် သာသနာတော်နှစ်ရပ်လုံးကို ချီးမြှင့်ထောက်ပံ့ဖို့ ပရိယတ်၊ ပဋိပတ် စွယ်စုံထူးချွန်တဲ့ ဦးဆောင်ဆရာတော်တစ်ပါး လိုအပ်ပါတယ်။ဦးဆောင် ဆရာတော် ရှာပုံတော်ဖွင့်ကြရာမှာ သူဌေးကြီး ဆာဦးသွင်ဟာ စစ်ကိုင်းတောင်ရိုးသို့ ရောက်ခဲ့ပါတယ်။ စစ်ကိုင်းတောင်ရိုးမှာ ရေဦးက ဆန်စက်သူဌေး ဦးဘသင်နဲ့ဆုံကြတဲ့အခါ မဟာစည်ဆရာတော်ရဲ့ သတင်းကောင်းများကို သူဌေးကြီးဆာဦးသွင် ကြားနာ ကြည်ညိုခဲ့ပါတယ်။

ဒါကြောင့် မဟာစည်ဆရာတော်ကို စစ်ကိုင်းတောင်ရိုးသို့ပင့်ပြီး တရားနာလိုကြောင်း တည်းခိုရာကျောင်းက ဆရာတော်ကို လျှောက်ထားပါတယ်။ ကျောင်းထိုင်ဆရာတော်က စစ်ကိုင်းတောင်ရိုး တရားနာပရိသတ် နားဝင်အောင် (ဝါ) တရားနာချင်လာအောင် ဟောနိုင်စွမ်းရင် ပင့်သင့်ပါတယ်လို့ မိန့်ကြားခွင့်ပြုပါတယ်။ ဒီလိုမိန့်ကြားရတဲ့ အကြောင်းရင်းကတော့ သမိသဒ္ဒေါဒယချောင်ရှိ ဒေါ်မာလာရီခေါ် သီလရှင်ဆရာကြီးဟာ စာလည်း တတ် ဝိပဿနာလည်း ပြနိုင်တဲ့ဆရာကြီး ဖြစ်ပါတယ်။ တပည့်သီလရှင်ပေါင်း (၅၀၀) ခြံရံပြီး စာသင်တရားပြ လုပ်နေပါတယ်။ ဘယ်ဆရာတော်လာလာ ပညာစမ်းလေ့ရှိပါတယ်။ ဆရာကြီး ဒေါ်မာလာရီ နဲ့ နောက်လိုက်သီလရှင်တွေ မေးတဲ့မေးခွန်းကို တော်ရုံတန်ရုံဆရာတော်တွေ မဖြေရှင်းနိုင်ပါဘူး။ ဆရာတော်တွေမှာ စီစဉ်ထားတဲ့ တရားပွဲ သုံးလေးပွဲ ဆုံးအောင်မဟောရ၊ တစ်ပွဲနှစ်ပွဲနဲ့ ရပ်သွားလေ့ရှိတယ်လို့ ဆိုပါတယ်။ ဒါကြောင့် မဟာစည်ဆရာတော်အတွက် စိုးရိမ်လို့ အမိန့်ရှိတာပါတဲ့။ ဒေါ်မာလာရီတို့ကို နိုင်အောင်ဟောနိုင်မယ်ဆိုရင် ပင့်သင့်ပါတယ်လို့ ဆိုပါတယ်။

မဟာစည်ဆရာတော် ကြွလာတရားဟောတဲ့အခါမှာတော့ ပညာရှိဆရာကြီး ဒေါ်မာလာရီနှင့် သီလရှင်များ ဘာမေးခွန်းမှ မမေးဖြစ်ကြ၊ သူတို့မေးလိုသမျှ သူတို့သိလိုသမျှ မဟာစည်ဆရာတော်က တရားဟောရင်း

ထည့်ဖြေသွားလေပြီ။ မဟာစည်ဆရာတော်ကို ရက်တိုးပြီး တရားဟောဖို့ တောင် တောင်းပန်ကြရပါတယ်။ ဒီမျှ သာမက ဒေါ်မာလာရိတို့ဟာ ဆိပ်ခွန် ရွာသို့ လိုက်သွားပြီး မဟာစည်ဆရာတော်ထံပါး တရားအားထုတ်ကြတဲ့အ ထိ ဖြစ်လာပါတယ်။

မဟာစည်ဆရာတော်ရဲ့ ပရိယတ် ပဋိပတ်စွမ်းရည်ကို သူဌေးကြီးဆာဦး သွင် မျက်မြင်ဒိဋ္ဌ ကြုံတွေ့ခဲ့ရပေပြီ။ မဟာစည်ဆရာတော်ကို ပင့်ပြီး ဗုဒ္ဓ သာသနာ့နုဂ္ဂဟအဖွဲ့ကြီးကို ဦးဆောင်ဖို့ ပင့်လျှောက်ပေးပါရန် အဖွဲ့ချုပ် အစည်းအဝေးမှာ ဆာဦးသွင် တင်ပြခဲ့ပါတယ်။ ဒါ့ကြောင့် (အဲဒီခေတ်) နိုင်ငံတော် ဝန်ကြီးချုပ် ဦးနုကိုယ်တိုင် ရွှေဘိုသို့သွားရောက်ပြီး မဟာစည်ဆရာ တော်ကို ရန်ကုန်သို့ ပင့်ဆောင်ခဲ့ပါတယ်။ အဲဒီနေ့ဟာ ၁၃၁၁-ခုနှစ်၊ တန်ဆောင်မုန်းလပြည့်ကျော် (၆)ရက် (၁၀. ၁၁. ၄၉)နေ့ မဟာစည်ဆရာ တော်ဘုရားကြီး ရန်ကုန် သာသနာ့ရိပ်သာ ရောက်တဲ့နေ့ ဖြစ်ပါတယ်။

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး ရန်ကုန်ရောက်ပြီး တစ်လမပြည့်မီ ၁၃၁၁-ခုနှစ်၊ နတ်တော်ပြည့်နေ့ (၄. ၁၂. ၄၉) မှာ စတင် တရားပြပါတယ်။ ယောဂီ ၂၅ ဦးနဲ့သာ စတင်ခဲ့ခြင်း ဖြစ်ပါတယ်။ မကြာခင် မှာ မဟာစည်ဆရာတော်ဘုရားကြီးရဲ့ သီလ သမာဓိ ပညာဂုဏ်သတင်းတို့ ပျံ့သင်းလာလေရာ တရားအားထုတ်လိုသူ ယောဂီများလည်း တစ်စတစ်စ တိုးတက် များပြားလာခဲ့ပါတယ်။ ၁၃၂၀ပြည့်၊ တန်ဆောင်မုန်းလသို့ ရောက်တဲ့ အခါ -

ရဟန်းယောဂီ (၂၄၁၉) ပါး

အမျိုးသား ယောဂီ (၂၀၄၆) ပါး

အမျိုးသမီးနှင့် သီလရှင် (၅၃၃၅) ဦး၊ စုစုပေါင်း ယောဂီ (၉၈၀၀) ဦး အားထုတ်ပြီးဖြစ်နေတာ တွေ့ရပါတယ်။ ဒါဟာ ပထမကိုးနှစ်အတွင်း အောင်မြင် တိုးတက်မှု ဖြစ်ပါတယ်။ မြန်မာပြည်အရပ်ရပ်မှာလည်း မဟာစည် ဩဝါဒခံ ကမ္မဋ္ဌာန်းဌာနခွဲပေါင်း (၁၅၀) ကျော် ရှိလာခဲ့ပြီး ယောဂီပေါင်း တစ်သိန်းခွဲကျော် တရားအားထုတ်ပြီး ဖြစ်လာခဲ့ပါတယ်။

ကျေးဇူးတော်ရှင် မဟာစည်ဆရာ တော်ဘုရားကြီးဟာ 'ဧကာယနော မဂ္ဂေါ' တစ်ခုတည်းသောလမ်း၊ တစ်ကြောင်းတည်းသောလမ်း၊ သတိပဋ္ဌာန် လမ်းမကြီးပေါ်သို့ ယောဂီပေါင်းများစွာကို ပို့ဆောင်ပေးတော်မူခဲ့လေပြီ။ မဟာ

စည်ဆရာတော်ဘုရားကြီးဟာ တရားဟော တရားပြရင်း ကျမ်းစာအုပ်များလည်း ရေးသားချီးမြှင့်တော်မူခဲ့ရာ ၁၃၁၄-ခုနှစ်၊ သက်တော် ၄၇ နှစ်၊ သိက္ခာတော် ၂၈ ဝါအရမှာ 'အဂ္ဂမဟာပဏ္ဍိတ' ဘွဲ့တံဆိပ်တော် အလှူခံရရှိတော်မူပြန်ပါတယ်။ အဲဒီနောက် ဆဋ္ဌသံဂါယနာတင်ပွဲကြီးအတွက် မနားမနေကြိုးပမ်းပြင်ဆင်တော်မူခဲ့ပါတယ်။ မြန်မာနိုင်ငံဟာ သူ့ကျွန်ဘဝ ကိုလိုနီဖြစ်ခဲ့ဖူးလို့ ဆဋ္ဌသံဂါယနာ မတင်ထိုက်လို့ ယိုးဒယားက ကန့်ကွက်ခဲ့တဲ့အတွက် ညောင်ရမ်းဆရာတော်ဘုရားကြီးနဲ့အတူ ယိုးဒယားသို့ ကြွရောက်ပြီး သဘောတူအောင် စည်းရုံးသိမ်းသွင်းခဲ့ရပါတယ်။ သမိုင်းဝင် ဆဋ္ဌသံဂါယနာတင်ပွဲကြီးမှာ အရှင်မဟာကဿပကိုယ်တော်ကြီးကဲ့သို့ ဆဋ္ဌသင်္ဂီတိပုစ္ဆက ဆရာတော်အဖြစ် ဆောင်ရွက်တော်မူခဲ့ပါတယ်။

ပရိယတ်၊ ပဋိပတ်ပေါင်းကူးဆက်စပ်ပြီး သာသနာပြုတော်မူလျက်ရှိတဲ့ မဟာစည်ဆရာတော်အပေါ် အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီးက. . 'မဟာစည်ဆရာတော်ဟာ တို့များထက် ဉာဏ်သာတယ်။ တို့များ မမြင်နိုင်တဲ့ စာမှားပေမှားကို မြင်အောင် ကြည့်နိုင်တယ်။ အရှင်အနုရုဒ္ဓါတို့ ဋီကာကျော်ဆရာ ဆရာတို့ အခြားကျမ်းဆရာတို့ မမြင်နိုင်တဲ့ အမှားများကိုတောင် မြင်အောင်ကြည့်နိုင်တယ်။ ဒီကရွေ့ မဟာစည်ဆရာတော်ထက်သာသူကိုမပြောနဲ့ တန်းတူပုဂ္ဂိုလ်ကိုတောင် တွေ့ရဖို့မလွယ်ဘူး၊ မဟာစည်ဆရာတော်ရဲ့ စွမ်းရည်သတ္တိကို နိဿယပြုစုဖို့ တို့များက တိုက်တွန်းရတယ်'

မဟာစည်ဆရာတော်ဘုရားကြီးဟာ သာသနာ့မော်ကွန်းဝင် ဝိသုဒ္ဓိမဂ်မြန်မာပြန် (၄) တွဲ အပါအဝင် ကျမ်းပေါင်း (၈၀)ကျော်ကို ပြုစုနိုင်ခဲ့တဲ့အထိ ပရိယတ္တိ သာသနာ့တာဝန် ကျေပွန်တော်မူခဲ့ပါတယ်။

အဘိဓဇမဟာရဋ္ဌဂုရု မစိုးရိမ်ဆရာတော်ဘုရားကြီး အပါအဝင် ရဟန်းရှင်လူပညာရှိများက ချီးကျူးကြသကဲ့သို့ ကဲ့ရဲ့ဝေဖန်ခံရတာတွေလည်း ရှိခဲ့ပါတယ်။ ဘုရားသော်မှ ဝေဖန်တိုက်ခိုက်ခံရခြင်းမှ မလွတ်ခဲ့လေရာ မဟာစည်ဆရာတော်မှာလည်း ဖောင်းပိန်ကမ္မဋ္ဌာန်းနည်းအဆန်းဟူ၍ ခေါ်ဝေါ် သမုတ်ပုတ်ခတ်ခံခဲ့ရပါတယ်။ ဝေဖန်ရေး စာအုပ်ကြီးတစ်အုပ်ပင် ပေါ်ထွက်ခဲ့ဖူးပါတယ်။

မဟာစည်ဆရာတော်ရဲ့ ကမ္မဋ္ဌာန်းနည်းလမ်းမှာ မြန်မာ့နယ်နိမိတ်ကိုကျော်၍ ကမ္ဘာမှာပင်တစ်ခေတ်ဆန်းခဲ့လေရာ ကမ္ဘာမှာလည်း ဝေဖန်ရေး လှိုင်း

လုံးတွေ တဝုန်းဝုန်း ရိုက်ခတ်ဆူညံသွားခဲ့ပါတယ်။ သီရိလင်္ကာမှာ အင်္ဂလိပ်ဘာသာနဲ့ထုတ်တဲ့ သတင်းစာတွေမှာ မဟာစည်ဆရာတော်ရဲ့ ကမ္မဋ္ဌာန်းနည်းကို အကြီးအကျယ် ဝေဖန်ပြစ်တင်ခဲ့ကြပါတယ်။

ဆရာတော်ကား မတုန်လှုပ်ခဲ့တဲ့အပြင် သီရိလင်္ကာသို့ ကမ္မဋ္ဌာနစရိယ တရားပြဆရာတော်များ စေလွှတ်၍ လက်တွေ့တရား ပြသပေးခြင်းဖြင့် ဝေဖန်တိုက်ခိုက်မှုများကို ငြိမ်းအေးသွားစေခဲ့ပါတယ်။ အောင်မြင်ကျော်ကြားမှုကြောင့် မထောင်လွှား၊ မဟာစည်ဆရာတော်ရဲ့ ခန္တီနှလုံးသားက တရားနဲ့သက် သေပြခဲ့ပြီး ဖြစ်ပါတယ်။

ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီးဟာ ပညာစရိုက်ပေမို့ အစဉ်အမြဲ ရဲရင့်တည်ကြည်တော်မူလှပါတယ်။ ယောနိသောမနသိကာရ အရာမှာလည်း စံပြဖြစ်တော်မူခဲ့ပါတယ်။ ဆရာတော် စင်္ကြံလျှောက်ပြီး တရားမှတ်တဲ့လမ်းကြောင်းပေါ်မှာ နာရီအကောင်းစားလေး တစ်လုံးတင်ထားလေ့ ရှိပါတယ်။ စင်္ကြံလျှောက်ရင်း နာရီလှမ်း ကြည့်လေ့ရှိပါတယ်။ တစ်ရက်မှာ အဲဒီ နာရီလေး မသမာသူတစ်ဦးလက်ချက်နဲ့ ပျောက်သွားပါလေရော။ ရိပ်သာလူကြီး တစ်ဦးက အကျယ်အကျယ်မငြိမ်းဖွယ်လုပ်တော့ ဆရာတော်ကြီးက မလုပ်ဖို့ တားမြစ်ရင်း 'နာရီမရှိတော့ ကြည့်ရတဲ့ ဒုက္ခငြိမ်းတာပေါ့'လို့ မှတ်ချက်ချပါတယ်။ လောကီထဲက ရှိဒုက္ခကို မြင်အောင်ပြခဲ့ပါတယ်။

နာရီပျောက်ခြင်းလို ကိစ္စမျိုးမှာ အသာတကြည် နှလုံးသွင်းခဲ့သော်လည်း တရားစစ်တရားမှန် ပျောက်မည့်ကိစ္စမျိုးကိုကား ဆရာတော်ဘုရားကြီး ပြတ်ပြတ်သားသား ဖြေရှင်းတော်မူခဲ့ပါတယ်။

'သုခ ဒုက္ခကို မရှုရ၊ ဥပေက္ခာကို ရှုရမည်' စသည် ရေးသားဟောပြောနေသူမှာ 'ဦးကြည်'ဆိုသူ ဖြစ်သည်။ သူ ထင်ရာ ဉာဏ်ကွန့်၍ ရေးသားဟောပြောချက်များသာ ဖြစ်သည်။ ဘုရားစကားတော်နှင့် ဆန့်ကျင်သောနည်းလမ်းမှားဖြစ်သည်'လို့ မှတ်ချက်ပေး ရေးသားတော်မူခဲ့ပါတယ်။

မဟာစည်ဆရာတော် ဘုရားကြီးဟာ ဂုဏ်အာဏာစည်းစိမ်ရှိသူ၊ တပည့်ရင်း၊ ဒကာရင်းဆိုတဲ့ လောကီတန်ဖိုးတွေအပေါ်မှာ မျက်နှာမလိုက်၊ သာသနာ့မျက်နှာ တစ်ခုတည်းကိုသာ ကြည့်ပြီး မနေမနား အလုပ်လုပ်တော်မူပါတယ်။ တရားဟော တရားပြအပြင် ကျမ်းစာပြုစုခြင်းဟာလည်း မဟာစည် ဆရာတော်ဘုရားကြီးရဲ့ တိကျခိုင်မာတဲ့ သာသနာပြုလုပ်ငန်းကြီးတစ်ခု ဖြစ်ပါတယ်။

အချိန်နဲ့အမျှ အလုပ်လုပ်တော်မူလေရာ ဘယ်သူ့အတွက်နဲ့မှ အချိန်ပုပ်မခံခဲ့ပါ။ တစ်ခါက ဝန်ကြီးချုပ်ဦးနုက အာလာပ သလ္လာပပြောဖို့ ငံလင့်နေစဉ်မှာပဲ 'ဒကာကြီး ကိစ္စပြီးရင် ပြန်တော့'လို့ ယတိပြတ် အမိန့်ရှိလိုက်ပါတယ်။ ဆရာတော်ကြီးအဖို့ အချိန်သာ တန်ဖိုးမဟုတ်ပါလား။

အဲဒီခေတ် နိုင်ငံတော်ဝန်ကြီးချုပ်ကိုတောင် အချိန်မပေးခဲ့တဲ့ မဟာစည်ဆရာတော်ကြီးဟာ သာမန်လုပ်သား ပြည်သူများအရေးကိုတော့ အချိန်ပေးစောင့်ရှောက်တော်မူခဲ့ပါတယ်။ လာပင့်တဲ့ဒကာကို ဘယ်သူမှန်းမသိဘဲပင့်ဖိတ်တဲ့ဆေးရုံသို့ ကြွသွားပြီးတော့ ပရိတ်ရွတ်ခြင်း၊ ဗောဇ္ဈင်သုတ်ရွတ်ခြင်းတို့ကို ဆောင်ရွက်ပေးတော်မူခဲ့ပါတယ်။ လူနာတွေကိုလည်း လှည့်လည်ကြည့်ရှုအားပေးတော်မူခဲ့ပါတယ်။ အဆင့်မခွဲ အစွဲကင်းစွာနဲ့ သာသနာသည် အားလုံးအတွက်ဆိုတာ မဟာစည်ဆရာတော်ဘုရားကြီးက စံပြကျင့်သုံးပြသွားတယ်လို့ ဆိုနိုင်ပါတယ်။

ကမ္ဘာ့အတိုင်းအတာနဲ့ ထင်ပေါ် ကျော်ကြားနေသည့်တိုင်အောင်လည်း မဟာစည် ဆရာတော်ဘုရားကြီးဟာ ပကာသန၊ အဆောင်အယောင် အခမ်းအနားတွေကို မက်မောတွယ်တာ အရေးလုပ်ခြင်းမရှိပါ။

ဆရာတော်ဘုရားကြီးဟာ မာယာသာဌေယျကင်းပြီး ရိုးဖြောင့်ခြင်း နှိမ့်ချခြင်း ဂုဏ်အပေါင်းနဲ့ အထူးပြည့်စုံတော် မူပါတယ်။

ရွှေတိဂုံ ဝေယျာဝစ္စအဖွဲ့ငယ်တစ်ခုက ဆရာတော်ကြီးကို လာပင့်တဲ့အခါမှာလည်း စုံစမ်းစစ်ဆေးမနေတော့ဘဲ တစ်ခါတည်း လိုက်ကြွသွားတော်မူခဲ့ပါတယ်။

ရွှေတိဂုံ အနောက်ဘက်မုခ် လူ (၅၀)လောက်သာဆံ့တဲ့ ဇရပ်ဟောင်းကလေးမှာ ဆရာတော်ကြီး သီလပေး တရားဟောရပါတယ်။ ဆရာတော်ကြီးအတွက် တရားဟောပလ္လင်မှာ ကုလားထိုင်အဟောင်းကြီး တစ်လုံးမျှသာ၊ တရားဟောဖို့ အသံချဲ့စက် တပ်ဆင်ပေးထားခြင်း မရှိပါ။ အနီးက ဓမ္မာရုံကြီးတစ်ခုမှာတော့ အသံကောင်းကောင်း ဓမ္မကထိက ဆရာတော်ကြီးတစ်ပါးက ပရိသတ်လေးငါးရာကို အသံချဲ့စက်ကြီးနဲ့ တရားဟောနေပါတယ်။ လက်ဝဲဘက်က တိုက်ဓမ္မာရုံကြီးဆီကလည်း အသံချဲ့စက်နဲ့ ဟောနေသံ ဟိန်းညံထွက်နေပါတယ်။

အသံချဲ့စက် နှစ်လုံးကြား ညှပ်မိနေရာ ဆရာတော်ကြီးဟာ အသံမြှင့်ပြီး

ဟောပါသော်လည်း မကြားတကြားမျှသာ အသံပေါ်လာတော့တယ်။
တရားပွဲ လူနည်းတာနဲ့ ပတ်သက်လို့ ဆရာတော်ဘုရားကြီးဟာ စိုးစဉ်းမျှ မတုန်လှုပ်ခဲ့ပါ။
"မြတ်စွာဘုရား တရားဦးဟောစဉ် ပဉ္စဝဂ္ဂီငါးဦးပဲ ရှိခဲ့တာ"လို့ အမိန့်ရှိပါတယ်။
ပြီးတော့ လာပင့်တဲ့ကား အချိုးမပြေတာနဲ့ပတ်သက်ပြီး အမှုဆောင်လူကြီးတွေက မကျေမနပ် ဝေဖန်တဲ့အခါ -
"ဘုန်းကြီးတို့က ယခု ကားစီးနေရသေးတယ်၊ မြတ်စွာဘုရားရှင်က ကုန်းကြောင်းလျှောက်သွားတာပဲ"လို့ အမိန့်ရှိပါတယ်။
ယောနိသော မနသိကာရ အရာမှာ မဟာစည်ဆရာတော်ဘုရားကြီးဟာ စံပြပါပဲ။
ပညာဉာဏ်ကြီးတဲ့နေရာမှာလည်း မဟာစည်ဆရာတော်ဘုရားကြီးဟာ သမထ၊ ဝိပဿနာ အမေးပုစ္ဆာပြဿနာများကို ရောက်လေရာမှာ ဖြေရှင်းပေးတော်မူခဲ့ပါတယ်။
ပညာကြီးမားသော်လည်း ပညာကြောင့် ဖြစ်ပေါ်တတ်သော မာန်မာန ထောင်လွှားခြင်းကား မဖြစ်၊ ဂါရဝေါစ နိဝါတမင်္ဂလာကို ဆောင်ထားတော်မူလေ့ရှိပါတယ်။
၁၃၂၉-ခု နှစ်ဦးတန်ခူးလတွင် တောင်ပုလုဆရာတော်ဘုရားကြီးဟာ ရန်ကုန်သို့ကြွတော်မူလာစဉ် မဟာစည် ရိပ်သာပင့်ဖိတ်၍ မဟာစည်ဆရာတော်ဘုရားကြီး ကိုယ်တော်တိုင် ရှေ့ဦးကန်တော့ပါတယ်။ အဲဒီနောက်မှာ မဟာစည်ယောဂီများ ကန်တော့ကြပြီး တောင်ပုလုဆရာတော်ဘုရားကြီးထံမှ ဩဝါဒခံယူကြပါတယ်။
မဟာစည် ယောဂီများဟာ ဆရာကောင်းနဲ့ကြုံတုန်း ကြိုးစားအားထုတ်ကြဖို့ တောင်ပုလုဆရာတော်ဘုရားကြီးက မိန့်တော်မူခဲ့ပါတယ်။
အဲဒီနောက် သုံးရက်အကြာမှာ တောင်ပုလုဆရာတော်နဲ့ မဟာစည်ဆရာတော်တို့ဟာ ဒေါက်တာဆာကားအိမ်မှာ တံခါးပိတ်ဆွေးနွေးခဲ့ကြကြောင်း မှတ်တမ်းများအရ သိရပါတယ်။
တောင်ပုလု ဆရာတော်ဘုရားကြီးကို ရဟန်းရှင်လူများက 'ရဟန္တာကြီး'လို့ ထင်မှတ်ကြည်ညိုနေကြပါကြောင်း လျှောက်ထားတဲ့အခါ မဟာစည်

ဆရာတော်ကြီးက 'ဘုရားဆုပန် ပုဂ္ဂိုလ်ထူးကြီး'လို့ အဖြေပေးခဲ့ပါတယ်။

ဘုရားဆုပန် တောင်ပုလုဆရာတော်ဘုရားကြီးအတွက် သဗ္ဗညုတ ရွှေဉာဏ်တော်နဲ့ ပတ်သက်တဲ့ မဟာစည် ဆရာတော်ဘုရားကြီးရဲ့ ရှင်းလင်း ချက်ဟာလည်း အံ့မခန်း မှတ်တမ်းတင်လောက်ပါပေတယ်။

ယံတံ လောကုတ္တရံ ဉာဏံ ဟူ သောစကားကို အလုံးစုံသော လောက ကို ကျော်လွန်၍ လွှမ်းမိုး၍ တည်သည်အဖြစ်ကြောင့် ဆိုအပ်ပေသည်။ (မဂ် ဖိုလ် နိဗ္ဗာန်ကဲ့သို့) လောကုတ္တရာဘုံ၌ အတွင်းဝင်သည်၏ အဖြစ်ကြောင့် ဆို အပ်သည်ကား မဟုတ်ပေ။

သဗ္ဗကာလေ ပဝတ္တတိဟူသော စကားကိုလည်း ဆင်ခြင်ခြင်းနှင့်စပ်သော ဖြစ်ခြင်းရှိသည်၏ အဖြစ်ကြောင့် (ဆင်ခြင်တိုင်း ဖြတ်တတ်ပေသောကြောင့်) ဆိုအပ်ပေသည်။ (မိနစ်၊စက္ကန့် မခြား) အခါခပ်သိမ်း အမြဲတမ်း ဖြစ်နေသည် ဟူသော ဤအကြောင်းကြောင့် ဆိုအပ်သည်ကား မဟုတ်ပေ။

အကြောင်းမူကား သဗ္ဗညုတဉာဏ်သည် မြတ်စွာဘုရားမှာ မိနစ်၊ စက္ကန့် မခြား အခါခပ်သိမ်းသာလျှင် မပြတ်ဖြစ်နေသည်ဟုဆိုရန် မစွမ်းနိုင်ပါ။ (မဆိုနိုင်ပါ။) ဤကား အကြောင်းတည်း။

(၄ - မြန်မာပြန်)

အထက်ပါ နေတ္တိပါဠိဂါထာတော်ကို နိကာယ်ကြီးလေးရပ် ပါဠိတော်တို့၌ မတွေ့ရပါဟူ၍ ၁၃၂၉၊ တန်ခူးလဆုတ် ၁ ရက်နေ့စွဲနဲ့ ရှင်းလင်းပေးတော် မူခဲ့ပါတယ်။

အဲဒီလို ကြီးမားသောဉာဏ်ပညာ၊ ကြီးမားသော လုံ့လဝီရိယ၊ ဓမ္မကာယ ဓမ္မဉာဏအပြည့်ဖြင့် မဟာစည်ဆရာတော်ဘုရားကြီးဟာ ပြည်တွင်းပြည်ပ သာသနာပြုတော်မူခဲ့ပါတယ်။

အထူးသဖြင့် သတိပဋ္ဌာန် ဝိပဿနာတရားတော်မြတ်ကြီးကို မြန်မာ ကမ္ဘာအရပ်ရပ်သို့ ပျံ့နှံ့လွှမ်းမိုးစေတော်မူခဲ့ပါတယ်။

ဒုတိယကမ္ဘာစစ်ကာလမှာ ယောဂီသုံးယောက်၊ ၁၉၄၉ ရန်ကုန် သာသနာ့ ရိပ်သာကြီးမှာ ယောဂီ(၂၅)ယောက်နဲ့ စခဲ့တဲ့ မဟာစည်သတိပဋ္ဌာန်တရား တော်မြတ်ကြီးဟာ ၁၉၉၉-ခုနှစ်သို့ ရောက်တဲ့အခါ တရားအားထုတ်ပြီးသော ယောဂီအပေါင်း တစ်သန်းသုံးသိန်းကျော် ရှိခဲ့ပေပြီ။

ဒါဟာ အရေအတွက်မျှလောက်သာမဟုတ်ပါ။ မဟာစည်ဆရာတော်

ဘုရားကြီး ကိုယ်တော်တိုင်ထုတ်ဖော် မိန့်ကြားခဲ့တာ ဖြစ်ပါတယ်။

ဝိပဿနာ ဉာဏ်ထူး၊ မဂ်ဖိုလ်တ ရားထူးတွေကို ကိုယ်တိုင်တွေ့ရပြီး အားရကျေနပ်သွားကြတဲ့ ပုဂ္ဂိုလ်တွေဟာ တစ်သိန်းမက များလှပါပြီ။

(ကမ္ဘာ့သာသနာပြုတရားတော် စာ-၃၃)

မြတ်စွာဘုရား ဝန်ခံမိန့်ကြားချက်အရ အနာဂါမ်အထိ မဖြစ်သေးတောင်မှ သောတာပန်ဖြစ်ဖို့ကတော့ သေချာပါတယ်။

တစ်လ နှစ်လခန့်မျှ အားထုတ်သူတွေ မဂ်ဖိုလ်နိဗ္ဗာန်ကို မျက်မှောက်တွေ့မြင်သွားကြရတာ များစွာပင် ရှိနေပါပြီ။

(၄င်းစာ - ၅၀)

မဟာစည် သာသနာ ကမ္ဘာအနှံ့ ဖြန့်ကျက်ခဲ့ရာ အမေရိကန်၊ အင်္ဂလန်၊ ပြင်သစ်၊ နယ်သာလန်၊ ဆွစ်ဇာလန်၊ ဂျပန်၊ ယိုးဒယား၊ သီရိလင်္ကာ၊ နီပေါ၊ ကိုရီးယားတို့မှာ မဟာစည်ရိပ်သာခွဲ ပေါင်း (၁၈)ခု တည်ထောင်ပေးနိုင်ခဲ့ပေပြီ။

ပြည်တွင်းမှာ တိုင်းနှင့်ပြည်နယ်အနှံ့ မဟာစည်သာသနာ ဖြန့်ကျက်တော်မူခဲ့လေရာ -

| စဉ် | တိုင်း၊ ပြည်နယ် | ဌာန | အားထုတ်ပြီးယောဂီပေါင်း |
|---|---|---|---|
| ၁။ | ရန်ကုန်တိုင်း | ၃၃ | ၂၅၄၂၂၄ |
| ၂။ | ပဲခူးတိုင်း | ၄၅ | ၁၁၀၇၇၀ |
| ၃။ | ဧရာဝတီတိုင်း | ၄၂ | ၇၉၅၈၀ |
| ၄။ | မကွေးတိုင်း | ၄၂ | ၇၁၈၁၉ |
| ၅။ | မန္တလေးတိုင်း | ၄၆ | ၁၆၇၀၈၇ |
| ၆။ | စစ်ကိုင်းတိုင်း | ၇၉ | ၂၅၄၄၄၂ |
| ၇။ | တနင်္သာရီတိုင်း | ၇ | ၂၀၅၇၉ |
| ၈။ | မွန်ပြည်နယ် | ၁၈ | ၆၃၉၁၉ |
| ၉။ | ရခိုင်ပြည်နယ် | ၄၄ | ၁၈၄၈ |
| ၁၀။ | ရှမ်းပြည်နယ် | ၂၈ | ၁၀၇၄၂၀ |
| ၁၁။ | ကချင်ပြည်နယ် | ၈ | ၃၀၃၁၈ |
| ၁၂။ | ကရင်ပြည်နယ် | ၅ | ၇၇၁၇ |
| ၁၃။ | ကယားပြည်နယ် | ၁ | ၄၅၅၂ |

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးဟာ ခရီးလမ်းပန်း ကြမ်းတမ်းခက်ခဲတဲ့နေရာတွေအထိ အသက်ကို မငဲ့ကွက်ဘဲ ကြွရောက် သာသနာပြုခဲ့လို့ ယခုလိုအောင်မြင်ခြင်း ဖြစ်ပါတယ်။ ဆရာတော်ဘုရားကြီး ကို အနားယူဖို့ တောင်းပန်တဲ့အခါ 'ဒီက မပင်ပန်းပါဘူး'လို့ အမိန့်ရှိတော်မူ ပါတယ်။ ကျန်းမာရေး မကောင်းရင် ဆေးထိုးပြီး အလုပ်လုပ်ပါတယ်။

"အရှင်ဘုရား၊ အသားဓာတ်လို နေပါတယ်" လို့ ဆရာဝန်က လျှောက်တဲ့ အခါ -

"သက်သတ်လွတ်စားလာတာ ကြာပြီ၊ အခုမှ အသားဓာတ်လိုရသလား" လို့ ပြန်မိန့်တတ်ပါတယ်။

နိုင်ငံခြားဟိုတယ်တစ်ခုမှာ ကြက်ဥကြော်နဲ့ ဆွမ်းကပ်တဲ့အခါ မစားပါ ဘူး။ ရန်ကုန် သာသနာ့ရိပ်သာမှာ ကြက်ဥပြုတ် (လေဥ)ဆိုပြီး လာကပ် တော့လည်း မစားပါဘူး။

"ဘုန်းကြီး သက်သတ်လွတ်စားပါတယ်"လို့ အမိန့်ရှိပါတယ်။

ပညာရှိ သူတော်ကောင်းကြီးများဟာ အခြေအနေ အချိန်အခါပေါ် မူတည်ပြီး မူပြောင်းတာမျိုး လုပ်လေ့မရှိပါ။ မိမိရဲ့ ခိုင်မြဲတဲ့ဆုံးဖြတ်ချက်အပေါ် မှာ ရဲရဲရင့်ရင့် ရပ်တည်တော်မူလေ့ရှိ ကြပါတယ်။

မဟာစည်ဆရာတော်ဘုရားကြီးဟာ မိမိကိုယ်တိုင် သက်သတ်လွတ်စား သော်လည်း အခြားသံဃာတော်များ အသားငါးစားခြင်းအပေါ် ဘယ်လိုမှ မှတ်ချက်မပေးခဲ့ပါ။ မိမိသက်သတ်လွတ်စားရခြင်းဟာလည်း နှင်းခူနာရှိခဲ့ ဖူးလို့လို့ အကြောင်းပြခဲ့ကြောင်း သိရပါတယ်။

## ပြည်တွင်းသာသနာ ခိုင်မာစေဖို့

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးဟာ ၁၉၅၂-ခုနှစ်က စပြီး အိန္ဒိယ၊ သီဟိုဠ်(သီရိလင်္ကာ)၊ ဗီယက်နမ်၊ လာအို၊ ထိုင်း၊ အင်ဒိုနီးရှား၊ ဂျပန် စတဲ့နိုင်ငံများသို့ ကြွချီ သာသနာပြုတော်မူခဲ့ပါတယ်။

ပြည်ပခရီးစဉ်တွေထဲမှာ ဗီယက်နမ်မှာ ကြုံတွေ့ခဲ့ရပုံဟာ ထူးခြားတယ် လို့ ဆိုနိုင်ပါတယ်။

ဗီယက်နမ်မှာ မြင်ကွန်းမင်းသားကြီးရဲ့သမီး ဒေါ်ဖြူဆိုတာ ရှိပါတယ်။ ဒေါ်ဖြူဟာ ပရုတ်ဆီလုပ်ငန်းနဲ့ ဗီယက်နမ်မှာ ချမ်းသာနေပါတယ်။ မြင်ကွန်း

မင်းသားကြီးဟာ ကုန်းဘောင်ခေတ်မှာ အင်မတန် ထင်ရှားတဲ့ နယ်ချဲ့ဆန့်ကျင်ရေးသမားကြီး ဖြစ်ပါတယ်။ ပြင်သစ် အကူအညီနဲ့ ဗြိတိသျှကိုတော်လှန်ရင်း ဆိုင်ဂုံမှာ ခေါင်းချသွားသူပါ။ မဟာစည် ဆရာတော်ဘုရားကြီးဟာ ညောင်ရမ်းဆရာတော်ဘုရားကြီးနဲ့တကွ ဆိုင်ဂုံသုသာန်သို့ကြွပြီး မြင်ကွန်းမင်းသားကြီးရဲ့ အုတ်ဂူမှာ သရဏဂုံတင် ပရိတ်ရွတ်ခြင်း၊ မေတ္တာပို့ခြင်းတွေ ပြုခဲ့ပါတယ်။

အမျိုးဘာသာ သာသနာရဲ့ လေးနက်တဲ့ ဆက်သွယ်မှုကို မဟာစည်ဆရာတော်ဘုရားကြီး အထူးဂရုပြု ဆောင်ရွက်ပေးတော်မူခဲ့ပါတယ်။

ကျေးဇူးရှင် မဟာစည်ဆရာတော် ဘုရားကြီးက ၁၉၆ဝ မှ ၁၉၇၈-ခုနှစ်အတွင်း ပြည်ပသို့ ကြွမြန်းခြင်း အလျဉ်းမပြုဘဲ ပြည်တွင်းမှာသာ သာသနာတော် ခိုင်မြဲ စည်ပင်ပြန့်ပွားရေးတွေကို ဇောက်ချဆောင်ရွက်တော်မူခဲ့ပါတယ်။

အဲဒီ(၁၈)နှစ်ကာလဟာ ဝိသုဒ္ဓိမဂ် အပါအဝင် ကျမ်းပေါင်းများစွာ ပြုစုတော်မူခဲ့တဲ့ နှစ်ကာလများ ဖြစ်ပါတယ်။ မြန်မာနှစ် ၁၃ဝဝ ပြည့်ကစပြီး မဟာစည်ဆရာတော်ဘုရားကြီးဟာ ဝိပဿနာလမ်းညွှန်ကျမ်းကို စတင်ပြုစုတော်မူခဲ့ရာ ၁၃၅၈-ခုနှစ်အထိ (၅၈) နှစ်အတွင်း စာအုပ်စာစဉ်ပေါင်း (၈၇) အုပ် ရေးသားတော်မူခဲ့ပါတယ်။

၁၉၇၈ မှာ ဆရာတော်ဘုရားကြီးရဲ့ ဝိပဿနာ အလုပ်ပေးတရားတော်ကစပြီး အင်္ဂလိပ်ဘာသာ ပြန်ဆိုခဲ့ရာ ၁၉၈၅-ခုနှစ်မှာ ပြန်ဆိုတဲ့ ဗြဟ္မဝိဟာရတရားတော်အထိ အင်္ဂလိပ်ဘာသာပြန် စာအုပ်ပေါင်း (၂၉)အုပ် ရှိခဲ့ပါတယ်။

အင်္ဂလိပ်ဘာသာ ပြန်ဆိုပေးခဲ့တဲ့ ပညာရှင်များကတော့ ဦးညီညီ၊ ဦးသာနိုး၊ မြန်အောင်ဦးတင်၊ ဦးမင်းဆွေ၊ ဒေါ်ကေမြရီ၊ ဦးအေးမောင်၊ မန္တလေးဦးကိုလေး၊ ဒေါက်တာကိုကိုကြီး၊ ဦးထင်ဖတ်၊ ဦးအဂ္ဂမမွ၊ ဦးအုန်းဖေ စတဲ့ပညာရှင်များ ဖြစ်ပါတယ်။

အချို့ အင်္ဂလိပ် ဘာသာပြန်မှုများကို ဆရာတော်ဘုရားကြီးကိုယ်တိုင် ကြည့်ရှုတည်းဖြတ်ပေးခဲ့ပါတယ်။

မဟာစည်ယောဂီများ ကျန်းမာချမ်းသာစွာဖြင့် မကြောင့်မကြ တရားအားထုတ်နိုင်အောင် ၁၃၂၇-ခု၊ တန်ခူးလပြည့် (၅. ၄. ၆၆) မှာ ဦးဘညိန် ခေါင်းဆောင်ပြီး ဟိတေသီအဖွဲ့ တည်ထောင်ခဲ့ပါတယ်။ မဟာစည်ဆရာတော်ဘုရားကြီးရဲ့ ဩဝါဒ ခံယူဖွဲ့စည်းခြင်း ဖြစ်ပါတယ်။ အကျိုးကို ဆောင်

တတ်သောကြောင့် ဟိတေသီမည်၏လို့ ဆရာတော်ကြီးက အဓိပ္ပာယ်ဖွင့်ဆို ပေးခဲ့ပါတယ်။

အဖွဲ့ဝင်တို့ဟာ အခက်အခဲကြုံခဲ့လျှင် စိတ်မပျက်ရ၊ စိတ်ဓာတ်မကျရ၊ အောင်မြင်မှုနှင့် ကြုံရရလျှင်လည်း မာန်မာန မထောင်လွှားရ၊ ချွတ်ယွင်းမှု ဖြစ်ပေါ်လျှင် တစ်ဦးနှင့်တစ်ဦး အပြစ်တင်ခြင်းအစား သည်းခံခြင်းဖြင့် ဆောင်ရွက်ရမည် စသည်ဖြင့် မဟာစည်ဆရာတော်ကြီးက ဩဝါဒပေးခဲ့ပါ တယ်။

သာသနာပြုလုပ်ငန်းများ ပိုမိုတွင်ကျယ် စည်းလုံးစွာ လုပ်တောင်နိုင်ရေး အတွက် အမျိုးသမီးအဖွဲ့တစ်ရပ် ဖွဲ့စည်းသင့်ကြောင်း မဟာစည်သာသနာ့ ရိပ်သာ နာယကဆရာတော် ဦးဇဝနက ဆရာတော်ကြီးကို လျှောက်ထားတဲ့ အခါ ခွင့်ပြုတဲ့အတွက် ၁၃၄၀ ပြည့်၊ ကဆုန်လပြည့် (၂၀. ၅. ၇၈)မှာ အမျိုးသမီး ယောဂီစောင့်ရှောက်ရေးအဖွဲ့ ပေါ်ပေါက်လာခဲ့ပါတယ်။

အမျိုးသမီးယောဂီ စောင့်ရှောက်ရေးအဖွဲ့က ယောဂီများ လက်ခံနေရာ ချထားရေးနှင့် ပြန်ကြားရေး၊ လမ်းညွှန်ကူညီရေး၊ ကျန်းမာသန့်ရှင်းရေး၊ ဘဏ္ဍာငွေရှာဖွေရေးနဲ့ ဆွမ်းကွမ်းဝေယျာဝစ္စ စသည်တို့ကို အောင်မြင်စွာ ဆောင်ရွက် ကူညီနိုင်ခဲ့ပါတယ်။

၁၃၃၂-ခုနှစ်မှာ မဟာစည်နယ်လှည့်ဓမ္မကထိက အဖွဲ့ချုပ်ကြီးဟူ၍ ထူးထူးခြားခြား ပေါ်ပေါက်ခဲ့ပြန်ပါတယ်။ အဲဒီနှစ် ရိပ်သာဝင်ယောဂီတွေထဲက တိုင်းမင်းကြီး ဝဏ္ဏကျော်ထင်စည်သူ ဦးညီပုဟာ ဉာဏ်စဉ်တရား နာခွင့်ရပြီး သဒ္ဓါတရားများ ထူးခြားစွာ ဖြစ်ပေါ် လာခဲ့ပါတယ်။

သတိပဋ္ဌာန် ဝိပဿနာတရားကို နိုင်ငံအနှံ့ လှည့်လည် ဟောကြားနိုင် အောင် ဓမ္မကထိကနှစ်ပါး ပေးသနားပါရန် ဦးညီပုက မဟာစည်ဆရာတော် ဘုရားကြီးထံ ပန်ကြားလျှောက်ထားခဲ့ပါတယ်။

ဆရာတော်ဘုရားကြီးက ကမ္မဋ္ဌာနာစရိယ ဆရာတော်နှစ်ပါးဖြစ်တဲ့ ဦးသံ ဝရနဲ့ ဦးကုန္တကတို့ကို နယ်လှည့်ဓမ္မကထိကများအဖြစ် စတင်ခွင့်ပြုတော်မူ ပါတယ်။

၁၃၃၂-ခုနှစ်၊ တစ်နှစ်တည်းမှာ ရွှေဘို၊ စစ်ကိုင်း၊ မြစ်ကြီးနား၊ မိုးညှင်း၊ မိုးကောင်း၊ ထမံသိ၊ ဟုမ္မလင်း မော်လိုက်၊ ကလော၊ ကလေးဝစတဲ့မြို့ရွာကြီး များမှာ တရားပွဲ (၈၀)ကျော် ခြိမ့်ခြိမ့်သဲ အောင်ပွဲခံနိုင်ခဲ့ပါတယ်။

၁၃၃၃-ခုနှစ်သို့ ရောက်တဲ့အခါ နယ်လှည့်ဓမ္မကထိက (၁၈) ပါးအထိ တိုးတက်ဖွဲ့စည်းကာ နိုင်ငံအနှံ့ ဓမ္မဒူတ ခရီးနှင်စေခဲ့ပါတယ်။ မဟာစည် ဓမ္မကထိကဖြစ်နိုင်ဖို့ အခြေခံအရည်အချင်းတွေက -

ဉာဏ်စဉ်နာပြီး ဖြစ်ရမယ်၊ ပထမကြီးတန်း အောင်ရမယ်၊ (၁၀)ဝါရပြီး ဖြစ်ရမယ်။

အားထုတ်ဆဲ ယောဂီများကို နာရီဝက် တရားဟောစေပြီးမှ စိစစ်ရွေးချယ်ခဲ့တာဖြစ်ပါတယ်။ စိစစ်ပုံမှာ ပါဠိရွတ်ရာ၌ ပုဒ်ဖြတ်၊ ပုဒ်စပ် မှန်, မမှန်၊ အနက်ပေး မှန်, မမှန်၊ အာရှင်း, မရှင်း၊ လေယူလေသိမ်း အသံနေ အသံထား တို့အပေါ် စိစစ်ရွေးချယ်ခြင်း ဖြစ်ပါတယ်။ စနစ် စည်းကမ်း စေတနာမှန်တဲ့ အတွက် မဟာစည်သာသနာ အဓွန့်ရှည်ခြင်း ဖြစ်ပါတယ်။

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးရဲ့ သီလ၊ သမာဓိ၊ ပညာဂုဏ်သတင်းများကြောင့် ယောဂီများမှာ မဟာစည်ရိပ်သာတိုင်းတွင် တစ်နေ့တခြား ဒီရေအလား တိုးပွားလာခဲ့ပါတယ်။

လူကြီးများနဲ့အတူ ပါလာတတ်တဲ့ လူငယ်များ၊ ကလေးများကို ကြည့်လိုက်တဲ့အခါ ယဉ်ကျေးမှုက ဆုတ်ယုတ်နေခြင်း၊ နမောတဿကစပြီး အသံထွက်မှန်အောင် မရွတ်နိုင်ခြင်း စသည့် အားနည်းချက်များကို တွေ့ရတဲ့အခါ မဟာစည်ဗုဒ္ဓဘာသာ ယဉ်ကျေးမှုသင်တန်းကြီး စတင်ပေါ်ပေါက်လာခဲ့ပါတော့တယ်။

အချိန်အားဖြင့် ၁၃၃၁-ခု(၁၉၆၉) ခုနှစ်က စတင်ဖွင့်လှစ် သင်ကြားခဲ့ရာ တစ်နှစ်ထက်တစ်နှစ် တိုးတက်အောင် မြင်ခဲ့ပါတယ်။ အခြေပြုတန်း၊ ပထမတန်းကစပြီး ဒသမတန်းအထိ သင်ရိုးညွှန်းတမ်းများ စနစ်တကျပြဋ္ဌာန်းကာ သင်ကြားပို့ချခဲ့ခြင်း ဖြစ်ပါတယ်။ အခြေပြုတန်းမှ အဋ္ဌမတန်းအထိ အရှင်ကေလာသရေးတဲ့ ကျမ်းစာအုပ်များ၊ အဋ္ဌမနဲ့နဝမတန်း၊ ဒသမတန်းတို့မှာ မဟာစည်ဆရာတော်ကြီးရေးတဲ့ ကျမ်းစာအုပ်များ ပြန်ဋ္ဌာန်းပို့ချတော်မူခဲ့ပါတယ်။ ဗုဒ္ဓဘာသာယဉ်ကျေးမှုသင်တန်းကြီးဟာ ယနေ့တိုင် အထူးအောင်မြင်၊ အထူးအကျိုးပြုနေတဲ့ သင်တန်းကြီးဖြစ်ပါတယ်။

၁၉၉၀ ပြည့်၊ ဇွန်လ ၁၀ ရက်မှာ မရမ်းကုန်းမြို့နယ်၊ ကမ္ဘာအေးဘုရားလမ်း၊ အမှတ်/၅၅၊ မဟာဂန္ဓာရုံကျောင်းအတွင်းမှာ အပြည်ပြည်ဆိုင်ရာ ဗုဒ္ဓသာသနာပြု သင်တန်းဌာနကို ဖွင့်လှစ်နိုင်ခဲ့ ပါတယ်။ ဒီသင်တန်းကျောင်း

ကြီးဟာလည်း ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီးထံမှ မြစ်ဖျားခံလာခဲ့ခြင်းဖြစ်ပါတယ်။ ဆရာတော်ကြီးဟာ အာရှ ဥရောပ ကမ္ဘာတစ်ခွင် လှည့်လည်သာသနာပြုတော်မူခဲ့ရာ ဆရာတော်ကြီးကို ကြည်ညိုတဲ့ နိုင်ငံခြားသားများမြန်မာပြည်အထိ လိုက်လာပြီး တရားအားထုတ်ကြပါတယ်။ သူတို့ နားလည်အောင် ပြောဟောနိုင်ဖို့ အင်္ဂလိပ်စာ စကားတတ်မြောက်ဖို့ လိုအပ်လာပါတယ်။ အပြန်အလှန်အားဖြင့် နိုင်ငံခြားသားများလည်း မြန်မာစာ ပါဠိဗုဒ္ဓဘာသာဆိုင်ရာများ သင်ကြားနားလည်ဖို့ လိုအပ်ပါတယ်။

ဒါကြောင့် ၁၉၇၇၊ ဩဂုတ်လ ၄ ရက်မှာ မဟာစည်ဆရာတော်ဘုရားကြီးရဲ့ ခွင့်ပြုချက်အရ သံဃာတော်ရှစ်ပါး အင်္ဂလိပ်စာ စတင်သင်ကြားခဲ့ပါတယ်။ မဟာစည် ယောဂီဦးလူကျော်က သင်ပေးခဲ့ခြင်း ဖြစ်ပါတယ်။ ဒါဟာအပြည်ပြည်ဆိုင်ရာ ဗုဒ္ဓသာသနာပြု သင်တန်းရဲ့အစဖြစ်ပြီး နောင်အခါအဆင့်ဆင့်တိုးတက်လာခဲ့ရာ ၁၉၉၀ မှာ သင်တန်းဌာနကြီးအဖြစ် စနစ်တကျဖွင့်လှစ်နိုင်ခဲ့ပါတော့တယ်။ နိုင်ငံခြားသားယောဂီများ၊ မြန်မာယောဂီများ၊ ရဟန်းတော်များကို သင်ရိုးညွှန်းတမ်းများဖြင့် အရည်အချင်းပြည့်မီအောင် မြှင့်တင်ပေးနိုင်ခဲ့ပါတယ်။ မဟာစည်ဆရာတော်ကြီးရဲ့ ကြီးမားတဲ့ အမြော်အမြင်ကို ဒီသင်တန်းဌာနကြီးက သက်သေ ထူနေသလို ရှိပါတော့တယ်။

**မဟာစည်သာသနာ ကမ္ဘာသို့**

(၁၈)နှစ်လုံးလုံး ပြည်တွင်း သာသနာ ခိုင်မာပြန့်ပွားအောင် လုပ်ဆောင်ပြီးတဲ့နောက် ၁၉၇၉-ခု နှစ်ဦးမှာ အင်္ဂလန်မှ ဦးရေဝတဓမ္မနှင့် အမေရိကန်မှ မစ္စတာဂျိုးဇက်ဂိုးလ်စတိန်းတို့ရဲ့ အကြိမ်ကြိမ် ပင့်ဖိတ်လျှောက်ထားချက်အရ မဟာစည်ဆရာတော်ဘုရားကြီးဟာ ပြည်ပသို့ ကရုဏာကြီးမားစွာ ကြွရောက်တော်မူခဲ့ပါတယ်။ ဗုဒ္ဓတရားတော်ကို နိုင်ငံခြားသားများ အလွယ်တကူ သဘောပေါက်နိုင်ရေးအတွက်-

(၁) ဗုဒ္ဓဘုရားရှင်၏ အမြတ်ဆုံးတရားတော်
(၂) ဗုဒ္ဓသာသနာတရားတော်
(၃) သတိပဋ္ဌာန်တရားတော် (ပ)
(၄) သတိပဋ္ဌာန်တရားတော် (ဒု)
(၅) ချမ်းသာရေးတရားတော် စတဲ့ စာအုပ်(၅)အုပ်အဖြစ် ချက်ချင်းရေးပြီး

အားလုံး စုပေါင်းကာ ကမ္ဘာ့သာသနာပြု တရားတော်လို့ အမည်ပေးခဲ့ပါတယ်။ ဦးညီညီနဲ့ ဦးသာနိုးတို့က အင်္ဂလိပ်ဘာသာပြန်ဆိုခဲ့ပြီး ဆရာတော်ကြီးကိုယ်တိုင် တည်းဖြတ်တော်မူပါတယ်။

၁၉၇၉၊ ဧပြီ ၁ ရက်က စတင်ခဲ့တဲ့ ကမ္ဘာ့သာသနာပြု ခရီးစဉ်ကြီးဟာ ထိုင်း၊ ဟောင်ကောင်၊ ဂျပန်၊ အမေရိကန်၊ အင်္ဂလန်၊ စကော့တလန်၊ ပြင်သစ်၊ ဆွစ်ဇာလန်၊ အီတလီ၊ ဟော်လန်၊ ဂျာမနီစတဲ့နိုင်ငံများစွာသို့ လှည့်လည်သာသနာပြုနိုင်ခဲ့ပါတယ်။

ပြည်ပသာသနာပြု ခရီးစဉ်ကြီးအတွင်း ထူးခြားမှုပေါင်းများစွာထဲက ဝါရှင်တန် ဗုဒ္ဓဝိဟာရကျောင်းတိုက်မှာ ထေရဝါဒဘုန်းတော်ကြီး ဆယ့်သုံးပါးတို့နဲ့အတူ သိမ်သမုတ်ပေးတော်မူခြင်း ဖြစ်ပါတယ်။ ရောက်လေရာမှာ ရဟန်းခံပေးခြင်း၊ ရှင်ပြုပေးခြင်းတို့ကိုလည်း အခါအားလျော်စွာ ဆောင်ရွက်ပေးတော်မူခဲ့ပါတယ်။

အသိပညာရှင်၊ အတတ်ပညာရှင်များ မွေးထုတ်ရာ ကမ္ဘာကျော် ဟားဗက် (Harvart) တက္ကသိုလ်ကြီးမှာ ဗုဒ္ဓဘာသာရဲ့ အနှစ်သာရ ဓမ္မလမ်းစဉ်ကို ရှင်းပြခဲ့ပြီး သတိပဋ္ဌာန်တရားတော်ကြီးကို မိတ်ဆက်ဟောကြားတော်မူခဲ့ပါတယ်။

'အကျဉ်းချုပ်အားဖြင့် မိမိသန္တာန်မှ ဖြစ်တိုင်းဖြစ်တိုင်း ကိုယ်အမူအရာတွေ ရှုမှတ်ဖို့၊ ခံစားမှုဝေဒနာတွေ ရှုမှတ်ဖို့၊ စိတ်ကူးကြံစည်တိုင်း ရှုမှတ်သိဖို့၊ မြင်မှု ကြားမှုတွေကို ရှုမှတ်သိဖို့ လိုပါတယ်။

အကျယ်ကတော့ ကမ္ဘာ့သာသနာပြု စာအုပ်ထဲမှာ ရှိပါတယ်။

အဲဒီလိုဖြစ်တိုင်း ရှုမှတ်ပေမယ့်စခါစမှာတော့ အကုန်မမှန်နိုင်ပေဘူး။ အဲဒါဟာ သမာဓိမဖြစ်သေးလို့ပေဘဲ။ ဒါကြောင့် သမာဓိဖြစ်အောင် နည်းနည်းက စ,ရှုဖို့ ထင်ရှားတဲ့နည်းနဲ့ လှုပ်ရှားမှုအနည်းငယ်ကစပြီး ရှုခိုင်းရတယ်။ ဝမ်းဗိုက်မှာ ဖောင်းတာပိန်တာကစပြီး ရှုရမယ်၊ ဝေဒနာပေါ်လာတိုင်း၊ ဖြစ်တိုင်း ရှုရမယ်၊ စိတ်ကူးကြံစည်မှုတွေ ဖြစ်တိုင်း ရှုရမယ်။ ရုပ်နဲ့နာမ်တရားအကြောင်းနဲ့ အကျိုးတရားတွေဖြစ်တိုင်း ရှုရမယ်၊ စိတ်ကူးစဉ်းစားရတာမဟုတ်ဘူး၊ ပေါ်လာသမျှ ရှုမှတ်ရုံပါပဲ။ သမာဓိဖြစ်လာတော့ အကုန်ရှုမှတ်နိုင်ပါလိမ့်မယ်။ ကိုယ်တိုင်တွေ့နိုင်တဲ့ သဘောတွေကို ကိုယ်တိုင်တွေ့မှာပါပဲ။ သမာဓိဖြစ်ရင် အမှန်အတိုင်းဖြစ်ပြီး ပျက်သွားတာလည်း တွေ့ရတယ်၊ အဲဒီလို

တွေ့သိရာကနေပြီး အရိယာမဂ်ဖိုလ်ကိုရောက်ရင် ဆင်းရဲခပ်သိမ်း အကုန်ငြိမ်းသွားမယ်"

မဟာစည်ဆရာတော်ဘုရားကြီးဟာ သတိပဋ္ဌာန်တရားတော်ရဲ့ ကျေးဇူးကြီးပုံတွေကို နိုင်ငံခြားသား စိတ်ရောဂါ အထူးကုဆရာဝန်ကြီးများ၊ ပညာရှင်များနားလည် လက်ခံနိုင်တဲ့အထိ သာဓကဆောင် ရှင်းပြပါတယ်။

'ဘုန်းကြီးတို့ ညွှန်ကြားတဲ့အတိုင်း အားထုတ်လို့ ရောဂါဝေဒနာပျောက်သွားခဲ့တာ ရှိပါတယ်။ ဘုရားရှင်ပရိ နိဗ္ဗာန်စံဝင်ခါနီးမှာပင် အကြီးအကျယ်ဝေဒနာဖြစ်ခဲ့တယ်။ အဲဒါကို ဘုရားကိုယ်တော်တိုင် ဝိပဿနာရှုမှတ်လို့ ရောဂါဝေဒနာ ခံစားမှုမရှိတော့ဘဲ ပျောက်သွားတယ်။ ဘာကြောင့် ပျောက်သွားသလဲဆိုရင် စိတ်ကြောင့်ဖြစ်တဲ့ စိတ္တဇရုပ်ဆိုတာဟာ ရှိတယ်။ ရှုမှတ်နေရင် ရှုမှတ်နေတဲ့စိတ်က အင်မတန် စင်ကြယ်တယ်၊ အင်မတန်ကောင်းတယ်၊ ဒီလိုကောင်းမြတ်တဲ့စိတ်၊ သန့်ရှင်းစင်ကြယ်တဲ့စိတ်တွေကြောင့် သန့်ရှင်းစင်ကြယ်တဲ့ ရုပ်ကောင်းတွေက တစ်ကိုယ်လုံးပြန့်ပြီးတော့ ရုပ်ညံ့တွေ ကင်းပျောက်ပြီးကျန်းမာကြတာပဲ၊ ဒီလို ကင်းပျောက်ပြီး ကျန်းမာကြပုံကို ကိုယ်တွေ့အားဖြင့်ဆင်ခြင်ကြည့်ရင် သိနိုင်ပါတယ်။ စိတ်ပျော်ရွှင်နေတဲ့အခါ ရုပ်က ကြည်ကြည်လင်လင် သန့်သန့်ရှင်းရှင်း ဖြစ်နေပုံမျိုးပါပဲ၊ တချို့ လူတွေမှာ နည်းအမျိုးမျိုးနဲ့ရောဂါကုလို့ မပျောက်ပေမယ် တရားအားထုတ်တာနဲ့ တစ်ခါတည်း ပျောက်သွားတာလည်း ရှိပါတယ်' စသည်ဖြင့်ရှင်းပြမိန့်ကြားတော်မူခဲ့ပါတယ်။

စိတ်ရောဂါနဲ့ ပယောဂ ပျောက်ကင်းချမ်းသာပုံကိုလည်း ထည့်သွင်းမိန့်ကြားသွားပါတယ်။

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးရဲ့ ကမ္ဘာ့သာသနာပြုခရီးစဉ်ကြီးဟာ (၂၇. ၇. ၇၉)မှာ ပြီးဆုံးခဲ့ပါတယ်။ အဲဒီနေ့ ဗန်ကောက်မှရန်ကုန်လေဆိပ်သို့ ည ၇း၃၀ နာရီမှာ ပြန် ရောက်ခဲ့ပါတယ်။ ခမ်းနားစွာကြိုဆိုပင့်ဆောင်လာခဲ့ကြပြီး ရိပ်သာပြန်ရောက်တဲ့အခါ ယောဂီပရိသတ်ပေါင်းများစွာ အသင့်ကြိုဆိုဖူးမြော်ကန်တော့ကြပါတယ်။ ဆရာတော်ဘုရားကြီးဟာ လုံးဝနားနေခြင်း မပြုတော့ဘဲ သာသနာပြုအတွေ့အကြုံတွေကို မိနစ် ၂၀ ခန့် မိန့်ကြားကာ နှုတ်ခွန်းဆက် ဩဝါဒချီးမြှင့်ပါတယ်။

"အမေရိက ဥရောပနိုင်ငံကြီးတွေမှာ ဗုဒ္ဓဘာသာနိုင်ငံတွေနဲ့ နှိုင်းစာကြည့်ရင် အင်မတန် အားနည်းသေးကြောင်း၊ ဒီမှာ တရားအားထုတ်နေသူတွေ

အင်မတန်ဝမ်းသာစရာကောင်းကြောင်း” စသည်ဖြင့် အားပေးတော် မူခဲ့ပါတယ်။

ကျေးဇူးရှင် မဟာစည်ဆရာတော် ဘုရားကြီးဟာ သက်တော်(၇၆)၊ သိက္ခာတော်(၅၇)ဝါအရ (၂၉. ၅. ၈၀)မှာ အနောက်ကမ္ဘာသို့ နောက်တစ်ကြိမ် သာသနာပြုခရီး ကြွတော်မူခဲ့ပြန်ပါတယ်။ ပြည်တွင်းပြည်ပ ရောက်လေရာ တိုင်းမှာ ဝိပဿနာတရားကို အဓိကထား ဟောကြားသော်လည်း သမထကို မပစ်ပယ်ကြောင်း ဗုဒ္ဓသာသနာ့အန္တရာယ် ကာကွယ်ရေးတရားတော်မှာ ထည့်သွင်းဟောကြားသွားပါတယ်။

‘တချို့က ဝိပဿနာကို အလေးပြုပြီးတော့ သမထကမ္မဋ္ဌာန်းကို အားမထုတ်ကောင်းသလိုလို ရှုတ်ချပြီး ပြောဆိုတတ်ကြတယ်။

အဲဒီလို မရှုတ်ချကောင်းပါဘူး၊ တတ်နိုင်ရင် စျာန်ရသည့်တိုင်အောင် သမထကမ္မဋ္ဌာန်းကို အားထုတ်ပြီးတော့ ဝိပဿနာရှုရင် ဝိပဿနာဉာဏ်ထူး မဂ်ဖိုလ်တရားထူးများကို အလွယ်တကူ လျင်မြန်စွာ ရနိုင်ပါတယ်။

ဒါကြောင့် ဝိသုဒ္ဓိမဂ်မှာ သမထ ကမ္မဋ္ဌာန်းတွေကို အပြည့်အစုံ တင်ပြထားတာပါပဲ’

မသိသူကျော်သွား သိသူဖော်စားဖို့ လမ်းညွှန်တော်မူခဲ့ပေပြီ။

ပြည်တွင်းပြည်ပ အမေးပုစ္ဆာ ပြဿနာရှင်းခန်းတွေထဲမှာ အားလုံးသိချင်နေတဲ့ ‘နိဗ္ဗာန်’ အကြောင်းကို ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီးက -

“နိဗ္ဗာနဆိုတာ ငြိမ်းသည်ဟု အနက်အဓိပ္ပာယ်ရှိသည်၊ ကိလေသာတွေ အကုန်ငြိမ်းခြင်း၊ ရုပ်နာမ်တွေ အကုန်ငြိမ်းခြင်းပင် ဖြစ်သည်။

ငြိမ်းဆိုတာကလည်း အသစ်ဖြစ် ခွင့်မရှိတော့ဘဲ ပြတ်စဲခြင်း၊ ကင်းခြင်းပင်ဖြစ်သည်။ အဲဒီလို ကိလေသာဟူသမျှ လုံးဝငြိမ်းသည့်အတွက် ဘဝသစ် ရုပ်နာမ်တွေဖြစ်ခွင့်မရှိတော့ဘဲ ဆင်းရဲအားလုံး ငြိမ်းလေတော့သည်။

ဘဝအသစ်ဖြစ်ခြင်း ဇာတိမရှိသောကြောင့် အိုခြင်း၊ နာခြင်း၊ သေခြင်း၊ ကိုယ်စိတ်ဆင်းရဲခြင်းဟူသမျှ လုံးဝမရှိတော့ဘဲ ကင်းငြိမ်းသွားလေတော့သည်” ဟူ၍ အနှစ်ချုပ် မိန့်မြွက်တော်မူခဲ့ပါတယ်။

အဲဒီလို ခက်ခဲနက်နဲတဲ့ ဓမ္မကြောင်းများကို စာတစ်လုံးမှ မတတ်တဲ့ ယောဂီများကအစ မှတ်သားလွယ်ကူအောင် ဆောင်ပုဒ်လင်္ကာလေးများ ရေး

သားပေးသနားခဲ့တာလည်း မဟာစည် ဆရာတော်ဘုရားကြီးရဲ့ အလေးအမြတ် ပူဇော်အပ်တဲ့ ဂုဏ်ရည်တစ်ခုပါပဲ။

* အကုသိုလ်များ
ရှောင်ရှားပယ်လေ၊
ကုသိုလ်တရား ဖြစ်ပွားစုံစေ
မိမိစိတ်ဓာတ် ဆွတ်ဆွတ်ဖြူစေ၊
ဤသုံးပါး ဘုရားဆုံးမပေ။

* ပေါ်တိုင်းမပြတ် ရှုမှတ်နေလျှင်
ရုပ်နာမ်နှစ်မျိုး
ကြောင်းကျိုးသိမြင်
မမြဲဆင်းရဲ ဉာဏ်ထဲပေါ်လွင်
အနတ္တ သိရ နိဗ္ဗာန်ဝင်။

မဟာစည် ဆောင်ပုဒ်လင်္ကာများစွာဟာ သာသနာ့ဥယျာဉ်တော်ကြီးမှာ ယနေ့တိုင် လန်းဆန်းဝေဆာ ဖူးပွင့်နေဆဲပါ။

## သူတော်ကောင်းဂုဏ် ပြောလို့မကုန်

ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးနဲ့ စပ်လျဉ်းသမျှ ပြန်ပြောင်းတသ သတိရပူဇော်ပွဲတွေထဲမှာ နှစ်စဉ် ဝါဆိုလပြည့်ကျော် ၃ ရက်တိုင်း လေးဆူဓာတ်ပုံ ရွှေတိဂုံစေတီတော်မြတ်ကြီးကို ပန်း၊ ရေချမ်း၊ ဆီမီး၊ တံခွန်ကုက္ကားတွေနဲ့ သွားရောက် ပူဇော်ခဲ့ခြင်းပဲ ဖြစ်ပါတယ်။

မဟာစည် ဆရာတော်ဘုရားကြီး ကိုယ်တိုင် ဦးဆောင်၍ နာယကဆရာတော်များက ရှေ့တန်းမှနေရာယူကာ ဝန်ဆောင်သံဃာတော်များ၊ ဗုဒ္ဓသာသနာ့နုဂ္ဂဟအဖွဲ့ချုပ်၊ ဟိတေသီအဖွဲ့၊ အမျိုးသမီးယောဂီ စောင့်ရှောက်ရေးအဖွဲ့များမှ ယောဂီများ အစဉ်အတိုင်း နေရာယူပြီး ရွှေတိဂုံစေတီတော်မြတ်ကြီးကို ပူဇော်အထူး ပြုကြခြင်း ဖြစ်ပါတယ်။

ရှေးဦးစွာ (၁၀)မိနစ်ခန့် ဘုရားရှိခိုးပြီး (၁၅)မိနစ်တရားထိုင်၊ ပဋိပတ္တိပူဇာနာကာရကိုတိုင်ပေးပြီး လိုက်ဆို၊ နောက်ဆုံးမှာ ပန်း ရေချမ်းကပ်ပြီး ဆုတောင်းအမျှဝေခြင်းပဲ ဖြစ်ပါတယ်။ ပျံလွန်တော်မူခါနီး သုံးရက်အလိုမှာပင် ရွှေတိဂုံဘုရားကြီးကို ဆရာတော်ကြီးပူဇော်အထူးပြုခဲ့ပါသေးတယ်။

'ဆိမ်းရေချမ်း ပန်းလျှပါရ ဤပုညကို ဉာတကာနှင့် ဖြဟ္မာသိကြား အစ ထား၍ အများသတ္တဝါ ပေးဝေပါ၏။ ရစေ သာဓု ခေါ်စေသော်. . .

အမျှ . . အမျှ . . အမျှ

သာဓု . . သာဓု . . သာဓု

သူတော်ကောင်းဂုဏ် ပြောလို့ မကုန်နိုင်ဘူးဆိုတဲ့ စကားအတိုင်းပါပဲ။ လှံ့လဝီရိယကြီးမားစွာ သာသနာပြုတော်မူခဲ့တဲ့ ကျေးဇူးတော်ရှင် မဟာစည် ဆရာတော်ဘုရားကြီးရဲ့ ဂုဏ်အပေါင်းကို တစ်ပေါင်းတည်း ချီးကျူးပူဇော်ရ တာ ကုန်ဆုံးနိုင်ဖွယ် မမြင်ပါ။ မိုးပေါ်က ကြယ်တွေကို ရေတွက်လို့ ရချင်ရ မယ်။ သူတော်ကောင်းဂုဏ် ရေတွက်ပူဇော်လို့ မကုန်နိုင်ပါပြီ။

ဒါကြောင့် ရွှေတောင်ကုန်း သာသနာ့ရိပ်သာ ဆရာတော်ကြီးက -

"ကျေးဇူးတော်ရှင်လို့ ပြောရုံနဲ့ မပြည့်စုံဘူး၊ အနန္တ ကျေးဇူးတော်ရှင်လို့ ပြောမှ မဟာစည် ဆရာတော်ဘုရားကြီးရဲ့ဂုဏ် ငုံမိရုံပဲရှိတယ်"လို့ အမိန့်ရှိခဲ့ ခြင်း ဖြစ်ပါတယ်။

အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးဟာ နောက်ဆုံး အချိန်များထိ မနားမနေ အလုပ်လုပ်ဆဲ၊ သာသနာအတွက် အသက်ပေးနိုင် ရမယ်လို့ အမိန့်ရှိခဲ့ဖူးတဲ့အတိုင်း စံပြလုပ်ဆောင်နေဆဲ၊ ခန္ဓာဝန် စွန့်တော်မူ ခါနီးအချိန်အထိ အဘိဓမ္မာတရားတော်ကြီးကို နောက်ဆုံးကျမ်းစာအဖြစ် ရေးတော်မူဆဲ။

"ဒီကတဲ့ ဒွါရခြောက်ပေါက်နဲ့စပ်ပြီး ဘာကိလေသာတွေမှ မဝင်တော့ ဘူး"လို့ ရွှေမင်းဝံဆရာတော်ကို အမိန့်ရှိခဲ့ဖူးပါတယ်။ အောင်ပွဲတကာ့ အောင်ပွဲ တို့တွင် ကိလေသာတို့အပေါ် အောင်ပွဲဆင်နိုင်ခြင်းသည်သာ မဟာအောင်ပွဲ ထူးကဲလွန်မြတ် လှလေစွတကား။

အနန္တကျေးဇူးတော်ရှင် မဟာစည် ဆရာတော်ဘုရားကြီးဟာ နောက်ဆုံး အချိန်အထိ ယောဂီများ အလုပ်ပေး တရားနာချိန်ကို ကြွရောက်ချီးမြှင့်တော် မူခဲ့ပါတယ်။

၁၉၈၂၊ ဩဂုတ်လ ၁၂ ရက် ည နေပိုင်း ယောဂီတွေကို သီလပေးပြီး ပြန် အကြွ ကိုယ်တိုင်အဖျားတိုင်းခဲ့တယ်။

နည်းနည်း အနေခက်တယ်ဆိုတဲ့သဘော ဆရာတော်ကြီးရဲ့ အမူအရာ က စကားပြောနေပြီ။

အချိန်၏တန်ဖိုးကို အချိန်နှင့်အမျှ ဓမ္မဖြင့် စီခြယ်တော်မူခဲ့ပါတယ်။ မဟာစည်ဆရာတော်ဘုရားကြီးရဲ့ ရုပ်နာမ်ဟူသည် သိင်္ဂီရွှေခွက်၌တည်သော ခြင်္သေ့မင်း၏အဆီကဲ့သို့ပါတည်း။

မဟာစည်ဆရာတော်ဘုရားကြီး စာကြည့်စားပွဲပေါ် နောက်ဆုံးရောက်လာတဲ့ စာအုပ်တွေထဲမှာ တိပိဋကဓရ မင်းကွန်းဆရာတော်ဘုရားရဲ့ သုံးနှစ်တာခရီး ဆိုတဲ့စာအုပ်လည်း ပါဝင်ပါတယ်။

အဲဒီစာအုပ်ကို အကြောင်းပြုပြီး မဟာစည်ဆရာတော်ဘုရားကြီးက 'ပရိယတ္တိသာသနာတော်ကြီးကို ကျယ်ကျယ်ပြန့်ပြန့် သူက ပြုနိုင်တယ်၊ တော်တော် ဝမ်းသာစရာကောင်းတယ်'လို့ ချီးမွမ်းပါတယ်။ ဆဋ္ဌသံဂါယနာအတူတင်ခဲ့သူ မင်းကွန်းဆရာတော်ကြီးကို ချီးမွမ်းစကားဖြင့် အမှတ်ရလိုက်ခြင်း။

ပုဂ္ဂိုလ်ထူးကြီးများအတွက် အရေးပါတဲ့ ဖြစ်ရပ်ကြီးတွေ ဖြစ်ပေါ်လာတိုင်း အတိတ်ကြီး၊ နိမိတ်ကြီးတွေ ကြိုတင်ပြစမြဲ။ မဟာစည်ရိပ်သာကြီး၏ ဆွမ်းစားကျောင်းနှင့် ဖလ်ယဉ်ဓမ္မာရုံကြီးအနီးရှိ သရက်ဖြူပင်ကြီး(၁၀. ၈. ၈၂)၊ ပျံလွန်တော်မူရန် ၄ ရက်အလို) ကလည်း ပြိုကျခဲ့ပါတယ်။ ဘယ်သူ့ကိုမှ ဘယ်အရာကိုမှ မထိခိုက်ဘဲ လဲပြိုကျခြင်း။

အာရှဓာတ်ပုံတိုက်က ဓာတ်ပုံဆရာကလည်း မနေ့ကရိုက်ထားတဲ့ ဓာတ်ပုံတွေပျက်သွားလို့ပါဆိုပြီး ဆရာတော်ဘုရားကြီး နေမကောင်းတဲ့ကြားက နောက်ဆုံး ဓာတ်ပုံရိုက်ကူးဖို့ ခွင့်တောင်း(၁၃. ၈. ၈၂)နေ့ ပျံလွန်ရန် တစ်ရက်အလိုမှာ ဓာတ်ပုံရိုက်ဖို့ခွင့်ပြုတော်မူခဲ့ပါတယ်။ တကယ်တော့ နံနက် (၄)နာရီကတည်းက သံဃာတော်များနဲ့အတူ ဘုရားဝတ်တက်၊ (၄၅)မိနစ် တရားရှုမှတ်စသည်ပြုဖွယ်ကိစ္စများ မကျန်ရအောင် လုပ်ဆောင်ပြခဲ့ပြီး ဖြစ်ပါတယ်။

အဲဒီ ဗျာဓိနှိပ်စက်မယ့် ဩဂုတ် လ ၁၃ ရက်နေ့ကိုလည်း ဆရာတော်ဘုရားကြီးက ဩဂုတ်လ ၁၂ ရက်နေ့ကတည်းက ၁၃ ရက်နေ့သို့ ပြက္ခဒိန်ကို ကြိုရွှေ့ထားပါတယ်။ လာမယ့်ဘေး ပြေးတွေ့ခဲ့တာပါပဲ။

အဲဒီညမှာပဲ သန်းခေါင်ကျော်နှစ်နာရီလောက် ဆရာတော်ဘုရားကြီးရဲ့ အခန်းမီးပိတ်ထားပါလျက် တစ်ခန်းလုံးထိန်နေတာ ဒကာကြီးတစ်ယောက်ကတွေ့ရလို့ လာလျှောက်တဲ့အခါ 'ဘယ်သူ့မှ လျှောက်မပြောနဲ့နော်' လို့ ပိတ်လိုက်သတဲ့။

ဥပုသ်နေ့ သံဃာတွေ ကန်တော့စဉ်ကလည်း . . .

* စုံညီစွာ စည်းဝေးညှိနှိုင်းခြင်းဟာ ညီညွတ်ခြင်းရဲ့အကြောင်း၊
* ညီညွတ်ခြင်းသည် ချမ်းသာခြင်းရဲ့အကြောင်း၊
* ကိုယ့်ဟာကိုယ် သီးခြားနေကြမယ်ဆိုရင် ညီညွတ်ခြင်းရဲ့အကြောင်း မဟုတ်လို့ ဩဝါဒပေးတော်မူခဲ့ပါတယ်။

နောက်ဆုံးဩဝါဒဆိုတာ အားလုံးက မရိပ်စားမိခဲ့ပါဘူး။

ပျံလွန်တော်မူရန် တစ်ရက်အလို (ဩဂုတ်လ ၁၃ ရက်နေ့) အထိ ဆရာတော်ဘုရားကြီးဟာ ဒကာ၊ ဒကာမတို့ ဆက်ကပ်တဲ့ဆွမ်းကို ဘုဉ်းပေးသွားခဲ့ပါတယ်။ တစ်နည်းအားဖြင့် ဒကာ၊ ဒကာမတို့ရဲ့ သဒ္ဓါကို ချီးမြှောက်တော်မူခဲ့ပါတယ်။ ဆွမ်းဘုဉ်းပေးပြီး အမိန့်ရှိခဲ့တဲ့ ဩဝါဒကိုလည်း မှတ်သားထားကြစမ်းပါ။

"ဆွမ်းစတဲ့ ဝတ္ထုပစ္စည်းတွေ လှူခဲ့တာများပါတယ်၊ ကိုယ်တိုင်ကျင့်ကြံအားထုတ်တဲ့ အကျင့်တရားက အရေးကြီးတယ်၊ လိုအပ်တယ်"

ညနေ (၄)နာရီ ထိုးခါနီးတော့ ကိုယ်တော်တိုင် အဖျားတိုင်းပါတယ်။

'အဖျားလည်း မရှိ၊ ဒီနေ့ နေရတာတယ်ဟန်မကျဘူး၊ စာဖတ်ရတာလည်း တယ်ဟန်မကျဘူး'လို့ မိန့်ဆိုလိုက်ပေမယ့် ညနေ (၅)နာရီမှာ အလုပ်ပေးတရားဟောတော်မူပြန်ပါရော၊ တာဝန်ကျေပွန်ခြင်းရဲ့ ဟိုဘက် မိုင်ပေါင်းများစွာ လွန်အောင် ညွှန်ပြတော်မူခဲ့ပြီ။ သို့သော် မဖြစ်စဖူး တရားဟောကြားနေစဉ် (၇) ကြိမ် သမ်းဝေတော်မူခဲ့လေရဲ့။

ည ၇း၀၀ နာရီလောက် ရောက်တော့ ဦးသောဘနလေး (ယခု ရွှေမင်းဝံဆရာတော်) က မင်းကွန်းတိပိဋကရေ ဆရာတော်ကြီးရဲ့ သုံးနှစ်ခရီးစာအုပ်ကို ဖတ်ပြ၊ နားထောင်နေဆဲ -

'ရွှေစေတီဆရာတော်ဘုရားကြီးရဲ့ ဩဝါဒလည်း ပါ,ပါတယ် ဘုရား' လို့ လျှောက်ထားစဉ် မဟာစည်ဆရာတော်ဘုရားကြီးခေါင်းကို လက်နှစ်ဖက်ဖြင့် ပွတ်လျက် အတော်ခံစားနေရဟန်ဖြင့်-

"ဒီတစ်ခါဖြစ်တာ ခါတိုင်းလို မဟုတ်ဘူး'လို့ အမိန့်ရှိပါတယ်။

ဦးပဥ္စင်းဦးသောဘန ရိပ်မိလိုက်ပြီ။ အခြေအနေက လျင်မြန်စွာပြောင်းလဲခဲ့ပြီ။

ဦးပဥ္စင်းဦးသောဘန အကြောင်း ကြားလိုက်လို့ နာယကဆရာတော်များ၊

တပည့်သံဃာများ၊ ဆရာဝန်များ၊ ကပ္ပိယနှင့်ဒကာကြီးများအားလုံး ရောက်ရှိလာကြ။ ဆရာဝန်များ ကြပ်မတ်ကုသ။ နောက်ဆုံး ည ၁၀း၀၀ နာရီလောက်မှာ ရန်ကုန်ဆေးရုံကြီးသို့. . .။

သို့သော် မရတော့ပါ။ လေးလှသည့် ခန္ဓာဝန်ကြီးကို ထားခဲ့ပြီ။ တစ်ဘဝလုံး ကြိုးစားပြုစုတော်မူခဲ့တဲ့ သာသနာတော်မြတ်ကြီးကို တပည့်တွေဆီ ထားရစ်ခဲ့ပြီ။

အနန္တကျေးဇူးတော်ရှင် မဟာစည် ဆရာတော်ဘုရားကြီးဟာ မြန်မာနှစ် ၁၃၄၄-ခု၊ ဒုတိယဝါဆိုလပြည့်ကျော် ၁၀ ရက် (၁၉၈၂၊ ဩဂုတ်လ ၁၄ ရက်) စနေနေ့၊ မွန်းလွဲ (၁း၀၀) နာရီ၊ (၃၆) မိနစ်တွင် ခန္ဓာဝန်စွန့် (ပျံလွန်) တော်မူခဲ့ပါတယ်။

## အငြိမ်းဓာတ်သည် လင်းရောင်ခြည်

ပုထုဇဉ်တို့ရဲ့ ခွဲခွာခြင်းမှာပင် ကျန်ခဲ့သူများက ပို၍ခံစားရ၊ နှလုံးသားနာကျင်ကြေကွဲရပါတယ်။ အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီး စုတိကမ္မဇရုပ် ချုပ်ငြိမ်းတော်မူလေသောအခါ ဝိပဿနာကို ကောင်းစွာအားထုတ်ပြီး ယောဂီများပင် ဖြစ်လင့်ကစား အစားထိုးမရနိုင်သော ယူကျုံးမရခြင်းဖြင့် ကြေကွဲခြင်း ဖြစ်ရပါတယ်။

မဟာစည်ယောဂီများအတွက် သီးခြားကွက်၍ ဆုံးရှုံးခဲ့ခြင်း မဟုတ်ပါ။ ကမ္ဘာလောကအတွက်ပါ ဆုံးရှုံးနစ်နာရခြင်းမျိုး ဖြစ်ပါတယ်။

မဟာစည် ဆရာတော်ဘုရားကြီးရဲ့ ရုပ်ကလာပ်တော်ကို တစ်ပြည်လုံးက တဖွဲဖွဲတသဲသဲ ရောက်လာပူဇော်ကြပါတယ်။ ရုပ်ကလာပ်တော်ရှေ့ ရောက်ရှိဖူးမြော်နိုင်ရဖို့ အနည်းဆုံး သုံးနာရီ လေးနာရီခန့် တန်းစီစောင့်ဆိုင်းပြီးမှ ဖူးခွင့်ရပါတယ်။ တပည့်ဒကာ ယောဂီအပေါင်းတို့ရဲ့ နောက်ဆုံး ဖူးမြော်ခြင်းဟာ မြတ်သော ဓမ္မပူဇာပါပဲ။

သက်ရှိလူသားတွေကို မဆိုထားနှင့်၊ မဟာစည် ဆရာတော်ဘုရားကြီးရဲ့ ရုပ်ကလာပ်တော်ရှေ့မှာ သက်မဲ့ကုမုဒြာ ကြာဖြူပန်းတွေတောင် ထူးထူးဆန်းဆန်း လန်းလန်းဆန်းဆန်း အစွမ်းကုန် ပွင့်လန်းခြင်းဖြင့် ပူဇော်ခဲ့ကြပါတယ်။ တစ်ရက်မဟုတ်၊ သုံးရက်တိုင်အောင် ပွင့်လန်း မညှိုးစတမ်း ပူဇော်ခဲ့ခြင်း ဖြစ်ပါတယ်။

ဆဋ္ဌသံဂါယနာကို အတူတင်ခဲ့တဲ့ ကျေးဇူးရှင် မင်းကွန်းဆရာတော်ဘုရားကြီး ကြွရောက်တော်မူလာပြီး မဟာစည်ဆရာတော်ဘုရားကြီးရဲ့ ရုပ်ကလာပ်တော်ကို ကန်တော့ပါတယ်။

မဟာစည် ဆရာတော်ဘုရားကြီးရဲ့ အန္တိမအဂ္ဂိစျာပနသည် ဗုဒ္ဓမြတ်စွာဘုရားရဲ့ အလိုတော်နှင့် ကိုက်ညီရေးအတွက် စီစဉ်ဖြေရှင်းပေးတော်မူခဲ့ရပါတယ်။

(၂၀. ၈. ၈၂)သောကြာနေ့မှာ အနန္တကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီး၏ ရုပ်ကလာပ်တော်ကို (ကြံတော)သုသာန်သို့ ပို့ဆောင်သင်္ဂြိုဟ်တော်မူခဲ့ကြပါတယ်။

ကောင်းကင်ကြီးတစ်ခုလုံး ညို့မှိုင်းအုံ့ဆိုင်းလို့ တစ်ခါတရံ မိုးဖွဲကလေးတွေ ကျလာပုံဟာ ကောင်းကင်ကြီး ငိုနေသလား ထင်ရပါတယ်။ မြေပြင်၊ လမ်းမပေါ်မှာ လူတွေ့,လူတွေဆိုတာ ပင်လယ်ဝေနေပါတော့တယ်။ လူလှိုင်းတံပိုးကြီးတွေ တလိမ့်လိမ့် တက်လာနေပါတယ်။

ကမ္ဘာအေးဘုရားလမ်း၊ တက္ကသိုလ်ရိပ်သာလမ်း၊ ပြည်လမ်း၊ ကြံတော သုသာန်အဝင်လမ်းစတဲ့နေရာ လမ်းတွေမှာ တစ်ခဲနက် များပြားသော လူထုပရိသတ်ဟာ ငြိမ်သက်စွာ စောင့်ဆိုင်းနေနှင့်ပါတယ်။ သမိုင်းမှာ မကြုံဘူးတဲ့ ပရိသတ်လူထုကြီး ကမ္ဘာ့အခမ်းနားဆုံး ဈာပနကြီး ဖြစ်ခဲ့ပါတယ်။ ဒီလောက်များပြားလှတဲ့ ရောမလူထုပရိသတ်ကြီးရဲ့ ထူးခြားချက်ကတော့ 'ငြိမ်သက်ခြင်း' ပဲ ဖြစ်ပါတယ်။ သုသာန်မှာလည်း ကြက်ပျံမကျသော ပရိသတ်ကြီးဟာ ရင်တလှပ်လှပ်နဲ့ စောင့်ကြိုပူဇော်နေနှင့် ကြပါတယ်။

နောက်ဆုံးမှာ အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးရဲ့ ရုပ်ကလာပ်တော်ကို ညနေ ၅း၀၀ နာရီ၊ ၁၀ မိနစ်မှာ သင်္ဂြိုဟ်မည့်အခန်းတွင်းသို့ ပင့်ဆောင်ကာ စတင်သင်္ဂြိုဟ်လိုက်ကြတော့တယ်။

ညတိုင်အောင် သင်္ဂြိုဟ်ခဲ့ရပြီး ကြွင်းကျန်ရစ်တဲ့ အရိုးတော်ကို ငွေဖလားမှာထည့်ပြီး ငွေဖလားကို သံသေတ္တာထဲမှာ သော့ခတ်ပိတ်လို့ မဟာစည်သာသနာ့ရိပ်သာသို့ ပြန်လည်ပင့် ဆောင်လာခဲ့ကြပါတော့တယ်။

ဆရာတော်ကြီး လွန်တော်မူပြီး နှစ်နှစ်အကြာ ၁၉၈၄၊ နိုဝင်ဘာလမှာ မဟာစည်ဗိမာန်တော်ကို အုတ်မြစ်ချနိုင်ခဲ့ပါတယ်။ မဟာစည်ဆရာတော်ဘုရားကြီး အထိမ်းအမှတ် ဖြစ်ပါတယ်။

**မဇ္ဈိမစာပေတိုက်**

၁။ အနန္တကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးအား ထာဝရ ဂါရဝပြုရန်၊
၂။ မဟာစည် ဝိပဿနာလမ်းစဉ်မှန် မမှေးမှိန် ရှည်ကြာစွာ တည်တံ့ တိုးတက်ပြန့်ပွားရန်၊
၃။ ကျေးဇူးတော်ရှင် မဟာစည်ဆရာတော်ဘုရားကြီးရဲ့ သွန်သင်ဆုံးမဩဝါဒ အတိုင်း ဗုဒ္ဓသာသနာ့နုဂ္ဂဟအဖွဲ့ချုပ်၊ ဟိတေသီအဖွဲ့နှင့် အမျိုးသမီးယောဂီ စောင့်ရှောက်ရေးအဖွဲ့တို့မှ လိုက်နာကျင့်သုံး၍ သာသနာပြုကြရန်။

အဲဒီ ရည်ရွယ်ချက်သုံးရပ်နဲ့ ၁၉၈၉-ခု၊ ဒီဇင်ဘာ ၁၅ ရက်မှာ ဗိမာန် တော်ကို အောင်မြင်စွာ ဖွင့်လှစ်နိုင်ခဲ့ပါတယ်။ ဗိမာန်တော်ဟာ အလျား (၅၆) ပေ၊ အမြင့် (၂၀)ပေ၊ ဘုံဆင့်(၄၀) စုစု ပေါင်း အမြင့်ပေ(၆၀)ရှိပါတယ်။ အတွင်းနံရံအားလုံး စကျင်ကျောက်ဖြူသားဖြင့် အပြည့်ပြီးစေ၍ ၎င်းကျောက် သား နံရံပေါ်မှာ မဟာစည်ဆရာတော်ဘုရားကြီးရဲ့ -

(က) ဝိပဿနာရှုနည်းကျမ်းကြီး
(ပထမတွဲ ၊ ဒုတိယတွဲ)
(ခ) အဆုံးအမဩဝါဒများ
(ဂ) ထေရုပ္ပတ္တိအကျဉ်းတို့ကို ရေးထွင်းပူဇော်ထားရှိပါတယ်။

အနန္တကျေးဇူးတော်ရှင် မဟာစည် ဆရာတော်ဘုရားကြီးဟာ ပရိယတ္တိ၊ ပဋိပတ္တိ စွယ်စုံထူးချွန်သော ဂုဏ်ကျေးဇူးတော် လွှန်ကဲထူးမြတ်တဲ့ ရဟန်း တစ်ပါးအဖြစ် အားလုံးက ကြည်ညိုပူဇော်မဝ တသသ ရှိနေကြဆဲပါ။

ဆရာတော်ဘုရားကြီးရဲ့ ဘုန်းကံပါရမီတော်အလျောက် ဘုန်းကံရှိသူများ၊ ဩဇာတိက္ကမကြီးသူများ၊ ဥစ္စာဓနကြွယ်ဝချမ်းသာသူများမှသည် လူ သာမန် အညတရများအထိ အားလုံးတို့ဟာ ဆရာတော်ဘုရားကြီးရဲ့ သာသနာပြု လုပ်ငန်းစဉ်များမှာ သူ့နေရာနှင့်သူ အကွက်ကျကျ ပါဝင်ဆောင်ရွက်ခွင့်ရခဲ့ကြ တာလည်း အတိဒုလ္လဘပါပဲ။

ဗုဒ္ဓဘာသာဝင်တို့ရဲ့ ပန်းတိုင်ဟာ အပါယ်လေးပါးနဲ့ ဝဋ်ဆင်းရဲအပေါင်းက လွတ်မြောက်ရာ မြတ်နိဗ္ဗာန်ဖြစ်ပါတယ်။

ဒီလောကကြီးမှာ နိဗ္ဗာန်အလို့ငှာ ဝိပဿနာပညာ၊ မဂ်ဖိုလ်ပညာတို့ကို ရထိုက်တဲ့ပုဂ္ဂိုလ်တစ်ဦးတစ်ယောက်သော်မျှ အကြွင်းမျှလောက် ကာလပတ် လုံးရှိနေသေးသည် ဆိုငြားပါအံ့၊ အဲဒီ ကာလနှင့်အမျှ (ဝါ) ထိုမျှသော ကာလ

ပတ်လုံး မဟာစည်ဆရာတော်ဘုရားကြီးရဲ့ ဝိပဿနာရှုနည်း ထင်ရှား ဖော်ပြမကွယ်ပဘဲ တည်မြဲထွန်းလင်းနေဦးမှာ ဖြစ်ပါတယ်။

အနန္တကျေးဇူးတော်ရှင် မဟာစည် ဆရာတော်ဘုရားကြီးရဲ့ ဝိပဿနာ လင်းရောင်ခြည်ဟာ ဒီကမ္ဘာလောကထဲက မင်္ဂဖိုလ်ရထိုင်သူ နောက်ဆုံး လူသားတစ်ယောက်ကိုတောင်မှ လမ်းပြခေါ်ဆောင်ဖို့ရာ ထာဝစဉ် ထွန်းလင်း နေဦးမှာ ဖြစ်ကြောင်းပါဗျာ။

(၁၃၆၆၊ ကဆုန်လပြည့်၊ ဗုဒ္ဓနေ့ ဓမ္မပူဇာ)

**ကိုးကားစာအုပ်များ/**

၁။ ၁၉၆၇၊ ဧပြီလထုတ် ဦးဘသန်း၏ မဟာစည်ထေရ်မြတ် အထုပ္ပတ်။
၂။ ၁၉၈၆၊ မေလထုတ် အရှင်ကေလာသ၏
မဟာစည် ထေရဝုတ္တန္တ ဝိလာသိနီ(ပ၊ ဒု)။
၃။ ၁၉၇၉ ထုတ် မဟာစည် ကမ္ဘာ့သာသနာပြုခရီးစာတမ်း။
၄။ ၁၉၄၉-၁၉၉၉ မဟာစည် နှစ် ၅၀ ပြည့် စာစောင်။
၅။ မဟာစည်ဆရာတော်ဘုရားကြီး၏ ကျမ်းစာအုပ်များ။
၆။ ၁၃၀၉-၁၃၅၉ မဟာစည် သာသနာ့ရိပ်သာ သမိုင်းမှတ်တမ်း။





ဆားတောင်ဆရာတော်ဘုရား ကြီး

# ကျေးဇူးရှင်
# ဆားတောင်ဆရာတော်ဘုရားကြီး
## ၏ဘဝဖြစ်စဉ်နှင့်ဓမ္မကျင့်စဉ်

**ရန်ကုန် မေဃဝတီရောက် ဆားတောင် ဆရာတော်ဘုရားကြီး**

လွန်ခဲ့သော ဆယ်နှစ်ကျော်က ရောက်ခဲ့ဖူးသောနေရာသို့ နောက်တစ်ဖန် ပြန်ရောက်ခဲ့ပေပြီ။

ထိုနေရာကား . . .

သယ်န်းကျွန်းမြို့နယ် အတွင်းရှိ 'မေဃဝတီ' ကျောင်းတိုက်ကြီး ဖြစ်ပါသည်။

ထိုစဉ်က ညကြီးမင်းကြီး ရောက်ခဲ့သော်လည်း မေဃဝတီဆရာတော်ကြီးကိုကား အားရပါးရ ဖူးမြော်ခွင့်ရခဲ့ပါသည်။ သံတွဲမြို့နယ် အင်တိုင်းကြီးကျေးရွာ မိုးကုတ်ဝိပဿနာ တရားပြဆရာတော် အရှင်ဇဝန ကျေးဇူးပြု ပို့ဆောင်ပေးသဖြင့် ကျေးဇူးရှင် မေဃဝတီဆရာတော်ကြီးကို ဖူးခွင့်ရခဲ့ခြင်း ဖြစ်ပါသည်။

မေဃဝတီ ဆရာတော်ကြီးသည် သက်တော်ကြီးလှပြီ ဖြစ်သော်လည်း ပေါ့ပါးသွက်လက်နေပါသည်။ မျက်နှာတော်မှာ ကြည်လင်ရွှင်ပျနေပါသည်။ ဆရာတော်ကြီး၏ တရားစကားများမှာ ကာရန်နဘေပါသည်။ ဟာသငွေ့ငွေ့ ကလေးပါသည်။ ဆရာတော်ကြီးနှင့် ချက်ချင်းပင် ရင်းနှီးသွားခဲ့ပါသည်။ သို့သော် နောက်တစ်ခေါက် မရောက်ဖြစ်ခဲ့တော့။ ဆယ်နှစ်ကျော်မျှပင် ကြာသွားခဲ့လေသည်။ ထို့နောက်တော့ ၂၀၀၄ ခုနှစ်၊ အောက်တိုဘာလမှာ ကျေးဇူး

ရှင် မေဃဝတီဆရာတော်ဘုရားကြီး ခန္ဓာဝန်စွန့် ပျံလွန်တော်မူကြောင်း သတင်းကြားခဲ့ရပါသည်။ နှမြောတသ ယူကျုံးမရ ဖြစ်ခဲ့ရပါသည်။

"မေဃဝတီဆရာတော် ဓာတ်တော်ကျတယ်ဆိုတာ ဟုတ်ပါသလား ဗိုလ်မှူးကြီး"

"ဟုတ်တယ် ဆရာသွေး၊ ဓာတ်တော်တိုက်ကို ပြတိုက်သဘော လုပ်ထားတယ်။ လုံခြုံရေး အစောင့်အရှောက်နဲ့ စနစ်တကျ ထားရှိပါတယ်။ အေးအေးဆေးဆေး ဖူးခွင့်ရအောင် ကျွန်တော် စီစဉ်ပေးပါ့မယ်။ အခုလောလောဆယ်တော့ ဆားတောင်ဆရာတော်ကြီး ဆွမ်းကပ်ချိန်မီဖို့ အရေးကြီးတယ်"

မှန်ပါသည်။ ကျွန်တော်တို့မှာ အချိန်မီရုံကလေး ရောက်သွားခြင်းပင်ဖြစ်သည်။ ဥက္ကလာဦးဘုရား ပရိဝုဏ်တွင် အဘဘိုးမင်းခေါင် ဆင်စီးနေပုံ ပန္နက်ချပွဲမှ ကူးလာကြခြင်း ဖြစ်ပါသည်။ ညကလည်း တစ်ရေးတစ်မော မှေးသည်ဆိုရုံမျှ အိပ်ခဲ့ကြပြီး တစ်ညလုံး မိုးလင်းသည်ထိ ဥက္ကလာဦးဘုရားမှာ ပုတီးစိပ် တရားထိုင်ခဲ့ကြသည်။

"ဆားတောင်ဆရာတော်ကြီး မေဃဝတီကျောင်းတိုက်မှာ ကြွရောက်သီတင်းသုံးနေတယ်။ ကျွန်တော်တို့ ညတိုင်းသွားဖူးတယ်။ ညခုနစ်နာရီကနေ ကိုးနာရီအထိ တရားထိုင်ကြတယ်။ ဦးကြည်ရှိန်ကိုလည်း ပြောပြီးပြီ။ ဆရာသွေး ဖူးချင်တယ်ဆိုရင် ကျွန်တော် လာခေါ်မယ်"

ဓမ္မမိတ်ဆွေကြီး ဦးစိန်ကြည်က စိတ်အားထက်သန်စွာ အကြောင်းကြားခဲ့ပါသည်။ သို့သော် ထိုရက်များမှာ ကျွန်တော် ကျန်းမာရေး မကောင်းလှ၊ နားလည်းနားမရ။ ပဋ္ဌာန်းစကြာအဓိဋ္ဌာန်က အရေးကြီးနေသည်။ အင်္ဂလိပ်ဆေးနှင့် မပျောက်သော ကျွန်တော့်အဖျားရောဂါမှာ ဦးကြည်ရှိန်၏ ဝိဇ္ဇာဆေးဖြင့် ချက်ချင်းပင် နလန်ထူလာကာ ဥက္ကလာဦးဘုရားမှာ ဆက်၍ အဓိဋ္ဌာန်ဝင်ဖြစ်ခဲ့သည်။ ဦးကြည်ရှိန်မှာ ဥက္ကလာဦးဘုရားတွင် မအိပ်မနေ အဓိဋ္ဌာန်ဝင်နေသည်မှာ ငါးရက်ရှိသွားပြီ။ ဥက္ကလာဦးဘုရားတွင် အဘ ဆင်စီးနေပုံကို သူအာရုံရခဲ့သည့်အတိုင်း တည်ထားလှူဒါန်းမည်ဖြစ်၍ ညလုံးပေါက် ပုတီးစိပ် အဓိဋ္ဌာန်ဝင်နေခြင်းဖြစ်သည်။

အဘဆင်စီးနေပုံ ပန္နက်ချပွဲသို့ ဗိုလ်မှူးကြီး ကိုကိုအောင် (ငြိမ်း) နှင့် ဦးစိန်ကြည်တို့ ဝမ်းမြောက်ဝမ်းသာ ရောက်ရှိလာခဲ့ကြပြီး ကျွန်တော်နှင့် ဦးကြည်ရှိန်ကို မေဃဝတီကျောင်းသို့ ဆက်လက်ခေါ်ဆောင်လာခဲ့ကြပါသည်။ မေဃဝတီကျောင်းတိုက်ကြီးမှာ ကျယ်ဝန်းသလောက် ကားတွေ ပြည့်ကျပ်နေပါသည်။

နှစ်ထပ်ကျောင်းဆောင်ကြီးတစ်ခု အတွင်းမှာကား လူတွေ ပြည့်လျှံ ပြိုတိုးနေပါသည်။ ခန်းမကြီးထိပ်တွင် မေဃဝတီဆရာတော်ကြီးနှင့် ဆားတောင်ဆရာတော်ကြီးတို့၏ ပုံတော်ကြီးများ ချိတ်ဆွဲ အပူဇော်ခံလျက် ရှိပါသည်။ ဆားတောင်ဆရာတော်ကြီး၏ တရားရှုနည်း ဩဝါဒများကို ရောမဘုတ်ကြီးများပေါ်တွင် ရေးထိုးထားပါသည်။ ခန်းမကြီး၏ လက်ယာဘက်ထိပ် သီးသန့်အခန်းတစ်ခု ရှေ့တွင် လူတွေကျပ်ညပ်ပြွတ်သိပ် ပြိုတိုးနေပါသည်။

"အင်း- (၁၁) နာရီတောင်ခွဲပြီ၊ ဆရာတော်ကြီးမှာ ဆွမ်းမစားရသေးဘူး။ တစ်သုတ်ပြီးတစ်သုတ် အဖူးခံနေရတာနဲ့"

ကျွန်တော်တို့လည်း တိုးရင်းဝှေ့ရင်း ထိုအခန်းရှေ့သို့ ရောက်သွားရာ လုံခြုံရေးတာဝန်ယူထားသူများက ဗိုလ်မှူးကြီး ကိုမြင်သွားလျှင် ချက်ချင်းအလေးပြု၍ တံခါးကို ဝင်သာရုံ ဟ,ပေးရာ ကျွန်တော်တို့လည်း အခန်းတွင်းသို့ လေပမာ ဝင်ရောက်နိုင်ခဲ့ကြပါသည်။

အခန်းထဲမှာလည်း လူတွေပြည့်နေပါ၏။ လူတွေကို ကျော်ကြည့်နိုင်ပါမှ ဆားတောင်ဆရာတော်ကြီးကို ထင်းခနဲ ဖူးရပါလေသည်။

ဆရာတော်ကြီးမှာ အသားညိုညို၊ ဝဝ၊ မျက်လုံးမျက်ခုံးကောင်းကောင်း။

"ကဲ- အချိန်လင့်နေပါပြီ၊ ဆွမ်းကပ်ကြပါစို့"

တစ်ယောက်က နှိုးဆော်လိုက်လျှင် ဆွမ်းစား စားပွဲဝိုင်းကြီးဘေးမှာ ကျွန်တော်တို့ပါ နေရာယူပြီး ဖြစ်နေပါတော့သည်။ ကျေးဇူးရှင် ဆားတောင်ဆရာတော် ဘုရားကြီးအား ရိုသေကြည်ညိုလှစွာ ဆွမ်းကပ်ခွင့်ရခဲ့ပါ၏။

"ဆရာတော်ဘုရားကြီးဟာ ငယ်ငယ်ရွယ်ရွယ် သက်တော် သုံးဆယ်နဲ့ ရဟန်းကိစ္စပြီးခဲ့တယ်လို့ ဆိုပါတယ်။ ဝေဘူဆရာတော်ကြီးနဲ့ မဟာစည်ဆရာတော်ကြီးတို့ကိုယ်တိုင် ဆားတောင်ဆရာတော် တရားထူးရကြောင်း အတည်ပြုပေးခဲ့တာပါ ဆရာသွေးရေ။ အလွန် စိတ်ဝင်စားဖို့ ကောင်းပါတယ်"

ကျွန်တော် အံ့ဩ၍ မဆုံးတော့။ ယခု ဆွမ်းကပ်ခွင့် ရရှိသည်ကိုလည်း ကြည်နူး၍ မဆုံးတော့။

## (၂) ဘဝဖြစ်စဉ်နှင့် ဓမ္မကျင့်စဉ်

ဆားတောင်ဆရာတော်လောင်းလျာကို စစ်ကိုင်းတိုင်း၊ ဆားတောင်ကျေးရွာအုပ်စု၊ သင်တွဲရွာတွင် အဘ ဦးငွေဒင်၊ အမိ ဒေါ်ပြောင်းမယ်တို့မှ (၁၂၈၇) ခုနှစ်၊ တန်ဆောင်မုန်းလဆန်း (၁၄)ရက် ကြာသပတေးနေ့တွင် ဖွားမြင်တော်

မူခဲ့သည်။ ဆရာတော်လောင်းလျာ ပဋိသန္ဓေနေအံ့ဆဲဆဲတွင် အမိ ဒေါ်ပြောင်းမယ် ထူးခြားသော အိပ်မက် မြင်မက်ခဲ့သည်မှာ-

တစ်ခုသော နံနက်အရုဏ်တက်ချိန်တွင် အမိ ဒေါ်ပြောင်းမယ်ထံသို့ ဆင်မကြီးနှင့် ဆင်ထီးလေးတစ်ကောင် ရောက်လာခဲ့သည်။ ဆင်မကြီးက 'သားပြန်ကြစို့ရဲ့'ဟု ဆင်ထီးလေးကို ခေါ်ရာ ဆင်ထီးလေးက 'ပြန်မလိုက်နိုင်တော့ဘူး။ ကျုပ် ဒီမှာပဲ နေခဲ့တော့မယ်'ဟု ပြောပြီး မိခင်ဒေါ်ပြောင်းမယ်၏ လက်ယာနံပါးကဖောက်လျက် ဝမ်းကြာတိုက်မှာဝင်နေခဲ့သည်ဟု အိပ်မက်မြင်မက်ခဲ့သည်။ ထို့နောက် နတ်သားတစ်ပါး ရောက်လာပြီး ဝမ်းကြာတိုက်အတွင်းသို့ ပတ္တမြား သွတ်သွင်းလိုက်သည်ဟု ဆိုကာ ပျောက်ကွယ်သွားပုံ အိပ်မက် မြင်မက်ပြန်သည်။ ထိုအပ်မက်များ မြင်မက်ပြီးနောက် ဆရာတော်လောင်းလျာကို ပဋိသန္ဓေတည်ခဲ့သည်ဟု ဆိုပါသည်။

ဆရာတော်လောင်းလျာ မွေးဖွားလာသောအခါ မောင်လတ်ဟု မှည့်ခေါ်သည်။ မိဘများမှာ ဆင်းရဲချို့တဲ့သဖြင့် မောင်လတ်၏ ငယ်ဘဝမှာလည်း ကြမ်းတမ်းခဲ့ပါသည်။ မိဘများ၏ လယ်ယာလုပ်ငန်းခွင် ဝင်ကူခဲ့ရ၏။ နွားကျောင်းခဲ့ရ၏။ အသက်(၁၂) အရွယ်ရောက်မှ ရှင်ပြုခဲ့ရသည်။ ကိုရင် နှစ်ဝါရပြီး လူထွက်ရပြန်သည်။ မိဘတွေကို မညည်းမညူ ကူရပြန်သည်။ ထို့နောက် တဖန် အသက် (၁၅)နှစ်မှာ စာဝါလိုက်ခဲ့ပြီး အသက်(၁၇) နှစ်အရွယ်တွင် ပထမငယ်တန်းအောင် မြင်ခဲ့သည်။

ထို့နောက် အသက်(၂၀) နှစ် ပြည့်သောအခါ မိဘများ၏ ပစ္စယာနုဂ္ဂဟဖြင့် ရွာဦးကျောင်းဆရာတော် ဦးတေဇကို ဥပဇ္ဈယ်ပြုကာ ၁၃၀၇ ခုနှစ်၊ ဝါဆိုလဆန်း(၁၃)ရက် နေ့တွင် မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်တော်မူခဲ့သည်။ ဘွဲ့တော်မှာ ဦးပညာဏိက။

လိုချင်တောင့်တလှသော ရဟန်းဘဝကို ရခဲ့သော်လည်း ရဟန်းဘဝအစမှာပင် ကျန်းမာရေး ချူချာခြင်းနှင့် ပက်ပင်း ကြုံရလေသည်။ ထို့ကြောင့် စာပေပရိယတ္တိကို ဆန္ဒရှိသလောက် မသင်ကြားနိုင်။ ဝိနည်းတော်ကို ရိုသေလေးမြတ်ခြင်းဖြင့်သာလျှင် ရဟန်းဘဝ ရှင်သန်ခဲ့ရသည်။ ဤအတောအတွင်း (၁၃၁၄) ခုနှစ်တွင် မယ်တော်ကြီးလည်း ကွယ်လွန်သွားခဲ့လေပြီ။ မိမိမှာလည်း မသေရုံတစ်မည်သာ။ ဝေဒနာကို ကြိတ်မှိတ်၍ ခံခဲ့ရသည်မှာ စာဝါများပင်မလိုက်နိုင်တော့။ ခြေတရွတ်ဆွဲရောဂါကလည်း ဖြစ်ပေါ်လာလေရာ စာပေပရိယတ္တိနှင့် တဖြည်းဖြည်း ဝေးကွာလာတော့သည်။ ဤတွင် အရှုံးထဲက အမြတ်ဟု

ဆိုရသကဲ့သို့ စာမသင်နိုင်လျှင် ကျင့်ကြံအားထုတ်တော့မည်။ ပဋိပတ္တိသာသနာတော်အားဖြင့် ရဟန်းဘဝ၏အဓိပ္ပာယ်ကို ဖြည့်တင်းပါတော့အံ့။

မြင်းခြံမြို့ စွန်းလွန်းဆရာတော် ဘုရားကြီး၏ ထေရုပ္ပတ္တိနှင့် ကျမ်းစဉ်စာအုပ်ကလေးက ဆားတောင်ဆရာတော်ကြီးဟူ၍ ဖြစ်ပွင့်တော်မူလာအောင် အလင်းရောင်ပေး လမ်းပြလိုက်သလို ရှိသည်။ ဆားတောဝ်ဆရာတော်လောင်းလျာသည် စွန်းလွန်းဆရာတော်ဘုရားကြီးကဲ့သို့ပင် ဝီရိယကို ဗိုလ်တင်၍ အရိုးကြွင်းစေ၊ အကြောကြွင်းစေ၊ သေချင်သေ ဟူသောစိတ်ဓာတ်ဖြင့် နေ့ညမပြတ် တရစပ်အားထုတ်တော်မူခဲ့သည်။

၁၃၁၆ ခု၊ ဝါဆိုလမှ စတင် အားထုတ်တော်မူရာ တန်ဆောင်မုန်းလတွင် ပုထုဇဉ်အနွယ်ကို ဖြတ်တောက်၍ အရိယာဘဝ၏ ပထမအဆင့်သို့ တက်လှမ်းရောက်ရှိခဲ့သည်ဟု သိမှတ်ရပါသည်။ ထူးဆန်းသော အိပ်မက်များဖြင့် တရားလမ်းသည် ဆက်၍ဆက်၍ ပွင့်လင်းလာခဲ့သည်။ စတုမဟာရာဇာ နတ်မင်းကြီးလေးပါးပင် ကြွရောက်လာပြီး တရားအဆင့် မြင့်သထက်မြင့်အောင် ကျင့်ဆောင်ပါရန် တောင်းပန်လျှောက်ထား ကြသည်။

ဤသို့ဖြင့် တစ်နှစ်ပတ်လည် အချိန်ကြာသောအခါ မြတ်သောအကျင့်၏ ထူးသောအသိဖြင့် ဇာတိဘေးကြီးကို အပြီးအပိုင် ဖြတ်တောက်နိုင်ခဲ့ပါတော့သည်။

ထိုအချိန်က ဆားတောင်ဆရာတော်၏ သက်တော်မှာ သုံးဆယ်မျှသာ ရှိပါသေးသည်။

## (၃) ဝေဘူဆရာတော်နှင့် မဟာစည်ဆရာတော်တို့၏ အဆုံးအဖြတ်

မေယဝတီ ကျောင်းတိုက်တွင် ကျေးဇူးရှင် ဆားတောင်ဆရာတော်ကြီးအား ကျွန်တော်တို့ ဆွမ်းကပ်ဖူးမြော်ခွင့်ရချိန်တွင် ဆရာတော်ဘုရားကြီးမှာ သက်တော် (၈၁)နှစ်ထဲသို့ ရောက်နေခဲ့ပေပြီ။ ဗိုလ်ချုပ်ဆန်းဆင့်၏ ပင့်လျှောက်ချက်အရ ရန်ကုန်မြို့သို့ ဆေးစစ်ခံရန် ကြွရောက်တော်မူလာခြင်း ဖြစ်ကြောင်း သိရပါသည်။ ၁၉၉၈ ခုနှစ်၊ ဒီဇင်ဘာလက မင်္ဂလာဒုံ စစ်ဆေးရုံကြီးတွင် ဆေးကုသမှုခံယူရန် ကြွရောက်တော်မူစဉ်က ကျွန်တော်တို့၏ ဓမ္မမိတ်ဆွေ ဗိုလ်မှူးကြီး၏ တိုက်အိမ်အသစ်မှာ သီတင်းသုံးတော်မူခဲ့ကြောင်း သိရှိရပြန်ပါသည်။ ကျေးဇူးရှင် ဆားတောင်ဆရာတော်ကြီးအား အနီးကပ် ပြုစုလုပ်ကျွေးခွင့် ရခဲ့သည့်အတွက် ဗိုလ်မှူးကြီးမှာ ကုသိုလ်ကံ ထူးလှပါသည်။

မေဃဝတီကျောင်းတိုက် တရားစခန်းတွင် ဓမ္မဒါန အခမဲ့ ဖြန့်ဝေသော ကျေးဇူးရှင် ဆားတောင်ဆရာတော်ကြီး၏ ထေရုပ္ပတ္တိနှင့် တရားကျင့်စဉ်စာအုပ်ကလေးများကိုလည်း ဗိုလ်မှူးကြီးထံမှ ရရှိခဲ့ပါသည်။ ထိုစာအုပ်ကလေးများကို အကြိမ်ကြိမ် အခေါက်ခေါက် ဖတ်ခဲ့လေရာ ရှားရှားပါးပါး အကြောင်းအရာများကို သိမှတ်ခွင့်ရသည့်အတွက် စာအုပ်အလှူရှင်များနှင့် ဗိုလ်မှူးကြီးကို ကျေးဇူးတင်မဆုံးအောင် ရှိနေပါတော့သည်။

သက်တော်သုံးဆယ်တွင် တရားထူးရခဲ့သော ဆားတောင်ဆရာတော်လေးထံသို့ ထိုစဉ်က ရဟန္တာဟု ကျော်ကြားခဲ့သော ဝေဘူဆရာတော်ဘုရားကြီး ကြွရောက်ချီးမြှင့်ပုံ၊ တစ်နေ့တည်းမှာပင် မဟာစည်ဆရာတော်ဘုရားကြီး ကြွရောက်ချီးမြှင့် အသိအမှတ်ပြုပုံများမှာ အံ့ဖွယ်သာသနာ၏ မှတ်တမ်းမှတ်ရာများ ဖြစ်ပါတော့သည်။

ဆရာတော်လေး တရားထူးရပြီးသည့်နောက် (၁၃၁၈) ခုနှစ်သို့ ရောက်သောအခါတွင်ကား ဆားတောင်ရွာသို့ အဝေးမှလာရောက်ဖူးမြော်သူများ ကျောင်းနှင့်မဆံ့အောင် စည်ကားများပြားလှသည် ဆိုပါသည်။

ပရိသတ်များပြားလှ၍ မဏ္ဍပ်ကြီးများထိုးကာ အပူဇော်ခံခဲ့သည် ဆိုပါ၏။ ဆားတောင်ရွာကြီးမှာလည်း ချက်ချင်းပင် ပွဲကြီးလမ်းကြီး ဖြစ်သွားကာ ဈေးဆိုင်တန်းများဖြင့် ပျားပန်းခတ် စည်ကားသွားပါတော့သည်။

ထိုစဉ်က ကျောက်ဆည် ဝေဘူတောင်တွင် သီတင်းသုံးလျက်ရှိသော ဝေဘူဆရာတော်ဘုရားကြီး ထံတော်သို့ ဆားတောင်ဆရာတော်၏ တပည့်များ သွားရောက် ဖူးမြော်ကြပါသည်။

"သြော်- ဒါယကာကြီးတို့က ဝီရိယအရှင်သခင်ရဲ့ သာဝကတွေကိုး ဗျ" ဟု ဝေဘူဆရာတော်ဘုရားကြီးက မိန့်ကြားတော်မူပါသည်။

ဆားတောင်ဆရာတော်၏ တပည့်များက -

"တပည့်တော်တို့ရဲ့ ဆရာတော် ရဟန်းကိစ္စ ပြီးပါပြီလားဘုရား"ဟု မေးလျှောက်ရာ "ဒါယကာကြီးတို့ရဲ့ ဆရာတော် ရဟန်းကိစ္စပြီးပါပြီဗျာ၊ ဒါယကာကြီးတို့ အရတော်ပါပေ့ဗျာ၊ ကံထူးကြပါပေ့ဗျာ" ဟု ဝေဘူဆရာတော်ကြီးက မိန့်ပါသည်။

"အရှင်ဘုရားရော ရဟန်းကိစ္စပြီး ပါပြီလားဘုရား" ဟု လျှောက်ထားရာ-

"ကျုပ်ကတော့ လျှောက်ဆဲပါဗျာ" ဟု မိန့်တော်မူပါသည်။

ဤအကြောင်းအရာတွေကို ဆားတောင်ဆရာတော်ကြီးအား ပြန်လည်

လျှောက်ထားကြပြီး-

"ဝေဘူဆရာတော်ဘုရားကြီးဟာ ရဟန်းကိစ္စ ပြီးပါပြီလားဘုရား"ဟု လျှောက်ထားကြရာ ဆားတောင်ဆရာတော်ဘုရားကြီးက-

"အင်း-ဆရာတော်ကြီး ရဟန်း ကိစ္စပြီးပါပြီ"ဟု မိန့်ကြားတော်မူပါသည်။

"အရှင်ဘုရားရော ရဟန်းကိစ္စ ပြီးပါပြီလား ဘုရား" ဟု လျှောက်ထား မေးမြန်းကြရာ . . .

"ကျုပ်ကတော့ လျှောက်ထားဆဲပါ"ဟု မိန့်ကြားတော်မူပါသည်။

ဝိနည်းတော်ကို လေးစားကြည်ညိုကြသည့် အရှင်မြတ်ကြီးတို့၏ ပြောဆို မိန့်ကြားပုံမှာ အတုယူဖွယ်ရာ ဖြစ်ပါသည်။

(ထေရုပ္ပတ္တိနှင့် တရားကျင့်စဉ်စာ -၉)

(ထို့နောက် ဝေဘူဆရာတော်ကြီးနှင့် မဟာစည်ဆရာတော်ကြီးတို့ ဆားတောင်ဆရာတော်ထံ တစ်နေ့တည်း ကြွရောက်လာပုံကို ဆက်လက် ဖော်ပြပါမည်။)

ကျေးဇူးရှင် ဝေဘူဆရာတော်ကြီးသည် ဆားတောင် ပဋိပတ္တိရိပ်သာသို့ ကြွလာမည်ဖြစ်ကြောင်း ဝေဘူဆရာတော်ဘုရားကြီး၏ တပည့်များက စာဖြင့် အကြောင်းကြားရာ ၎င်းစာကို ဆားတောင်ဆရာတော်အား ဆက်ကပ်ကြပါ သည်။ စာဖတ်ပြီးနောက် ဆားတောင်ဆရာတော်က -

"ဝေဘူဆရာတော်ဘုရားသာမက မဟာစည်ဆရာတော်ဘုရားလည်း ကြွလာလိမ့်မယ်။ ဒကာတို့ ပြင်ဆင်ထားကြ" ဟု မိန့်ကြားတော်မူပါသည်။

"နှစ်ပါးအတူ ကြွလာတော်မူမှာလားဘုရား" ဟု လျှောက်ထားကြရာ ဆရာတော်ကြီးက -

"မဟုတ်ဘူး၊ တစ်ပါးစီ လာကြလိမ့်မယ်" ဟု မိန့်တော်မူပါသည်။

စာက ဝေဘူဆရာတော်ကြီး၏ တပည့်များထံမှ ကြိုတင်အကြောင်းကြား ထားခြင်း လုံးဝမရှိပါ။

'ထိုခေတ်အခါက သက်တော်ထင်ရှား ရဟန္တာကြီးများ ဖြစ်ကြသော မဟာစည်ဆရာတော်ကြီးနှင့် ဝေဘူတောင်ဆရာတော်ကြီးတို့ ဆားတောင် ဆရာတော် ဦးပညာဇောတကထံ တစ်နေ့တည်း ကြွရောက် မေးမြန်းသွားကြသည် များမှာ သာသနာတစ်ခေတ်တွင် အံ့ချီးဖွယ်ရာများ ဖြစ်ပေသည်' ဟု ဆရာ မောင်ချမ်းမြေ့က လွှန်မြောက်ခြင်း စာအုပ်တွင် မှတ်တမ်းတင်ထားပါသည်။

(၁၃၁၈) ခုနှစ်၊ ဝါဆိုလဆန်း (၁၃) ရက် နံနက် (၈)နာရီအချိန်တွင်

မဟာစည်ဆရာတော်ဘုရားကြီးသည် ဆိပ်ခွန်ကျေးရွာမှ ရန်ကုန်မဟာစည် ရိပ်သာသို့ ဝါဆိုရန်အကြွတွင် ဆားတောင်ဆရာတော် ဦးပညာဇိကထံ တပည့် နောက်ပါ သံဃာတော်များနှင့် ကြွရောက်ပြီး ဆားတောင်ဆရာတော်ကြီး၏ အဖူးအမြော်ခံရင်း အောက်ပါ စကားရပ်များကို မေးမြန်းလျှောက်ထားမှုများ ပြုလုပ်ပါသည်။

မဟာစည်ဆရာတော် - ဘယ်နည်းနဲ့ တရားအားထုတ်ပါသလဲ။

ဆားတောင်ဆရာတော် - တပည့်တော် စွန်းလွန်းဆရာတော်ဘုရား၏ ထေရုပ္ပတ္တိနှင့် ကျင့်စဉ်စာအုပ်ကို ဖတ်ရှုလေ့လာပြီး သမ္မပ္ပဓာန်ကျင့်စဉ် အတိုင်း အားထုတ်ပါတယ်ဘုရား။

မဟာစည်ဆရာတော် - စွန်းလွန်း ဦးကဝိနည်းကလည်း အလွန် ကောင်း တဲ့ နည်းပါပဲ။ ဦးကဝိလိုကော ပြင်းပြင်းထန်ထန် အားထုတ်နိုင်ပါရဲ့လား။

ဆားတောင်ဆရာတော် - မှန်လှပါ။ တပည့်တော် လောဘ၊ ဒေါသ၊ မောဟ စွန့်လွှတ်နိုင်တာဆိုတော့ စွန့်လွှတ်နည်းဆိုဆို၊ စွန်းလွန်းနည်းဆိုဆို အားထုတ် ရတာကတော့ စွန့်လွှတ်နည်းပါပဲ ဘုရား။

မဟာစည်ဆရာတော် - တရားအားထုတ်ရတာ အားရပါးရ ရှိပါရဲ့လား။

ဆားတောင်ဆရာတော် - အားထုတ်ရတာ အားရပါးရ ရှိပါတယ်ဘုရား။

မဟာစည်ဆရာတော် - တရားအရသာ အားရပါးရ ခံစားရပါသလား။

ဆားတောင်ဆရာတော် - တရားအရသာ အားရပါးရ ခံစားရပါတယ် ဘုရား။

မဟာစည်ဆရာတော် - ဒီအတိုင်းဆို မလွဲပါဘူး။ အသက်ကလည်း ငယ် ပါသေးတယ်။ ရှေ့ဆက်ပြီး ကိုယ်ခံစားရသလို ဝေနေယျတွေကိုလည်း တရား စခန်းဖွင့်ပြီး တရားပြပေးဦး။

ထိုသို့ဆိုကာ ဘုရားကန်တော့ပြီး မဟာစည်ဆရာတော်ဘုရားကြီးနှင့် တကွ နောက်ပါသံဃာတော်များသည် ရန်ကုန်သို့ ဆက်၍ ကြွတော်မူသည်။

ရွာသူရွာသားများနှင့် များပြားလှသော ဧည့်ပရိတ်သတ်အပေါင်းတို့သည် မဟာစည်ဆရာတော်ဘုရားကြီးအား ဖူးမြော်လိုက်ရသဖြင့် ဝမ်းမြောက်ဝမ်းသာ ကြည်ညိုသဒ္ဒါပွားလို့ မဆုံးနိုင်ကြ။ မိမိတို့၏ ပွင့်ပေါ်စ ဆားတောင်ဆရာတော် အတွက်လည်း ဂုဏ်ယူလို့မဆုံးနိုင်ကြမိ 'ဝေဘူတောင် ဆရာတော်ဘုရားကြီး ကြွလာပြီ'ဟူသော အသံကို ကြားလိုက်ရလျှင် ဝမ်းမြောက်ရွှင်လန်းခြင်းအပြည့်၊ ပီတိအဟုန်သဒ္ဓါစိုဖြင့် ဝေဘူဆရာတော် ဘုရားကြီးအား ဆီးကြို ကန်တော့ ကြပါသည်။

ဝေဘူဆရာတော်ဘုရားကြီးသည် တရားပလ္လင်ပေါ်တွင် စကြာ့လ္လက္ခန္ဒြေချ၍ သိတင်းသုံးနေစဉ် (သမာပတ်ဝင်စားနေစဉ်) မှာပင် ဆားတောင်ဆရာတော်မှာ တရားပလ္လင် ရှေ့တည့်တည့်အောက်မှာ (ဝေဘူဆရာတော်ကြီးကဲ့သို့) တရားရှုမှတ်လျက် သိတင်းသုံးနေသည်။

မြူတိမ်ကင်းသော ကောင်းကင်တွင် နေလနှစ်ဆူ ပြိုင်တူပေါ်ထွက်နေသကဲ့သို့ ဖူးမြင်ကြရပါသည်။ အလွန်များပြားလှသော ပရိသတ်ကြီးမှာ အပ်ကျသံ ကြားရလောက်အောင် ငြိမ်သက်နေကြသည်။ နာရီဝက်ခန့်အကြာတွင် ဆရာတော်နှစ်ပါး၏ မျက်လုံးများ တစ်ပြိုင်နက် ပွင့်တော်မူလာပါသည်။

ဝေဘူဆရာတော် - အရသာမရှိဘူးလားဗျာ။ မချမ်းသာဘူးလားဗျာ။ ကျုပ်တို့တစ်သံသရာလုံး ရှာခဲ့ကြတာ အခုမှပဲ အားရပါးရကြီး ခံစားကြရတာ မဟုတ်လားဗျာ။ ဆရာတော်လေးက တယ်ပါရမီထူးတာကိုး။ အသက်ငယ်ပါသေးတယ်။ အသက်ငယ်ငယ်နဲ့ ကိစ္စပြီးတယ်ဆိုတော့ တယ်ပါရမီ ထူးတာကိုး။ သာသနာအတွက် အားထားပါတယ်။ ဝေနေယျတွေကိုကယ်ပါ။ ချွတ်ပါ။ တရားပြပါ။ ကျွတ်ထိုက်တဲ့ ပုဂ္ဂိုလ်တွေ အများကြီး ရှိပါသေးတယ်။ ဆရာတော်လေးက အမှိုက်ရှင်းရမှာဆိုတော့ သာသနာခရီးမှာ သာသနာအကျိုး စီးပွားအတွက် သာသနာပြုပေးပါဦး။

ဆားတောင်ဆရာတော် -မှန်လှပါဘုရား။

ဝေဘူဆရာတော် -ကြွလာတဲ့ ပရိတ်သတ်တွေလည်း တယ်များသကိုးဗျ။ ကံထူးပါပေ့ဗျာ။ မသေမီ တရားဦးအောင်လုပ်ကြဗျ။

ဖုဋ္ဌဿ လောကဓမ္မေဟိ
စိတ္တံယဿ နကမ္ပတိ
အသောကံ ဝိရဇံခေမံ
ဧတံ မင်္ဂလ မုတ္တမံ။

(လောကဓံတရားရှစ်ပါးတို့နှင့် တွေ့ကြုံရသော ရဟန္တာ၏ စိတ်သည် မတုန်မလှုပ်၊ စိုးရိမ်ကြောင့်ကြခြင်းလည်း မရှိ။ ကိလေသာရမ္မက်ဟူသော မြူလည်း မရှိ။ ကြောက်ထိတ်လန့်တွေး ဘေးလည်း မရှိ။)

ဘုရားဟောတဲ့ မင်္ဂလာတရားတော်နဲ့ ညီပါပေတယ်ဗျာ။ သူတော်ကောင်းအပေါင်းတို့ သာခုခေါ်ကြ။

ထိုသို့ဝေဘူဆရာတော်ကြီးက မိန့်လိုက်သည်တွင် တစ်ခဲနက်သော သာခုခေါ်

သံကြီးသည် အထက်ဘဝဂ်၊ အောက်အဝီစိတိုင်အောင် ပဲ့တင်သွားလေသည်။

[မောင်ချမ်းမြေ့ လောကကိုလွန်မြောက်ခြင်း၊ စာ -၂၂ မှ ၂၇ အတွင်းရှု၊ ထေရုပ္ပတ္တိ စာ - ၁၄ ရှု။]

## (၄) ဆားတောင်ဆရာတော်ဘုရားကြီး၏ တရားရှုမှတ်နည်းများ

ဤတွင် ကျေးဇူးရှင် မဟာစည်ဆရာတော်ဘုရားကြီးနှင့် ဆက်စပ်လျက်ရှိသော ဆားတောင်ဆရာတော်ဘုရားကြီး၏ အဆုံးအဖြတ်ကိုလည်း အထူးပြုမှတ်တမ်းတင်ရပါဦးမည်။

တစ်နေ့တွင် တပည့်ဒကာတစ်ဦးက 'မဟာစည်ဆရာတော်ဘုရားကြီး ပျံလွန် တော်မူကြောင်း သတင်းကြားရပါတယ် ဘုရား' ဟု လျှောက်ထားရာ-

'ပျံလွန်တာမဟုတ်ဘူး။ ပရိနိဗ္ဗာန်ပြုသွားတာ' ဟု ဆားတောင်ဆရာတော်ဘုရားကြီးက အလေးအနက် မိန့်ကြားတော်မူပါသည်။

အရိယာသူတော်ကောင်းတို့၏ ဂုဏ်ရည်ကို သူတော်ကောင်းချင်းသာ သိနိုင်ကြောင်း ထင်ရှားသည့် သာဓက တစ်ရပ်ပါတည်း။

ကျေးဇူးရှင်ဆရာတော်ဘုရားကြီးသည် ဝေဘူနှင့် မဟာစည်အရှင်မြတ်ကြီးနှစ်ပါး တိုက်တွန်းတော်မူခဲ့သည့်အတိုင်း မိမိရရှိထားသော တရားထူးတရားမြတ် ဝိပဿနာရှုမှတ်နည်းများကို ကျွတ်ထိုက်သူ ဝေနေယျအပေါင်းတို့အား တရားပြ ဖြန့်ဝေတော်မူခဲ့ပါသည်။ ဆားတောင်ဆရာတော်ဘုရားကြီး၏ တရားပြ စခန်းများတည်ရှိရာ ဌာနများမှာ -

၁။ မန္တလေးတိုင်း စဉ့်ကိုင်မြို့နယ် ကသဲကုန်းကျေးရွာ မင်းကုန်းကျောင်းရိပ်သာ၊

၂။ ဆရာတော်ကြီး၏ ဇာတိ (စစ်ကိုင်းတိုင်း၊ စစ်ကိုင်းမြို့နယ်) ဆားတောင် ပဋိပတ္တိသာသနာ့ရိပ်သာ။

၃။ မန္တလေးတိုင်း၊ ပုသိမ်ကြီးမြို့နယ် ရန်ကင်းတောင်ခြေ မြောက်ဘက်ရှိ ဆားတောင်ပဋိပတ္တိသာသနာ့ရိပ်သာ။

၄။ မန္တလေးတိုင်း၊ စဉ့်ကိုင်မြို့နယ်၊ ရွှေကျိုးနားဘုရား တောင်ဘက်ရှိ 'ထိ- သိ-သတိ' ဆားတောင်ရိပ်သာတို့ ဖြစ်ပါသည်။

ရန်ကုန်၊ မန္တလေး၊ မော်လမြိုင်၊ ကသာ၊ လားရှိုးစသော မြို့ကြီးများသို့လည်း ကြွရောက် တရားပြခဲ့ပါသည်။

ကျေးဇူးရှင် ဆားတောင်ဆရာတော် ဘုရားကြီး၏ ဝိပဿနာ အားထုတ်

နည်းအစဉ်ကို ဦးသိန်းထွန်း (ဆေးတက္ကသိုလ် - ၂) + ဒေါ်ခင်လှရီ မိသားစုတို့မှ မမွေဒါနဖြန့်ဝေခဲ့သော စာအုပ်ကလေးမှ ကောက်နုတ်၍ ဆက်လက်တင်ပြပါမည်။

ရှေးဦးစွာ ဩကာသဖြင့် ဘုရားကန်တော့၊ ငါးပါးသီလခံယူ၊ ရုပ်နာမ် ခန္ဓာ ဘုရားလှူ (၃၁)ဘုံသို့ မေတ္တာပို့ သူတော်ကောင်းကြီးများ၏ မေတ္တာခံယူ၊ သူတော်ကောင်းတရားကို သာဓုခေါ်ပါ။

ထို့နောက်တွင် ကြာကြာထိုင်နိုင်အောင် ခါးကိုမတ်မတ်ထား၊ ဘယ်လက်ဝါးကို ညာလက်ဝါးပေါ် ထပ်၍ထားပြီး ဦးခေါင်းနောက်သို့ မလန်စေဘဲ စက္ခုက္ကန္ဒြေချထားပါ။ ဆိတ်ငြိမ်၍ လေလုံသောနေရာတွင် ထိုင်လျှင် ပိုကောင်း၏။ တရားထိုင်ချိန် အစမှအဆုံး ညောင်း၍ ပြင်ခြင်း၊ ယား၍ကုတ်ခြင်း၊ မော၍နားခြင်း စသည်မပြုရပါ။

**ဝင်လေထွက်လေ ရှုမှတ်ခြင်း**

အသင့်ဖြစ်ပြီဆိုလျှင် မျက်စိမှိတ်ပါ။ ပါးစပ်ပိတ်၍ ဝင်လေက စ၍ရှုပါ။

ရှုလိုက်တိုင်း နှာသီးဖျား။ နှုတ်ခမ်း ဖျားတစ်ဝိုက်၏ ဝင်လေထွက်လေတို့က တိုး၍ ထိသွားသည်ကို သိလိမ့်မည်။ ထိုလေတိုးထိ၍ သိသည့်အာရုံကို ပြတ်မသွားအောင်၊ ထိတိုင်းထိတိုင်း သိသိနေအောင်၊ အစဉ်အဆက် ပြတ်မသွားအောင် သတိကပ်၍ အားစိုက်၍ သန်သန်ပြင်းပြင်း ရှုပေးနေရမည်။

ခပ်သန်သန် ခပ်ပြင်းပြင်း ရှုခြင်း၏ အကျိုးမှာ ပြင်ပမှ အသံများ ပျောက်စေခြင်း၊ ကိုယ်စိတ်နှစ်ပါး အင်အားတိုးစေခြင်း၊ စိတ်ကို ထိန်းသိမ်း နိုင်စေခြင်း၊ ထိနမိဒ္ဓ၊ ကာမစ္ဆန္ဒ အစရှိသော နီဝရဏ အတားအဆီးများကို လွယ်ကူသွက်လက်စွာ ငြိမ်းစေခြင်း၊ သမာဓိလျှင်မြန်စွာ ရင့်သန်စေခြင်း၊ ဝေဒနာကို နိုင်နင်းစွာ ရှုမှတ်နိုင်ခြင်းတို့ ဖြစ်ပါသည်။

ရှုနေစဉ် သတိပြုသည့်အခါ ဝင်လေ ထွက်လေကို မလိုက်လေနှင့်။ ရေတွက်ခြင်းလည်း မပြုလေနှင့်။ နှာသီဖျား၊ နှုတ်ခမ်းဖျားဟူ၍လည်း မယူလေနှင့်။ ထိမှု သက်သက်ကိုသာ သတိပြုနေရပေမည်။

ထိမှု၊ သိမှု ထိုနှစ်ခု သတိကြပ်ကြပ် ပြု။

ရှုသည့်အခါ ရှိုက်လေများများပါအောင် ဝင်သက်ကို ဂရုစိုက်ပြီး ကပ်ဆွဲ၍ ရှုသွင်းပါ။ ထွက်သက်ကို ဆက်၍ ဝင်လေပြန်ထွက်အောင် ရှုထုတ်ပါ။ ဝင် လေကို ဂရုစိုက်ပြီး ဆွဲယူခြင်းကြောင့် သမာဓိ ရင့်သန်လွယ်သည်။ ဝင်လေ

ထွက်လေမျှသွားမှ လွှဆွဲသလို အဆက်မပြတ် ထိ၍ထိ၍ သွားပေမည်။ အရှူမှာလည်း မပင်ပန်းဘဲ သူ့အရှိန်နှင့်သူ လည်သွားပေမည်။

ယင်းသို့ ရှူနေစဉ် ဆားတောင် ဆရာတော်ဘုရားကြီးက အောက်ပါအတိုင်း သတိပေးတတ်ပါသည်။

"ရှူပေးနော်ရှူပေးနော် မှန်နေပါစေ၊ မေ့မသွားစေနဲ့"

ရှူပေး ရှူပေး။ ထိမှုနဲ့သိမှု သတိကြပ်ကြပ်ပြုပေးပါ။

နှာသီးဝ တိုးထိတဲ့အပေါ် သတိ လေးထားပေးပါ။ ထိတာနဲ့ သိတာ ကပ်ပါသွားပါစေ။ ထိတိုင်း ထိတိုင်း သိနေပါစေ၊ ထိမှုကို သတိပြုပေးပါ

ထိတဲ့အပေါ် သတိထားရင် တရား မြင်မယ်။ သတိမထားရင် အမှားဝင်တတ်တယ်"

တရားထိုင်ချိန်ပြီးခါနီးရင် (ဝါ) အရှူရပ်ရန် အချိန်နီးလာလျှင် ဆရာတော်ကြီးက ဤသို့ သတိပေးပါသည်။

"ရှူပေး ရှူပေး နီးလာပြီ။ လေတိုး ထိတိုင်း သိနေပါစေ။ ရှူပေး ရှူပေး။ လုံ့လဝီရိယ မလျှော့စေနဲ့။ သဒ္ဓါ နောက်မဆုတ်နဲ့။ ကြိုးစားရှူ ရပ်တော့မယ်၊ အားစိုက်ရှူလိုက်"

ထိုနောက် -

"အရှူရပ်၊ အရှူရပ်။ ခန္ဓာကိုယ်စိုက် ဝေဒနာလိုက်ရှူ။ စိတ်နဲ့ ကိုယ်နဲ့ တည့်ပါစေ။ အာရုံတခြား ပြန့်မသွားပါစေနဲ့။ ပစ္စုပ္ပန်ဆတ်ဆတ် မိမိခန္ဓာကိုယ်တွင်းက ဖြစ်ပေါ်လာတဲ့ ဝေဒနာလေး စိုက်ရှုပါ။ ညောင်းလည်း မလှုပ်နဲ့။ ယားလည်း မကုတ်နဲ့။ တွေ့တာစိုက်ရှု"

ထိုအခါ မိမိ၏ဝင်လေကို အပြည့်ရှူသွင်းပြီး ဆတ်ခနဲ အရှူရပ်၍ အသက်အောင့်ပြီး ခန္ဓာကိုယ်ကိုခြုံပြီး သတိပြု လိုက်ရပါမည်။

ဝင်လေထွက်လေသည် သဘာဝအတိုင်း ပုံမှန်ဆောင်ရွက်၍ ရှူနေပေလိမ့်မည်။

**ဝေဒနာနုပဿနာရှုခြင်း**

အရှူရပ်ပြီး ခန္ဓာကိုယ်သို့ သတိကပ်၍ ရှုမှတ်လိုက်သောအခါ မွမွရွရွ စစ်စစ် ဖျဉ်းဖျဉ်းဖြစ်ခြင်း၊ နာကျင်ကိုက်ခဲခြင်း အစရှိသည့် ဝေဒနာအမျိုးမျိုး ဖြစ်ပေါ်နေပေမည်။ ထိုဝေဒနာများမှ အထင်ရှားဆုံးဝေဒနာကို သတိကပ်၍ ရှုမှတ်ရပါမည်။ မထင်ရှားသော ဝေဒနာကို မရှုမှတ်သင့်ပါ။

တရားအားထုတ်ချိန် ကြာလာသောအခါ ကိုယ်ကညောင်းတင်း စိတ်က ကျဉ်းကျပ်လာသဖြင့် ကိုယ်ကိုပြင်၍ စိတ်ကို အာရုံငါးပါးနောက်သို့ လွတ်ချင် လာတတ်ပေသည်။ ထိုအခါတွင် ပစ္စုပ္ပန်မတည့်နိုင်တော့ပေ။ တကယ်တော့ ထုံလျှင် ထုံမှန်းသိ၊ နာလျှင်နာမှန်းသိ၊ ကျဉ်လျှင်ကျဉ်မှန်းသိ၊ ငါ့လက်၊ ငါ့ခြေ၊ ငါ့ ကိုယ်၊ ငါ့ဟာ၊ ငါနာသည်ဟု ငါကို မထည့်ပါနှင့်။

ဤကားရုပ်၊ ဤကားနာမ်၊ ဤ ကားအနိစ္စ၊ ဤကားဒုက္ခ၊ ဤကား အနတ္တဟု စိတ်က တွေးတောမနေရ။ ပါးစပ်ကလည်း မရွတ်ဆိုရ။ ထုံလျှင် ထုံသည့်သဘော သက်သက်၊ နာလျှင် နာသည့်သဘော သက်သက်ကိုသာ သတိကပ်၍ ရှုမှတ်နေရပါမည်။ လွန်၍လည်း မသိနှင့်။ ကြို၍လည်း မသိနှင့်။ ဖြစ်ပေါ်နေစဉ်တွင် ဖြစ်ပေါ်သည့်အလျှောက် သဘောကို သတိပြု ကပ်ရှုနေ ခြင်းသည်သာ ပစ္စုပ္ပန်တည့်သည်ဟု ဆိုပါသည်။

**ဝေဒနာသိမ်းဆည်းခြင်း**

ဝေဒနာ သိမ်းဆည်းတတ်မှုသည် တရားအားထုတ်ရာတွင် အလွန်ပင် အရေးကြီးလှပေသည်။ ဝေဒနာတို့သည် တစ်ချိန်တည်းတွင် ခြေက ကျဉ်၊ ဒူးက နာ၊ ခါးက အောင့်၊ တင်က ပူ၊ ဇက်က ကိုက်နှင့် ဟိုဝေဒနာ လိုက်ရနိုးနိုး၊ ဒီဝေဒနာ လိုက်ရနိုးနိုး၊ စိတ်ကအမျိုးမျိုး၊ ဟိုရောက် ဒီရောက် ပရမ်းပတာ ယောက်ယက်ခတ်ပြီး ကိုယ်ဆင်းရဲ စိတ်ဆင်းရဲ ဖြစ်ရခြင်းသည် ဝေဒနာ မသိမ်းဆည်းတတ်ခြင်းကြောင့် ဖြစ်သည်။

ဝေဒနာသိမ်းဆည်းပုံမှာ -

အရှုရုပ်သောအချိန်၌ အရှုကို ဝင်သက်နှင့် ဆတ်ခနဲရပ်၊ အသက်ကို အောင့်၊ ကိုယ်ရောစိတ်ပါ ငြိမ်ငြိမ်ထားပြီး ခန္ဓာကိုယ်ကိုခြုံ၍ သတိပြုသည့်အခါ အထင်ရှားဆုံး ဝေဒနာအပေါ် စိတ်ရောက်သွားပေမည်။ ထိုဝေဒနာ တစ်ခု တည်းကိုသာ သတိကပ်ပြီး စိတ်က အခြားဝေဒနာဆီ မရောက်အောင် သတိ ဖြင့် မလွတ်တမ်း အုပ်ပေးပါ။ သတိမြဲအောင် ဇောဖြင့် ဖိပေးပါ။

စိတ်နှင့်ဝေဒနာတည့်ပြီဆိုလျှင် ဝေဒနာထဲသို့ စိတ်ကထိုးဖောက်၍ ဝင် ရောက်သွားလေသည်။ ထိုသို့ ထိုးဖောက် ဝင်ရောက်သွားရန် သတိကပ်ဖြင့်၊ ဇောဖြင့် တွန်းပေးရပါသည်။ ဝေဒနာထဲသို့ စိတ်ထိုးဖောက် ဝင်ရောက်သွား သောအခါ ဝေဒနာ၏သဘောကို ကောင်းစွာ သိလိမ့်မည်။ ထိုအခါ ငါ့လက်။ ငါ့ခြေ၊ ငါ့ကိုယ်၊ ငါနာသည်ဟူသော ခန္ဓာကိုယ်ကို စွဲလမ်းသော စိတ်များ

ပျောက်ကွယ်သွားပြီး ခံစားမှုသက်သက်သာလျှင်ရှိနေ သိနေပေလိမ့်မည်။

**ဝေဒနာနှင့် သမာဓိဘောင်ချိန်ညှိခြင်း**

များသောအားဖြင့် တရားအားထုတ်ခါစ ယောဂီများနှင့် နာရီရှည်ထိုင်၍ အားထုတ်သော ယောဂီများသည် ထိုင်ချိန်ကြာလာသည်နှင့် ဝေဒနာတက်လာသည်ကို သည်းခံရှုမှတ်ရန် ခက်ခဲတတ်ပါသည်။ ပူခြင်း၊ စူးခြင်း၊ နာကျင် ကိုက်ခဲခြင်း ဝေဒနာသည် တဖျည်းဖျည်းနှင့် တိုးတက်လာသည်ကို သည်းခံရှုမှတ်နိုင်စွမ်းမရှိတော့ဘဲ ခန္ဓာကိုယ်ကို ပြောင်းရွှေ့ပြုပြင်လိုစိတ် ဖြစ်လာတတ်ကြသည်။

ထိုကဲ့သို့ ဖြစ်ရခြင်းမှာ မိမိ၏ သမာဓိနှင့် တက်လာသော ဝေဒနာတို့ ဘောင်ချိန်မညီခြင်းကြောင့် ဖြစ်သည်။ ထိုသို့ဖြစ်လာလျှင် ခန္ဓာကိုယ်ကို ပြောင်းရွှေ့ ပြုပြင်ခြင်း မပြုလုပ်ရပါ။ မိမိသမာဓိကိုသာ ဝေဒနာနှင့် ဘောင်ချိန်ညီအောင် ပြန်တင်ပေးရပါသည်။ ဝင်လေထွက်လေကို အစမှာ ရှုမှတ်သည့်အတိုင်း ဝေဒနာကို ခံနိုင်လာသည်အထိ ပြန်၍ရှုပေးပါ။ ဝေဒနာကို ခံနိုင်လာလျှင် ဝင်သက်နှင့် အရှုရပ်ပြီး ထိုဝေဒနာကို ဆက်၍ ရှုမှတ်ပေးရပါသည်။

တရားထိုင်ချိန် နာရီပြည့်သွားသောအခါ ဆရာတော်ဘုရားကြီးက -

"ကဲ- အချိန်စေ့သွားပြီး၊ တရားအာရုံဖြေ၊ ဘုရားအာရုံပြု" ဟူ၍ မိန့်တော်မူပါသည်။

ထိုအခါ ဝေဒနာ ရှုမှတ်နေသော အာရုံကို ညင်သာစွာ လျှော့ဖြေပြီး မြတ်စွာဘုရားနှင့် ဆရာတော်ဘုရားကြီးအား မိမိအားထုတ်သော တရားနှင့် ပူဇော်ကန်တော့ရပါသည်။

ဆားတောင်ဆရာတော်ဘုရားကြီးသည် တစ်နာရီ တရားချိုးမြှင့်ပါက နာရီဝက်မှာ အာနာပါနဖြစ်ပြီး မိမိခန္ဓာကိုယ်ပေါ်မှာ ပေါ်လာသည့် ဝေဒနာ (ဝိပဿနာ) ကို ရှုရသည်မှာ နာရီဝက်ဖြစ်ပါသည်။

"သစ်မြစ်ကို တူးရာမှာ ချွေးတလုံးလုံးနဲ့ ပင်ပန်းပေမယ့် ထင်းခွဲဆိုက်တဲ့အခါ လွယ်ကူသလို ရှေ့ပိုင်းအာနာပါနကို ပြင်းပြင်းထန်ထန် အားထုတ်တာနဲ့ နောက်ပိုင်း ဝိပဿနာကျတော့ စိတ်ကလေး ဘယ်မှ မပြေးတော့ဘဲနဲ့ တရားအရသာ ခံစားနိုင်တယ်"ဟု ဆရာတော် ဘုရားကြီးက အမိန့်ရှိခဲ့ဖူးပါသည်။

ဆရာတော်ဘုရားကြီးသည် နေ့တစ်နာရီ တစ်ချိန်၊ ည (၇)နာရီတစ်ချိန် တစ်နေ့ နှစ်ကြိမ် တရားချိုးမြှင့်လေ့ ရှိပါသည်။ တရားထိုင်မည့်သူသာရှိလျှင်

တစ်ယောက်တည်းဖြစ်စေ တရားချီးမြှင့်လေ့ရှိပါသည်။

## (၅) ထိသိသတိနှင့် ဆရာတော်ဘုရားကြီး၏ ဩဝါဒများ

- တရားအားထုတ်တဲ့အခါ ဝေဒနာကို မကြောက်နဲ့။ ကြောက်ရင်လွဲ ရဲရင်မင်း ဖြစ်ဆိုတာ ဒီနေရာမှာ သုံးရမှာ။
- မိမိခန္ဓာကိုယ်က ဖြစ်ပေါ်နေတဲ့ ဝေဒနာကို သည်းခံရှုနိုင်မှာ ပတ်ဝန်းကျင်ရဲ့ လောကဓံကိုလည်း ခံနိုင်ရည် ရှိမှာပဲ။
- နိဗ္ဗာန်မဂ်ဖိုလ်ရလိုကြောင်းနဲ့ ဆုတောင်းခဲ့တာများပြီ။ ဝိဇ္ဇာဉာဏ်မပါ ဓမ္မတာတောင်းမို့ အာညောင်းရုံပဲ မောဖတ်တင်မည်။ ဒါနပြုကာ အခါခါတောင်းလည်း ငါကောင်းချင်မှု ခုခံနေသည်။ ငါ တစ်လုံးပယ်ကာ ကွယ်ကာပေးမှ လွယ်စွာမနှေး နိဗ္ဗာန်မြင်မည်။

ကျေးဇူးရှင် ဆားတောင်ဆရာတော်ဘုရားကြီး၏ ဓမ္မအနှစ်သာရ ဩဝါဒများကားမှတ်သားလို့ မကုန်နိုင်ပါပြီ။ ဆရာတော်ဘုရားကြီး၏ မေတ္တာရေအစွမ်းဖြင့် ကျန်းမာရေးကောင်းလာသူတွေလည်း အများကြီးရှိနေပါသည်။ ဆရာတော်ဘုရားကြီး၏ ဆံတော်များသည် ဓာတ်တော်အသွင်ဖြင့် အဖူးမြော်ခံချက် ရှိသည်ကိုလည်း တပည့်ဒကာများတို့၏ ဘုရားစင်များတွင် တွေ့မြင်နိုင်ပါသည်။ အံ့ချီးမကုန်နိုင်သော ဆရာတော်ဘုရားကြီး၏ ဂုဏ်တော်များကို ဆရာတော်ကြီး၏အနီးနေ တပည့်ဒကာ ဥပါသကာများက ပို၍ ကြည်ညိုပြောဆိုနိုင်ပါလိမ့်မည်။

ဆရာတော်ကြီးကား လူတို့သာမက နတ်တို့ကပါ ကြည်ညိုသော ဆရာတော်ကြီးဖြစ်ကြောင်း ဓမ္မမိတ်ဆွေတစ်ဦးက ဤသို့ ပြောပြခဲ့ပါသည်။

'၁၃၂၃ ခုနှစ်မှာ ပုပ္ပားဦးပဏ္ဏဝက ပင့်လျှောက်လို့ ပုပ္ပားမှာ သီတင်းသုံးတော် မူခဲ့သေးတယ်။ တပေါင်း၊ တန်ခူး၊ ကဆုန်သုံးလ ကြာတယ်။ အဲဒီတုန်းက ပုပ္ပားမယ်တော်က လူ့အသွင်ဖန်ဆင်းပြီး ဆရာတော်ကြီးကို သစ်သီးဆွမ်း နေ့စဉ် လာကပ်တယ်။ ပြီးတော့ ဆရာတော်ကြီးကို ဝက်သား မစားစေဖို့လည်း ပုပ္ပားမယ်တော်က အလှူခံတယ်လို့ သိရတယ်။ ဆရာတော်ကြီးလည်း ပုပ္ပားမယ်တော်အကြိုက် လိုက်လျောခွင့်ပြုလိုက်ပြီး အဲဒီအချိန်ကစပြီး ဝက်သား မစားတော့ဘူး'

ဩော်- ဆရာတော်ကြီးတို့ကဲ့သို့ သော အရိယာသူတော်ကောင်းကြီးများ သာသနာပြုပုံမှာ လေးနက်ကျယ်ဝန်း လှပါသည်တကား။

ကျွန်တော်ကား ဆရာတော်ဘုရားကြီး၏ ဘဝနှင့်ဓမ္မကို အကျဉ်းမျှသာ ပူဇော်နိုင်ခွင့် ရခဲ့ပါသည်။ ကျေးဇူးရှင်ဆားတောင် ဆရာတော် ဘုရားကြီး၏ 'ထိသိ သတိ' ဝိပဿနာ တရားအားထုတ်နည်းအစဉ်ကိုသာ ရှိသေစွာ အားထုတ်ပူဇော်ပါမည်ဟု အလေးအနက်ပြုတင်ပြလိုက်ရပါသည်။

**ညွှန်း/**

၁။ ကျေးဇူးရှင် ဆားတောင်ဆရာတော် ဘုရားကြီး၏
ထေရုပ္ပတ္တိနှင့် တရားကျင့်စဉ်။
ဦးအောင်လင်း၊ ဒေါ်စန်းစန်းမြင့် ၁၂၅-လသာလမ်း၊ ရန်ကုန်၏ ဓမ္မဒါန။

၃။ ဆားတောင်ဆရာတော်ဘုရားကြီး ၏ ဝိပဿနာတရား အားထုတ်နည်း
အစဉ်။
ဦးသိန်းထွန်း (ဆေးတက္ကသိုလ်-၂)၊ ဒေါ်ခင်လှရီ မိသားစု၏ ဓမ္မဒါန။

[၂၀၀၆ ၊ ဇွန်လထုတ် သူရဇ္ဇမဂ္ဂဇင်း]



# လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီး

## ၏ အံ့ဖွယ်ကျင့်စဉ်များ

**ဝတ်ပဋိပတ် အကျင့်မြတ်**

သီလ၊ သမာဓိ၊ ပညာ စသော ကျေးဇူးတော်အပေါင်းတို့၏ တည်ရာဖြစ်တော်မူသော လေ့သင်းမင်းကျောင်းဆရာတော်ဘုရားကြီးဟာ ငယ်ရွယ်စဉ်သာမဏေဘဝကပင် စာပေပရိယတ္တိတို့ကို အထူးလေ့လာအားထုတ်ခဲ့ရာ ရဟန်းဘဝသို့ ရောက်ရှိသောအခါတွင် ပညာရှိ ကဝိတစ်ဆူ ဖြစ်တော်မူခဲ့ပါပြီ။ စစ်ကိုင်း တောင်ဘီလူး ဆရာတော်ကဲ့သို့သော ရဟန်းပညာရှိကပင် တောင်းပန်သည်ဖြစ်၍ ဝိသုဒ္ဓိမဂ် မဟာဋီကာနိဿယကျမ်း ကို ရေးပေးခဲ့ရသည် မဟုတ်ပါလား။ အဲဒီတုန်းက ဆရာတော်ရဲ့ သက်တော်ဟာ လေးဆယ်ကျော် ရှိသေးတယ်။ ကျမ်းပေါင်းနှစ်ဆယ်ကျော် ပြုစုခဲ့ပြီး စာသင်သား တပည့်ရဟန်း များစွာတို့ကိုလည်း နေ့ညမပြတ် စာဝါပို့ချကာ ပရိယတ္တိ အလင်းရောင်ကြီးကို ထွန်းတောက်စေခဲ့ပါတယ်။

လေ့သင်းမင်းကျောင်း ဆရာတော်ကြီး သက်တော်ငါးဆယ်အတွင်းဆီသို့ ရောက်လာချိန်မှာတော့ စာပေပရိယတ်ကို မလစ်မလပ်ရုံမျှ အာရုံထား၍ ပဋိပတ္တိအကျင့်ဓမ္မကို လွန်မင်းစွာ အဓိကပြု၍ လုံ့လကြီးကုတ် အားထုတ်တော်မူခဲ့ပါတယ်။ ဆရာတော်ဘုရားကြီးဟာ သက်တော် ၂၂ နှစ်ကပင် ဝိနယဘောဂကျမ်းကို ပြုစုခဲ့သူပီပီ ဝိနည်းတော်ကို လွန်စွာ ရိုသေ၊ အသက်သာ အသေခံမည်၊ ဝိနည်းသီလကို အသေမခံဆိုသော ရဟန်းတော်ဖြစ်ပါတယ်။ သီလသိက္ခာ မကျိုးမပေါက် မပြောက်မကျားအောင် ထိန်းသိမ်းတဲ့

အပြင် ဖြူစင်သန့်ရှင်းအောင်လည်း ဖြည့်ကျင့်တော်မူပါတယ်။

အဖျားအနာ ရောဂါဖြစ်နေချိန်များမှာတောင် ဆေး၊ အစာ၊ အာဟာရများကို အရိပ်နိမိတ်သော်မျှ ဖွင့်ဟပြီးတောင်းခံခြင်း မရှိပါဘူး။ မိမိရဲ့ ရောဂါဝေဒနာကို အောင့်အည်းသည်းခံပြီး လျစ်လျူရှုလို့သာနေတတ်ပါတယ်။ ဆရာတော် ရောဂါဝေဒနာဖြစ်ကြောင်း သိတဲ့ တပည့်ရဟန်းတွေက ဆေး၊ အာဟာရ ဆက်ကပ်လျှင်လည်း အပ်၊ မအပ်ကို ဦးစွာဆင်ခြင်ပြီးမှ မအပ်သော ဆေး၊ အာဟာရကို ပယ်လှန်ရှောင်ကြည်တော်မူပါတယ်။

အခါတစ်ပါး ဆရာတော် ဖျားနာနေစဉ် မြန်မာဆေးဆရာကြီး ဆရာသဲဆိုသူက ဆေးဝိဇ္ဇာဆိုတဲ့ဆေးကို စပါးကြီးမြွေသည်းခြေ၊ ဝက်ဝံသည်းခြေတွေ ပါဝင်နေလို့ အကပ္ပိယမံသ ဖြစ်တဲ့အတွက် ဆရာတော် လက်မခံ ငြင်းဆန်တော်မူပါတယ်။

ကျေးဇူးရှင် လေ့သင်းမင်းကျောင်းဆရာတော်ဘုရားကြီးဟာ ဣန္ဒြိယသံဝရသီလ ကိုလည်း အထူးစောင့်စည်းတော်မူခဲ့ပါတယ်။ မျက်စိ၊ နား၊ လျှာ၊ ကိုယ်တို့အပေါ်မှာ အကုသိုလ်မဖြစ်အောင် ထိန်းသိမ်းစောင့်စည်းတော်မူခဲ့ပါတယ်။ တစ်ခါတုန်းက ဗိမာန်ဘုံသာကျောင်းပေါ်မှာ ဆရာတော်ကြီး စာကြည့်နေစဉ် ကိုရင်ငယ်များ ခိုက်ရန်ဖြစ်ပွားပါတယ်။ ကိုရင်တွေ လုံးထွေး သတ်ပုတ်လိုက်တာ သွေးထွက်သံယို ဖြစ်တဲ့အထိ။ သို့သော် ဆရာတော်က စာကြည့်မပျက်၊ အနိဋ္ဌာရုံကို မျက်နှာမမူ။ အကုသိုလ် အဝင်မခံ။ ဆရာတော်ထံ လာရောက် တိုင်ကြားတဲ့အခါ 'ဒေါမနဿတရား မဖြစ်ပွားစေနဲ့၊ ချမ်းသာစွာနေကြ' လို့ပဲ မိန့်ကြားပြီး နေရာက ထသွားပါတယ်။

လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားဟာ အာဇီဝပါရိသုဒ္ဓိသီလကိုလည်း အစဉ်ဖြည့်ကျင့်တော်မူပါတယ်။ ဆိုလိုချင်တာကတော့ အသက်မွေးမှု အထူးစင်ကြယ်တယ် ဆိုတာပါပဲ။ လာဘ်ပူဇော်သက္ကာရ အကျော်အစောကို မျှော်ကိုးတဲ့ ကြံ၊ ပြော၊ လုပ် အမူအရာ လုံးဝကင်းရှင်းတယ် ဆိုတာပါပဲ။ သင်္ကန်း၊ ဆွမ်း၊ ကျောင်း၊ ဆေး ဆိုတဲ့ ပစ္စည်းလေးပါးကို မတရားသော မိစ္ဆာအမှုဖြင့် ရှာမှီးစုဆောင်းဖို့ ဝေးစွ၊ ဒကာ ဒကာမတို့ လာရောက်လှူဒါန်းတဲ့ ပစ္စည်းများကို ကိုယ်တိုင်သိမ်းဆည်းခြင်းလည်း မပြု၊ တပည့်များကို သိမ်းဆည်းရန်လည်း မခိုင်း၊ လှူတဲ့နေရာမှာ သူ့ပကတိအတိုင်း ချထားပြီး လျစ်လျူရှုနေတတ်ပါတယ်။ ဆရာတော်ဘုရားဟာ ကြည်လင်တဲ့မျက်နှာ၊ တည်ကြည်တဲ့ တရားစကားအားဖြင့်သာ ဒကာ ဒကာမများကို အယုတ်အလတ် အမြတ်မရွေး

ညီညီမျှမျှ ဆက်ဆံတတ်ပါတယ်။

ကျေးဇူးရှင် လေ့သင်းမင်းကျောင်းဆရာတော်ဘုရားဟာ ဝတ်ပဋိပတ်များလည်း အလွန်အကြူး အထူးပင် ဖြည့်ကျင့်တော်မူပါတယ်။ ကျောင်းပရိဝုဏ်မှာ တံမြက်လှည်းခြင်းဟာ ဆရာတော်ဘုရားကြီးရဲ့ နိစ္စဗဒ္ဓ ဖြစ်ပါတယ်။ သောက်ရေသုံးရေကိုလည်း ဆရာတော်ကိုယ်တိုင် မြစ်ထဲက ခပ်ယူထမ်းတင်ပြီး ရဟန်းသံဃာများကို သုံးစေပါတယ်။ တပည့်ရဟန်းများက ဆရာတော်ဘုရားကြီး ရေမခပ်မီ ရှေးဦးစွာ ပြည့်လျှံအောင် ရေခပ်ထားလျှင်လည်း ဆရာတော်က အဲဒီရေတွေကို ဘုရားလှူပစ်လေ့ ရှိပါတယ်။ ပြီးတော့ ကိုယ်တော်တိုင် ရေခပ်စမြဲ၊ တပည့်တွေကို သုံးစေမြဲ။ အဲဒီမှာ တပည့်ရဟန်းများက "အရှင်ဘုရား၊ တပည့်တော်များ ခပ်ဆောင်ထားတဲ့ရေကို သုံးဆောင်ပါဘုရား"လို့ လျှောက်ထားတဲ့အခါ "သင်တို့ ခပ်တဲ့ရေ ငါသုံးဆောင်တာထက် ဘုရားလှူတာ ပိုအကျိုးကြီးတယ်"လို့ အမိန့်ရှိပြီး ရေဝတ်ကို မပြတ်ပြုတော်မူပါတယ်။

ရေဝတ်ထက် ပိုပြီး အံ့သြကြည်ညိုဖွယ် ကောင်းတာကတော့ ကုဋိဝတ်ဖြစ်ပါတယ်။ ဗိမာန်ဘုံသာ ကျောင်းတိုက်ကြီးအတွင်း သီတင်းသုံးသမျှ သံဃာအပေါင်း အသုံးပြုလောက်အောင် ကနုတ်ပေါင်းများစွာ ဆရာတော်ဘုရားကိုယ်တိုင် ပြုလုပ်ထားရှိပေးပါတယ်။ အသုံးပြုပြီး ကနုတ်များကိုလည်း ဆရာတော်ကိုယ်တိုင်ပဲ မရွံမရှာ ဆေးကြောသုတ်သင်ပေးလေ့ ရှိပါတယ်။ အိမ်သာရေကိုလည်း ဆရာတော်ကိုယ်တိုင်ပဲ အမြဲ ပြည့်လျှံနေအောင် ဖြည့်ပေးထားလေ့ ရှိပါတယ်။

စေတီယင်္ဂဏဝတ် စသော ကျင့်ဝတ်အထူးများကိုလည်း မလစ်လပ်အောင် ပြုကျင့်တော်မူပါတယ်။ ဗိမာန်ဘုံသာ ကျောင်းတိုက်ကြီးရဲ့ အနီးအပါးအတွင်းအပမှာ ရှိတဲ့ စေတီတော် ရုပ်ပွားတော်များသို့ အချိန်အားရတိုင်းကြွသွားပြီး တံမြက်ဝတ် စတဲ့ သန့်ရှင်းရေးအလုပ်တွေနဲ့ ဘုရားကို ပူဇော်လေ့ရှိပါတယ်။ စေတီ၊ ရုပ်ပွားတော်များအား သက်တော်ထင်ရှား ပမာထားကာ နွေအခါ ရေနဲ့ ပူဇော်၊ ဆောင်းအခါကိုယ်တိုင် ထင်းခွေမီးဖို မီးပူဇော်ပါ တယ်။ အလွန်အေးတဲ့အချိန်များမှာ သံဃာတော်များ ဆွမ်းခံသွားရာ လမ်းတစ်လျှောက် မီးဖိုပေးထားတတ်ပါတယ်။ ခြေလက်အေးတတ်တဲ့ သံဃာတော်များ မီးကင်အချမ်းပြေစေဖို့ ဖြစ်ပါတယ်။

ကျေးဇူးရှင် လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးရဲ့ ပူဇော်အထူး

မှာ ခေတ်လေးပါးပူဇော်နည်း ဖြစ်ပါတယ်။ ပူဇော်ပုံမှာ ဘုရားရုပ်ပွားတော်ရှေ့ မီးလင်းဖိုတစ်ခုတွင် ထင်းတွေထည့်ပြီး မီးပူဇော်ခြင်း ဖြစ်ပါတယ်။ ထင်းရဲ့ မာထန်တဲ့ လက္ခဏာဟာ ပထဝီခေတ်၊ မီးက တေဇောခေတ်၊ ရေခွက်မှာ ရေထည့်ပူဇော်တာက အာပေါခေတ်၊ ဘုရားကို ယပ်လေခတ်၍ ပူဇော်တာက ဝါယောခေတ် ဖြစ်ပါတယ်။ အဲဒီလို ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယောဆိုတဲ့ မဟာဘုတ် ရုပ်ခေတ်ကြီးလေးပါးနဲ့ မြတ်စွာဘုရားကို ထူးထူးခြားခြား ပူဇော်လေ့ရှိခဲ့ပါတယ်။

လှေသင်းမင်းကျောင်းဆရာတော်ဘုရားကြီးဟာ အနီးအပါး ဘုရားစေတီများသာမက တာငါးရာခန့် ဝေးကွာတဲ့ တောင်ထိပ်မှာ တည်ထားတဲ့ ပတ္တမြားစေတီတော်သို့ ကြွသွားပြီးတော့လည်း ပူဇော်အထူး ပြုလေ့ရှိပါတယ်။ ဒီလောက်ဝေးတဲ့ တောင်တက်ခရီးကို လက်ချည်းမသွား၊ ရေပြည့်အိုးကြီး ထမ်းတက်သွားပြီး ဘုရားကိုပူဇော်တာ ဖြစ်ပါတယ်။ ရှည်လျားတဲ့ ပတ္တမြားစေတီ စောင်းတန်းတစ်ခွင် အသွားအပြန် တံမြက်လှည်းပြီးတော့လည်း ကုသိုလ်ပြုလေ့ ရှိပါတယ်။ သံဃာတော်များ သွားလာရာ ဝါးချက်ရွာ မြောက်တံခါးအထွက်မှ ဗန်းမော်ချောင်၊ မင်းအိုချောင်အထိ နှစ်မိုင်ကွာ လမ်းမကြီးမှာလည်း တောက်လျှောက် တစ်စပ်တည်း တံမြက်လှည်း ကုသိုလ်ပြုလေ့ ရှိပါတယ်။

ညဉ့်နက်သန်းခေါင်ချိန် တခြားသံဃာတွေ ကျိန်းစက်အိပ်မောကျပြီဆိုရင် ဆရာတော်ဘုရားကြီးဟာ မြစ်ကမ်းပါး သဲသောင်ပြင်ကို ဆင်းလာ၊ သဲတွေကျုံးပြီး ဗိမာန်ဘုံသာကျောင်းကြီးပေါ် ထမ်းတက်၊ သံဃာတော်များ သွားရာလမ်းတွေမှာ သဲစောင်းတန်းခင်းပြီး လှူဒါန်းတော်မူပြန်တယ်။ ဟို ရှေးခေတ်က သွားတိုက်ဆေး၊ သွားတိုက်တံ အသုံးမပြုသေးပါဘူး။ သွားနှင့် ခံတွင်း သန့်ရှင်းရေးအတွက် ဒန်ပူကို အသုံးပြုရပါတယ်။ အထူးသဖြင့် တမာသားနဲ့ လုပ်တဲ့ တုတ်တံချောင်းကလေးတွေကို ဒန်ပူလို့ ခေါ်ပါတယ်။ ဆရာတော်ဘုရားကြီးဟာ ဒန်ပူပေါင်း သိန်းသန်းကုဋေကျော်အောင် ကိုယ်တိုင်ပြုလုပ်ပြီး ကြွသွားရာတိုင်း ယူဆောင်သွားပြီး ရုပ်ပွားတော်၊ စေတီတော်တွေ့တိုင်း တင်လှူပူဇော်လေ့ ရှိပါတယ်။

၁၂၅၉ ခုနှစ်၊ တပေါင်းလက ဆရာတော်ဘုရားကြီးရဲ့ ဒန်ပူအလှူဟာ ထူးခြားပါတယ်။ ဆရာတော်ဘုရားက သံဃာအများဆုံးရှိတဲ့ ကျောင်းတိုက်က ရှိသမျှ သံဃာစေ့အောင် ဒန်ပူလှူလိုတယ်လို့ အမိန့်ရှိပါတယ်။ မန္တလေးမြို့တောင်ပြင် ဒက္ခိဏာရာမတိုက်မှာ သံဃာ တစ်ထောင့်ခြောက်ရာခန့်ရှိကြောင်း

မစိုးရိမ်ဆရာတော်က လျှောက်ထားတဲ့အခါ ရဟန်းသာမဏေတစ်ပါးလျှင် ဒန်ပူတစ်ရာစည်း တစ်စည်းကျ လှူမယ်လို့ ဆရာတော်က အမိန့်ရှိပါတယ်။ သိန်းချီပြုလုပ်ရမယ့် ဒန်ပူတွေအတွက် ခင်ပုပ်နွယ်တွေကိုပဲ အသုံးပြုရပါတယ်။ ဆရာတော်ကြီးကိုယ်တိုင် နေ့ညမနားဘဲ ခပ်ပုပ်နွယ်တွေ သုတ်သင်ကာ ဒန်ပူ ပြုလုပ်ပါတယ်။ ဒန်ပူတစ်ရာစည်း တစ်ထောင့်ခြောက်ရာကျော် ရတဲ့အခါ မန္တလေး ဒက္ခိဏာရာမတိုက်သို့ ပေးပို့လှူဒါန်းစေခဲ့ပါတယ်။

ဆရာတော်ဘုရားကြီးရဲ့ ဝတ်ပဋိပတ် အကျင့်မြတ် ဆောင်ရွက်ပုံတွေဟာ ဘယ်သူမှ လိုက်မမီအောင် အံ့ဖွယ်သရဲ ရှိလွန်းလှပါတယ်။

## ဓူတင်ဆောင်ခြင်းနှင့် သန္တုဋ္ဌိ သလ္လေခ အကျင့်လမ်းညွှန်များ

ကျေးဇူးတော်ရှင် လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ တစ်ဆယ့်သုံးပါးသော ဓူတင် ကျေးဇူးတရားတို့ကိုလည်း ဆောက်တည်ကျင့်သုံးတော်မူပါတယ်။ ဓူတင်ဆောက်တည်ရာမှာ မြတ်စွာဘုရား အလိုတော်ကျ အာပိစ္ဆသဘောဖြင့် အလွန်လျှို့ဝှက်တော်မူတဲ့အတွက် သာမန်လူတွေ မရိပ်စား မသိရှိနိုင်ကြပါ။ ဥပမာ-အရညိက ဓူတင်ဆိုပါစို့။ တောလို့ ခေါ်ဆိုအပ်သော အရညအရပ်မှာသာ အရုဏ်တက်စေရသော အကျင့်မျိုး ဖြစ်ပါတယ်။ ဆရာတော်ဘုရားကြီးဟာ နေ့အခါ ဗိမာန်ဘုံသာကျောင်းကြီးမှာ အခြားသော သံဃာများနဲ့ သီတင်းသုံးနေတာ အများမြင်ကြရသော်လည်း ညဥ့်အခါ လူခြေတိတ်၍ အများတကာ အိပ်သောအခါမှ ဧကစာရ တစ်ပါးတည်းမျှသာ တောသို့ဝင်၍ အရညကင်ဓူတင်ကို ဆောက်တည်ကျင့်သုံးပါတယ်။

လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီး ဘာတွေ ကျင့်နေတယ်ဆိုတာ သာမန်လူတွေကို မဆိုထားနှင့်၊ ရဟန်းအချင်းချင်းပင် မရိပ်မိပါ။ တစ်ခါက ဦးသုဇာတ ဆိုတဲ့ ရဟန်းတစ်ပါးဟာ ညဥ့်အခါ ဆရာတော်ဘုရား ဘယ်ကိုကြွသွားသလဲ သိရအောင် လိုက်ချောင်းပါတယ်။ ဆရာတော်ဘုရားကြီးဟာ တစ်ရံတစ်ခါ တောရအရပ်၊ တစ်ရံတစ်ခါ သုသာန် စသည်ဖြင့် လှည့်လည်ပြီး တစ်ပါးတည်း ကျင့်ကြံအားထုတ်တာ မြင်ခဲ့ရတယ်လို့ ဆိုပါတယ်။ သို့ပါသော်လည်း ဆရာတော်ဘုရားဟာ မိမိ ဘာတွေကျင့်နေပါတယ် ဆိုတာ အထူးတလည် မိန့်ကြားခြင်း မရှိ၊ ဆိတ်ဆိတ်နေတော်မူလေ့သာ ရှိပါတယ်။ ဗိမာန်ဘုံသာကျောင်းကြီး ပြန်ရောက်တဲ့အခါမှာလည်း တစ်နေရာတည်း စွဲစွဲမြဲမြဲ မနေ၊ သိမ်ကျောင်း၊ ဗိုလ်ကျောင်း၊ မီးတင်းကုပ်၊ အုတ်တိုက်

စသည် ပြောင်းလှည့်ပြီး လျှို့ဝှက်စွာ ကျင့်တော်မူပါတယ်။ ထိုင်ခြင်း၊ ရပ်ခြင်း၊ သွားခြင်း ဣရိယာပုထ်သုံးပါးမျှဖြင့်သာ ကျင့်ကြံနေထိုင်ရတဲ့ နေသဇ္ဇိက ဓုတင် ကျင့်သုံးတာကိုတော့ အများ သတိထားမိခဲ့ကြပါတယ်။ ဘာဖြစ်လို့လဲ ဆိုတော့ ဆရာတော် ကျောခင်းကျိန်းစက်တာ မတွေ့ကြရလို့ပါပဲ။

လေသင်းမင်းကျောင်းဆရာတော်ဘုရားဟာ သန္တုဋ္ဌိအကျင့် ကိုလည်း လွန်မင်းစွာ ကျင့်တော်မူကြောင်း မူရင်းကျမ်း စာမျက်နှာ ၉၆ မှာ ဖော်ပြထားပါတယ်။ သန္တုဋ္ဌိအကျင့်ဆိုတာ သင်္ကန်း၊ ဆွမ်း၊ ကျောင်း၊ ဆေး ပစ္စည်းလေးပါးတို့၌ အလိုနည်းပါး၍ တွေ့ရှိကာမျှ၌ ရောင့်ရဲတင်းတိမ်ခြင်း သန္တောသတရားဖြစ်ပါတယ်။ ဆရာတော်ဘုရားကြီးဟာ လှူတဲ့ပစ္စည်းတွေ အပေါ် ကောင်း၊ မကောင်း ရွေးချယ်လေ့ မရှိ၊ သုံးဆောင်သည်ဆိုရုံမျှ သုံးဆောင်ပြီး ပိုလျှံသည်တို့ကိုလည်း သိမ်းဆည်းခြင်း မပြု၊ လျစ်လျူရှု ဥပေက္ခာပြုလေ့ ရှိပါတယ်။ ပိုးဖဲကတ္တီပါ အရောင်အဝါတောက်ပတဲ့ သင်္ကန်းမျိုး ဘယ်အခါမှ ဝတ်ဆင်ခဲ့ခြင်း မရှိဘူးလို့ ဆိုပါတယ်။

လေသင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ အဇ္ဈတ္တ၊ ဗဟိဒ္ဓ အတွင်း အပြင် ငြိတွယ် ရှုပ်ထွေးစေတဲ့ အရာများကို ခေါင်းပါးရှင်းလင်း လွတ်ကင်းစေတဲ့ သလ္လေခ အကျင့်တရား နှင့်လည်း ပြည့်စုံပါတယ်။ သလ္လေခတရားဆိုတာ ဝတ္ထုအာရုံ ကာမဂုဏ်တို့ကို လိုချင်မက်မောသော တဏှာ၊ ကာမစ္ဆန္ဒကို ခေါင်းပါးလွတ်ကင်းစေနိုင်တဲ့ နေက္ခမတရားဟာ သလ္လေခ မည်ပါတယ်။ ဒေါသခေါင်းပါးစေတဲ့ အဒေါသ မေတ္တာတရားလည်း သလ္လေခ မည်ပါတယ်။ ပျင်းရိထိုင်းမှိုင်းခြင်း ကင်းစေတဲ့ အာလောကသညာကိုလည်း သလ္လေခ ခေါ်ပါတယ်။ ဈာန်နှင့် ဉာဏ်ပညာ၊ မဂ်လေးပါးအားလုံး သလ္လေခ မည်တာမို့ ဆရာတော်ဘုရားကြီးဟာ အကျင့်ဘက်မှာ တစ်ဖက်ကမ်းခတ်ခဲ့တာ ယုံမှား သံသယ မရှိသာပါဘူး။ ဆရာတော်ဘုရားကြီးထံ အကျင့်နဲ့ပတ်သက်ပြီး ဩဝါဒခံလာသူများကို လမ်းညွှန်လေ့ရှိတာကတော့. . .

- ကာမသုခလ္လိကနုယောဂ - အကျင့်ပဋိပတ် မရှိတဲ့ စိတ်အလိုသို့ လိုက်သဖြင့် လျော့လွန်းသောကြောင့် မိစ္ဆာ၊
- အတ္တကိလမထာနုယောဂ - ဉာဏ်ပညာ ကင်း၍ တင်းလွန်းသောအကျင့်များသောကြောင့် ဒိဋ္ဌိ

လျော့လွန်းလျှင် မိစ္ဆာ၊ သာလွန်းလျှင် ဒိဋ္ဌိ ဟူသော လက်ဝဲစွန်း၊ လက်ယာစွန်းတို့ကို ရှောင်၍ သမ္မာဒိဋ္ဌိတရားတို့ကို လက်ကိုင်ရှိစေပြီး ဖြောင့်

ဖြောင့်မတ်မတ်ကျင့်မှ မဇ္ဈိမပဋိပဒါလမ်းပေါ် ရောက်ပြီး လောကုတ္တရာမဂ္ဂင်သို့ ဆိုက်တယ်လို့ ဆိုပါတယ်။

(၎င်းကျမ်း၊ စာ-၁၀၁ ရှု)

**သမထ ဝိပဿနာ ဘာဝနာ အကျင့်ခန်း**

ကျေးဇူးရှင် လေ့သင်းမင်းကျောင်းဆရာတော်ဘုရားကြီးဟာ 'သမထ ကမ္မဋ္ဌာန်းဘာဝနာ' များကိုလည်း စီးဖြန်းကျင့်ကြံတော်မူပါတယ်။ ဒီလို ကျင့်ကြံရာမှာ စီမံပြုလုပ်ရတဲ့ ကသိုဏ်းမျိုး၊ ပလိဗောဓများတဲ့ အကျင့်မျိုးကို လွှဲရှောင်ပြီး ပကတိဖြစ်သောမြေကို အာရုံနိမိတ်ယူပြီး ကျင့်ရတဲ့ ပထဝီကသိုဏ်း၊ ရေကို အာရုံနိမိတ်ယူပြီး ကျင့်ရတဲ့ အာပေါကသိုဏ်း စသည်တို့ကို ကျင့်တော်မူပါတယ်။ နံရံပေါက်၊ ပြတင်းပေါက် တစ်ခုခုသောအပေါက်ဖြင့် အပိုင်းအခြားရှိသော ကောင်းကင်ကို အာရုံနိမိတ်ယူပြီး အာကာသကသိုဏ်းကိုလည်း ကျင့်ပါတယ်။ တွေ့ကြုံရာ၌ ကသိုဏ်းအာရုံနိမိတ်ယူပြီး ကျင့်တတ်မှ အပ္ပနာသမာဓိကို ဖြစ်စေတယ်။ အပ္ပနာသမာဓိ မဖြစ်တောင်မှ သုခပဋိပဒါရဲ့ အကြောင်းကို ဆည်းပူးမိခြင်း ဖြစ်တယ်လို့ လမ်းညွှန်မိန့်ကြားတော်မူပါတယ်။

ကျေးဇူးရှင် လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ ဆယ်ပါးသော အနုဿတိ ဘာဝနာ ပဋိပတ် ကိုလည်း မပြတ်ကျင့်တော်မူပါတယ်။ ဘုရားဂုဏ်၊ တရားဂုဏ်၊ သံဃာ့ဂုဏ်နှင့် မိမိ၏ သီလတို့ကို နေ့စဉ်မပြတ် ဆင်ခြင်အောက်မေ့တော်မူသဖြင့် ဘုရားကို ဆည်းကပ်ဝတ်ပြုရှိခိုးခြင်း၊ တရားတော်ကို ဆင်ခြင်၍ သိမြင်အောင် ကျင့်ကြံခြင်း၊ သံဃာတော်ဂုဏ်ကို အာရုံပြုသဖြင့် ကျင့်ဝတ်ဖြည့်ခြင်း၊ မိမိသီလကို ဆင်ခြင်၍ ဖြူစင်အောင် ဖြည့်ခြင်းတို့ကို အဖန်ဖန် အောက်မေ့ဆင်ခြင်လျက် ဗုဒ္ဓါနုဿတိ၊ ဓမ္မာနုဿတိ၊ သံဃာနုဿတိ၊ သီလာနုဿတိ ဘာဝနာများ ဖြစ်ပွားအောင် အားထုတ်တော်မူသည်။

(မူရင်းကျမ်း၊ စာ-၁၀၅)

ဒေဝတာနုဿတိ၊ စာဂါနုဿတိ၊ မရဏာနုဿတိ၊ အာနာပါနဿတိ၊ ကာယဂတာသတိ စသည်ဖြင့် ဖြည့်ကျင့်တော်မူပါတယ်။ လေ့သင်းမင်းကျောင်းဆရာတော်ဘုရားကြီးဟာ ဗြဟ္မာ့ဝိဟာရ သမထဘာဝနာအကျင့်မြတ်ကို ဖြည့်ကျင့်ရာလည်း စံပြဖြစ်တော်မူပါတယ်။ ဆရာတော်ဘုရားကြီးဟာ သတ္တဝါတွေကို ချမ်းသာစေလိုတဲ့စေတနာနဲ့ အမြဲမေတ္တာပို့ပြီး နေတော်မူပါ

တယ်။ မိမိကြောင့် ဘယ်သူမှ မဆင်းရဲစေလိုပါ။ တစ်ခါက ဆရာတော်ဘုရားကြီး ဝမ်းလျှောခြင်းရောဂါ လွန်ကဲစွာ ဖြစ်ပေါ်ရာ အသက်ဇီဝိတိန္ဒြေ ပျက်ကြေခမန်း ပင်ပန်းတော်မူသောကြောင့် ဆရာတော်ဘုရား၌ စိတ်အကြံတော်ဖြစ်သည်မှာ "ငါ့အား ရောဂါ ပြင်းထန်စွာ နှိပ်စက်ကြောင်း တပည့်အပေါင်းတို့ သိက မအိပ်မနေ ပြုစုကြ၍ ဒုက္ခဆင်းရဲ များရှာကြလိမ့်မည်။ ထိုဒုက္ခဆင်းရဲ မဖြစ်ကြစေခြင်းငှာ ငါ သေသွားလျှင်လည်း သုသာန်သို့ ရောက်ပြီးဖြစ်က အများဒုက္ခ မဖြစ်ကြရမည်"ဟု နှလုံးတော်ပြုပြီးလျှင် ဆရာတော်ဘုရားတစ်ပါးတည်း သုသာန်သို့ တိတ်တဆိတ်ကြွသွား၍ သချိုင်းမြေပုံအနီး၌ ဦးခေါက်းစိုက် လျောင်းခွေလျက် နေတော်မူ၏။

(မူရင်းကျမ်း၊ စာ-၁၁၀)

ဆရာတော်ဘုရားကို ကျောင်းမှာ မတွေ့ရလို့ တပည့်ရဟန်းတွေ လိုက်ရှာတဲ့အခါ သုသာန်မှာ လဲကျနေတာ တွေ့ပြီး ကျောင်းသို့ ပြန်ပင့်ပြုစုခဲ့ကြရပါတယ်။

လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ မေတ္တာပို့တဲ့အခါကရုဏာနဲ့ယှဉ်ပြီး 'ဒုက္ခာမုစ္စန္တု' ရယ်လို့ ဒုက္ခရောက်နေသူတွေဆီပါ ရည်မှန်းမေတ္တာပို့သတော်မူပါတယ်။ သတ္တဝါတို့ရဲ့ ဘေးဒုက္ခဝဋ်ဆင်းရဲကို ပယ်ဖျောက်လိုတဲ့ စေတနာစိတ်မှာ ဖြစ်ရုံမျှမကသေး၊ ဆင်းရဲဒုက္ခရောက်နေသူကို မျက်မြင်တွေ့ရလျှင် ကိုယ်တော်တိုင် ပြုစုလေ့ရှိပါတယ်။ တစ်ခါက ဗိုလ်ကျောင်းမှာ သီတင်းသုံးနေတဲ့ ဦးတိလောက ဘွဲ့မည်ရ ရဟန်းတစ်ပါး ကာလဝမ်းရောဂါဖြစ်ပွားရာ ကိုယ်တိုင် ဖေးမပြုစုရှာပါတယ်။ အညစ်အကြေး ပေစွန်းတဲ့သင်္ကန်းတွေကိုလည်း ကိုယ်တော်တိုင် ဖွပ်လျှော်ပေးပါတယ်။ သို့သော် ဦးတိလောကမှာ မသက်သာ၊ ညဉ့်သန်းခေါင်မှာ ပျံလွန်တော်မူပါတယ်။ အခြား သံဃာတော်တွေ ကျိန်းစက်အနားယူနေတာ နှိုးပြီး ပြောလိုက်ရင် ဒုက္ခရောက်မှာစိုးလို့ ဦးတိလောကရုပ်အလောင်းကို ကိုယ်တိုင်ပဲ ကျောပိုးပြီး သုသာန်သို့ ညတွင်းချင်း ပို့ဆောင်ပါတယ်။ မြေမှာ တွဲလွဲကျနေတဲ့ ဦးတိလောကရဲ့ ခြေနှစ်ချောင်းကို ဆေးဆရာဦးလူကလေးက နောက်က မ,ကိုင်ပြီး သုသာန်ကို ပို့ခဲ့ရတာပါ။ ၁၂၅၉ ခုနှစ်မှာလည်း ဦးဒီပဆိုတဲ့ ရဟန်းတစ်ပါး ဝမ်းရောဂါ ဖြစ်ရာ ဆရာတော်ကိုယ်တိုင်ပဲ မရွံမရှာ ပြုစုသုတ်သင်ပေးခဲ့ပြီး ပျံလွန်တော်မူတဲ့အခါ (အခြားသံဃာတွေဒုက္ခမရောက်ရအောင်) ဆရာတော်ကိုယ်တိုင် ကျောပိုးပြီး သုသာန်သို့ ပို့ဆောင်တော်မူခဲ့ပြန်ပါတယ်။

လှေသင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ မေတ္တာ၊ ကရုဏာ ကြီးမားရုံသာ မဟုတ်၊ မုဒိတာ ပွားရာမှာလည်း အလွန် အင်အားကြီးမားပါ တယ်။ သတ္တဝါတွေ ကောင်းစား ချမ်းသာစေလိုတဲ့ စေတနာ စိတ်မှာ ဖြစ်ပေါ် ရုံမျှမက၊ လက်တွေ့အားဖြင့်လည်း သုခိတပုဂ္ဂိုလ်တို့နှင့် ကြားသိ တွေ့ကြုံရတဲ့ အခါ သာဓု အနုမောဒနာ ပြုခဲ့တာချည်း ဖြစ်ပါတယ်။ လှေသင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ မေတ္တာ၊ ကရုဏာ၊ မုဒိတာ၊ ဗြဟ္မဝိဟာရ တရား များကို ထိတ်လန့်တုန်လှုပ်ခြင်း ကင်းကင်းနဲ့ အလွန်တည်ငြိမ်ခြင်းသို့ ရောက် အောင် အားထုတ်ပြီးမှ ဥပေက္ခာဘာဝနာကို ပွားများပါတယ်။ ဥပေက္ခာ ဘာဝနာ ဟူသည် ပါရမီတို့ရဲ့ အထွတ်အဖျား၊ စျန်သမာပတ်တို့ရဲ့ ဦးသျှောင် ဖြစ်လို့ ဆရာတော်ဘုရား အလေးထား အားထုတ်တော်မူခဲ့ပါတယ်။ ရဟန်း ရှင်လူနဲ့ တိရစ္ဆာန်စသော သတ္တဝါများအပေါ်မှာ ချစ်ခြင်း၊ မုန်းခြင်းကို အလျှင်း မဖြစ်စေဘဲ 'သဗ္ဗေသတ္တာ ကမ္မသကာ'လို့ အာရုံပြုပြီး ဆက်ဆံတော်မူပါ တယ်။ ဆရာတော်ဘုရားထံ နည်းခံသင်ကြားဖို့ စာသင်သား ရဟန်းတစ်ပါး ရောက် လာတဲ့အခါ 'ကံပစ်ချ၍ သင်ရောက်လာပြီ၊ ချမ်းသာစွာနေ'လို့ အမိန့်ရှိ တတ်ပါတယ်။ အရပ်တစ်ပါးသို့ ပြောင်းရွှေ့လို၍ ဆရာတော်ဘုရားထံ လာ ရောက် လျှောက်ထားလျှင်လည်း 'ကံပစ်ချရာ သွားပေဦးတော့' လို့ မိန့်ကြား လေ့ရှိတတ်ပါတယ်။

ရဟန်း သာမဏေ အချင်းချင်း ခိုက်ရန်ဖြစ်ပွားတာကို ဥပေက္ခာပြုနေ တတ်လို့ ကျောင်းဒါယကာ လှေသင်းအတွင်းဝန်မင်းက "အရှင်ဘုရား၏ တပည့် သာမဏေများ ခိုက်ရန်ဖြစ်ပွားသည်ကို ဆုံးမ ကံမြစ်တော်မူပါဘုရား" လို့ လျှောက်ထားတဲ့အခါ "သူတို့ ကံစီမံသည့်အတိုင်း ခိုက်ရန်ဖြစ်ကြတာ၊ သူတို့ကံက သူတို့ကို ဆုံးမလိမ့်မယ်"လို့ အမိန့်ရှိပြီး "ကိုယ့်ကိုယ်ကိုယ်သော် လည်း ဆုံးမရ ခက်တတ်လှသည်၊ ကောင်းမှု မကောင်းမှုကံက ဆုံးမသည်ကို သာ ခံရသည်"လို့ အမိန့်ရှိ အဖြေပေးတတ်ပါတယ်။ ဆရာတော်ဘုရားဟာ ကျောင်းသား ကိုရင်များအပေါ်မှာလည်း မခွဲမခြား ဥပေက္ခာထားတော်မူပါ တယ်။ ကျောင်းသားကိုရင်ငယ်တွေဟာ ဆရာတော်ဘုရားကို ဝတ်ဖြည့်နှိပ်နယ် ပေးရင်း "ဆရာတော်ဘုရားရဲ့ ခြေသလုံးမွေးတွေက အရှည်ကြီး ဘုရား၊ တပည့်တော်တို့ နုတ်ပစ်လိုက်မယ်"လို့ လျှောက်ထားရာမှာလည်း ဆရာတော် က ဆိတ်ဆိတ်သာ နေတော်မူပါတယ်။ ဒါနဲ့ ကျောင်းသား၊ ကိုရင်ငယ်တွေ လည်း ရယ်ရွှင်မြူးထူးခြင်း အလို့ငှာ ဆရာတော်ကြီးရဲ့ ခြေသလုံးမွေးတွေကို

ဆွဲနုတ်ပစ်ကြတာလည်း ဆရာတော်ကြီးက ဘာမှမပြော၊ သည်းခံပြီး ဥပေက္ခာပြုလို့သာ နေတော်မူပါတယ်။

"ဥပေက္ခာဖြင့် နေခြင်း (ဥပေက္ခာဝိဟာရီ) ကို ဥပေက္ခာပါရမီအဆင့်သို့ တိုးမြှင့်ကျင့်ကြံပါ"လို့လည်း ဆရာတော်ဘုရား မိန့်ကြားလမ်းညွှန်လေ့ ရှိပါတယ်။ မဟာပထဝီမြေကြီးဟာ မိမိအပေါ် ပစ်ချကုန်သော ဝတ္ထုဟူသမျှ၌ ချစ်ခြင်း၊ မုန်းခြင်း မရှိဘဲ ပကတိ လျစ်လျူရှုသကဲ့သို့ ဥပေက္ခာပြုနိုင်ရမယ် ဆိုပါတယ်။ ကောင်း၊ ဆိုး၊ သင့် သုံးပါးပြားသော သတ္တဝါ၊ သင်္ခါရ ဟူသမျှ၌ လျစ်လျူရှု ဥပေက္ခာပြုနိုင်ခြင်းသာလျှင် မြင့်မြတ်သော တရားအလုပ်ဖြစ်တယ် လို့လည်း အမိန့်ရှိပါတယ်။

ရေအပြင်ကို ပိုက်ကြီးတန်း၍ မငြိသကဲ့သို့လည်းကောင်း၊ လေကို လက်နဲ့ ဖမ်းဆုပ်လို့ မမိသကဲ့သို့လည်းကောင်း၊ ကောင်းကင်ကို တုတ်နှင့်ယမ်း၍ မထိ သကဲ့သို့လည်းကောင်း၊ ပစ္စည်း၊ ပရိက္ခရာ၊ အာရုံ၊ ဝတ္ထု တစ်ခုခု၌ မိမိစိတ်ကို မငြိ၊ မမိ၊ မထိစေရအောင် ဥပေက္ခာတရားကို ကြိုးစားအားထုတ်ကြပါလို့ လမ်းညွှန်မိန့်ကြားတော်မူပါတယ်။

လှေသင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ ဆွမ်း၊ ခဲဖွယ်၊ ဘောဇဉ် တို့၌ ရသတဏှာ မဖြစ်စေခြင်းငှာ စက်ဆုပ်ရွံရှာဖွယ် ရှိ၏ဟူ၍ မှတ်ခြင်း လက္ခဏာရှိသော 'အာဟာရေပဋိကူလသညာ ဘာဝနာ' ကိုလည်း ပွားများ တော်မူပါတယ်။ ကိုယ်တော်၏သန္တာန်၌ ဖြစ်ပျက်နေသော ပထဝီ၊ တေဇော၊ အာပေါ၊ ဝါယော ဓာတ်လေးပါး ကမ္မဋ္ဌာန်းကိုလည်း ပွားများဆင်ခြင်တော် မူပါတယ်။

လှေသင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ ကျင့်စရာရှိတဲ့ တရား ဓမ္မတို့ကို အထူးအချွန် အလွန်အမင်း ဝီရိယပြင်းပြင်းနဲ့ အားထုတ်လာခဲ့တာ ဝိပဿနာပဋိပတ် သို့ တိုင်အောင်ပဲ ဖြစ်ပါတယ်။ ဆရာတော်ဘုရားရဲ့ ဝိပဿနာရှုနည်း အနှစ်ချုပ်မှာ ခန္ဓာငါးပါး၊ ရုပ်နာမ်တရားတို့အပေါ် အနိစ္စ၊ ဒုက္ခ၊ အနတ္တ လက္ခဏာရေးသုံးပါးတင်ပြီး ဆင်ခြင် ရှုမြင်ခြင်း ဖြစ်ပါတယ်။ သုမင်္ဂလ၊ ဒုမင်္ဂလ စသော အရာများ၌ သီလပေး ရေစက်ချ တရားဓမ္မတို့ကို ဟောပြရာမှာပင် 'ဝိပဿနာနှင့် ကင်းလွတ်သော တရားမျိုးကို ဟောလေ့ မရှိ'လို့ မှတ်သားရပါတယ်။ ဒီလိုနဲ့ ဆရာတော်ဘုရားဟာ ပရိယတ္တိ စာပေ ပညာမှသည် ပဋိပတ္တိ အကျင့်ဘာဝနာ၊ အကျင့်ပဋိပတ်မှသည် ပဋိဝေဓ အသိပညာခန်းသို့ အံ့မခန်း ဆိုက်ရောက်တော်မူခဲ့ပါတယ်။

(မူရင်းကျမ်း၊ စာ-၁၃၀ ရှု)

**မဇ္ဈိမစာပေတိုက်**

**ပဋိဝေဓသို့ ဆိုက်ရောက်ခန်း**

ကျေးဇူးတော်ရှင် လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ လောကီ၊ လောကုတ္တရာ နှစ်ဖြာသောအခန်းကဏ္ဍတို့မှာ ပဋိဝေဓသို့ ဆိုက်ရောက်တော်မူတယ်လို့ မစိုးရိမ်တောရဆရာတော်ဘုရားကြီးက ထေရ ဝံသာစာရက္ခမပဒီဝိကာကျမ်း စာမျက်နှာ(၁၃၂)မှာ ဖော်ပြထားပါတယ်။ ပဋိဝေဓဆိုတာ မဖောက်မပြန် အမှန်သဘောကို ထိုးထွင်းသိခြင်းလို့ ဆိုပါတယ်။ ဆရာတော်ဘုရားကြီးဟာ သမထ၊ ဝိပဿနာ ဘာဝနာအကျင့်မြတ်များဖြင့် တစ်ဖက်ကမ်းခတ်တော်မူခဲ့လို့ ပဋိဝေဓသို့ ဆိုက်ရောက်ခဲ့တဲ့အတိုင်း ရုပ်နာမ်တို့ရဲ့ သဘောလက္ခဏာများကို ဟောလည်း ဟောပြော၊ ရေးလည်း ရေးသားတော်မူခဲ့တာက သက်သေခံနေပါတယ်။

လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ လောကီရေးရာ ဝိဇ္ဇာဖော်ဂျီတို့ လျှို့ဝှက်စွာ စီရင်ခဲ့တဲ့ ဝှက်စာ ပဟေဠိစာ ပညာရပ်များကိုလည်း မြင်ရုံမျှ ကြားရုံမျှဖြင့် တစ်ခဏချင်း အဖြေပေး ဖော်ထုတ်ပေးနိုင်လောက်အောင် ဉာဏ်ကြီးလှပါတယ်။ သူတစ်ပါး၏ စိတ်ဖြင့် ကြံစည်သော အရာများ၌လည်းကောင်း၊ သေကြေပျက်စီးရမည့်အရာ၊ လားရာဂတိ စသော အရာများ၌လည်းကောင်း၊ ပစ္စုပ္ပန် အတိတ် အနာဂတ်ကာလတို့၌ ဖြစ်ဆဲ ဖြစ်ပြီးဖြစ်လတ္တံ့သော အရာကိစ္စများကို ဆရာတော်ဘုရား ဟောကြားဖူးသော စကားများကို ဒိဋ္ဌ၊ သုတ တွေ့မြင်ကြားသိကြသောအကြောင်းများကို ထောက်ထားဆင်ခြင်သောအားဖြင့် ကျေးဇူးရှင် ဆရာတော်ဘုရားသည် လောကီ ပဋိဝေဓသို့ ရောက်တော်မူသော လက္ခဏာ ရှိသည်ဟု ယူဖွယ်ရာ ရှိပေ သည်။

(၎င်းကျမ်း၊ စာ-၁၃၄)

လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ အဓိသီလ၊ အဓိသမာဓိ၊ အဓိပညာ သိက္ခာသုံးရပ်တို့၌ မမေ့မလျော့သည်ဖြစ်၍၊ နိုးကြားထကြွသည်ဖြစ်၍ ပဋိပတ်ကျင့်သော လုံ့လကို မပြတ်အားထုတ်လျက် နေတော်မူခြင်း။

ပစ္စည်းလေးပါး အပါအဝင်ဖြစ်သော ဝတ္ထု အာရုံတို့၌ ငြိခြင်း၊ ထိခြင်း၊ မိခြင်း မရှိစေဘဲ လျစ်လျူရှုလျက် ထွက်မြောက်လွတ်ကင်းသော စိတ်ဖြင့် ကျင့်ကြံနေထိုင်လေ့ ရှိခြင်း။

ထိုကဲ့သို့ ဖြောင့်မြတ် ဖြူစင်စွာသော အကျင့်မြတ်နှင့် မဇ္ဈိမ ပဋိပဒါ အကျင့်မြတ်ကို တစ်ထပ်တည်းကျ အတူတကွ ပေါင်းမိသည်ကို အများရှင်လူတို့ မြင်သာ ထင်ရှားရှိခြင်း။

**မဇ္ဈိမစာပေတိုက်**

အထက်ပါ အကြောင်းများကြောင့် လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ လောကုတ္တရာ ပဋိဝေဓ သို့ ဆိုက်ရောက်တော်မူတယ်လို့ မစိုးရိမ်တောရဆရာတော်ဘုရားကြီးက ကောက်ယူပါတယ်။ မစိုးရိမ်ဆရာတော်ဘုရားကြီးက 'အထိုက်အလျောက် ရောက်သင့်ရောက်ထိုက်သော ပဋိဝေဓသို့လည်း ရောက်တော်မူခဲ့ရာ' လို့ အလွန်လိမ္မာပါးနပ်စွာ ရေးသားဖော်ပြခဲ့ပါတယ်။ ဒီလိုနဲ့ လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးဟာ သက်တော် (၇၄)၊ ဝါတော် (၅၄) ဝါအရ မြန်မာနှစ် (၁၂၈၈) ခုနှစ်မှာ ရောဂါဝေဒနာ ဖိစီးလာပါတယ်။ ပြုစုလုပ်ကျွေးတဲ့ တပည့်သံဃာအပေါင်းအား "ငါသည် ဤနေ့မှ ခုနစ်ရက်မြောက်သော ဗုဒ္ဓဟူးနေ့ ညဥ့်အချိန်ကျလျှင် မရဏနိုင်ငံသို့ လိုက်ပါရတော့မည်" လို့ ကြိုတင်အမိန့်ရှိပါတယ်။ "ငါမရှိလျှင် မစိုးရိမ်တောရဆရာတော်ကို ငါ၏ကိုယ်စား ဟူ၍ မှတ်ရစ်ကြ" လို့ မှာခဲ့ပါတယ်။

ဆရာတော် အမိန့်ရှိခဲ့တဲ့အတိုင်း (၁၂၈၈) ခု၊ ပြာသိုလပြည့်ကျော် (၉) ရက်၊ ဗုဒ္ဓဟူးနေ့၊ ည (၁၀) နာရီအချိန်မှာ ခန္ဓာဝန်ချတော်မူပါတယ်။ ဆရာတော်ဘုရားကြီး ခန္ဓာဝန်ချအပြီး သုံးပတ်အကြာမှာ ဆရာတော်ဘုရားကြီးရဲ့ ထေရုပ္ပတ္တိလို့ ဆိုနိုင်တဲ့ 'ထေရဝံသာစာရက္ကမပဒီပိကာ' ကျမ်းကို မစိုးရိမ်တောရ ဆရာတော်ကြီးက တစ်လအတွင်း ပြီးစီးအောင် ပြုစုခဲ့ပါတယ်။ ဒီကျမ်းရဲ့ ကျေးဇူးကြောင့် လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးရဲ့ ဘဝနှင့် ကျင့်စဉ်ကို နှောင်းလူတို့ သိမြင်အားကျ ကြည်ညိုခွင့် ရရှိခဲ့ပါတယ်။ ကျေးဇူးရှင် မဟာဗောဓိမြိုင် ဆရာတော်ဘုရားကြီးက လေ့သင်းမင်းကျောင်း ဆရာတော်ဘုရားကြီးရဲ့ ဂုဏ်ကျေးဇူးတွေကို အထူးတလည် အောက်မေ့ကြည်ညို ပြောဆိုရာမှာ -

သာသနာ့သမိုင်းရဲ့ အတိုင်းမသိ ကျေးဇူးရှိသော စံပြဆရာတော်ဘုရားကြီး လို့ မော်ကွန်းတင်တော်မူပါကြောင်း။ ။

**ညွှန်း/**

၁၂၈၉ ခု၊ ကဆုန်လ၊ မန္တလေးမြို့ ဓားတန်း၊ ဂုဏဝတီ စာပုံနှိပ်တိုက်ထုတ် 'စစ်ကိုင်းတောင် မဟာသစ်ဝင်ချောင် မစိုးရိမ်တောရ ဆရာတော် စီရင်သော ထေရဝံသာစာရက္ကမပ ဒီပိကာ' ၂၀၀၂ ဒီဇင်ဘာ၊ သူရဋ္ဌ မဂ္ဂဇင်း။



# ဝေပုလ္လာရာမဆရာတော်ကြီးရဲ့ငယ်ဆရာ
# ကျေးဇူးရှင်
# ရွှေဥမင်ဆရာတော်ဘုရားကြီး

ကျေးဇူးတော်ရှင် အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ ဝေပုလ္လာရာမဆရာတော်ဘုရားကြီးဟာ နှစ်စဉ် သီတင်းကျွတ်အခါသမယမှာ 'အာစရိယပူဇော်ပွဲ' ကို ခြိမ့်ခြိမ့်သဲသဲ ကျင်းပလေ့ရှိပါတယ်။ ဆရာတော်ကြီးရဲ့ ဆရာ့ကျေးဇူး အထူးသိတတ်ပုံကို နက်နက်ရှိုင်းရှိုင်းဖော်ပြတဲ့ ပူဇော်ပွဲကြီးလည်းဖြစ်ပါတယ်။ ဆရာတော်ဘုရား 'မဟာသဒ္ဓမ္မဇောတိကဓဇ' ဘွဲ့တံဆိပ်တော် အလှူခံရချိန်မှာ ရှေးဦးစွာသတိရမိတဲ့ ဆရာသခင်ကျေးဇူးရှင်ဟာ 'ရွှေဥမင်ဆရာတော်ကြီး' ဖြစ်ကြောင်း 'ဆရာ့ခြေရာ' စာအုပ်မှာ ဖော်ပြထားပါတယ်။ ဝေပုလ္လာရာမ ဆရာတော်ကြီးရဲ့ ကျမ်းစာအုပ်အတော်များများမှာ ရွှေဥမင်ဆရာတော်ကြီးရဲ့ ဂုဏ်ကျေးဇူးများကို အထူးဖော်ထုတ် ပူဇော်ထားလေ့ရှိပါတယ်။

ရွှေဥမင်ဘွဲ့တော်နဲ့ ထင်ရှားတဲ့ ဆရာတော်ကြီးတွေ အင်းဝခေတ် သာလွန်မင်းတရားလက်ထက်ကတည်းက ရှိခဲ့ဖူးပါတယ်။ ဒီဘက်ခေတ်မှာ ပုလဲမြို့သစ်မှာ သီတင်းသုံး သာသနာပြုတော်မူခဲ့တဲ့ ဝိပဿနာတရားဟော တရားပြ ရွှေဥမင်ဆရာတော်ကြီးလည်း ရှိခဲ့ဖူးပါတယ်။ ဝေပုလ္လာရာမဆရာတော်ကြီးရဲ့ ငယ်ဆရာရွှေဥမင်တောရဆရာတော်ကြီးဟာ ပြည်မြို့နယ် မိကျောင်းရဲရွာ အရှေ့တစ်မိုင်ကျော် 'ရွှေဥမင်တောရ' ကို အစွဲပြုပြီး 'ရွှေဥမင်တောရ ဆရာတော်ကြီး' အဖြစ် ကျော်ကြားထင်ရှားတော်မူခဲ့ပါတယ်။ ကျေးဇူးတော်ရှင် ရွှေဥမင်ဆရာတော်ကြီးဟာ ခန္ဓာဝန်စွန့်ထွက်တော်မူချိန် (၁၉၇၂) အထိ စွမ်းစွမ်းတမံ သာသနာပြုသွားတဲ့ ထင်ရှားကျော်ကြားလှတဲ့ ဆရာတော်ကြီး တစ်ပါးဖြစ်ပါတယ်။

ဝေပုလ္လာရာမဆရာတော်ကြီးဟာလည်း ဖြည့်ကျင့်ခဲ့တဲ့ ပါရမီတော်တွေ ရင့်သန်လာပြီမို့ ငယ်စဉ်ကလေးသာသာ ဘဝမှာပဲ ကျေးဇူးရှင် ရွှေဥမင်ဆရာ တော်ကြီးရဲ့ ခြေတော်ရင်းကို ရောက်ရှိခဲ့ပါတယ်။ တကယ်တော့ ဝေပုလ္လာရာမ ဆရာတော်ကြီးဟာ မော်လမြိုင်မြို့နယ်၊ ညောင်ပင်ဆိပ်ရွာ ဇာတိသားပါ။ ရွှေဥမင်ဆရာတော်ကြီးနဲ့ တွေ့ရအောင် လောကဓံ လှိုင်းတံပိုးတွေက ရိုက်ပုတ်ပြီး ပို့ဆောင်ပေးလိုက်သလိုပါပဲ။ ဝေပုလ္လာရာမဆရာတော်လောင်းလျာဟာ ဒုတိယ ကမ္ဘာစစ်မီးလျှံတွေကြား (၁၃၀၆) ခုနှစ် ဝါခေါင်လပြည့်နေ့မှာ အဖေ ဦးဒဟင်+ အမိဒေါ်ကြည်အေးတို့က မွေးဖွားခဲ့တဲ့ သားကြီးရတနာပါ။ ငါးနှစ်သား ကတည်းက အမေသေ၊ ညီငယ်မောင်တင်ဌွေနဲ့အတူ စားရမယ့် သောက်ရမယ့် အစောင့်အရှောက်မဲ့တဲ့ ဘဝနဲ့ အဆိုးလောကဓံကို ပြင်းပြင်း ထန်ထန် ခံစားပြီး ကိုယ့်ထူးကိုယ်ချွန် ကြီးပြင်းခဲ့ရသူပါ။ ဆရာတော်လောင်းလျာရဲ့ ငယ်ဘဝ ဖြစ်စဉ်တွေဟာ သံဝေဂယူစရာ၊ ဘဝတိုက်ပွဲ အနိုင်ပွဲနွှဲ ပုံတွေဟာ အားကျစရာ ကောင်းလှပါတယ်။ (အပြည့်အစုံကိုတော့ ဆရာတော်ကိုယ်တိုင် ပြုစုထားတဲ့ ဘဝဖြစ်စဉ်နှင့် ထေရုပ္ပတ္တိကထာမှာ ဖတ်ကြည့်ပါ။)

ဆရာတော်လောင်းလျာဟာ ပြည်မြို့ ဂျီအီးတပ်မှာ စစ်မှုထမ်းနေတဲ့ ဦးလေးဆီမှာကပ်နေရင်း ပညာသင်ကြားခဲ့ရပါတယ်။ အဒေါ်ကုလားမ နှိပ်စက်တဲ့ဒဏ်တွေကိုလည်း နေ့စဉ်နှင့်အမျှ ရက်ရက်စက်စက် ခံစားခဲ့ရ ပါတယ်။ ဦးလေးဖြစ်သူ တိုက်ပွဲကျ သေဆုံးသွားချိန်မှာ ဂျီအီးတပ်က တပ်ဗိုလ် တပ်မှူးကြီးများက ဆရာတော်လောင်းလျာ မောင်လွန်းခင်ကို မွေးစား စောင့်ရှောက် ပညာသင်ပေးခဲ့ပါတယ်။ မောင်လွန်းခင်ဟာ စာတော်တဲ့အတွက် တစ်နေ့မှာ တပ်မတော်အရာရှိကြီးဖြစ်လာအောင် ပျိုးထောင်ပေးမယ်ဆိုတဲ့ ရည်ရွယ်ချက် ရှိခဲ့ပါတယ်။ ဒါပေမဲ့ ဆရာတော်လောင်းလျာမှာ အရွယ်နှင့် မမျှအောင် ခံစားရတဲ့ဒုက္ခတွေကြောင့် သံဝေဂဉာဏ်၊ ပါရမီဉာဏ် ရင့်သန် နိုးကြားလာပြီး ရှစ်တန်းကျောင်းသားအရွယ်မှာပင် ရွှေဥမင်တောရဆရာ တော်ကြီးရဲ့ ခြေတော်ရင်းသို့ ရောက်ခဲ့ပါတော့တယ်။

'ဟဲ့ . . မင်းလေး. . မင်း အခုမှလာတာကိုးဟ။ မင်းကို ဒီနေရာက နေစောင့်နေတာ အတော်ကြာသွားပြီတဲ့။ ဒီလောက် ဒုက္ခများ၊ ဆင်းရဲများ၊ သောက ဗျာပါဒများလွန်းပြီး မလှပသော မင်းဘဝကနေ မလွတ်ချင်ဘူးလား' လို့ တွေ့စအချိန်မှာပဲ ဆီးကြိုမိန့်ကြားပါတော့တယ်။

ဆရာတော်လောင်းလျာရဲ့ ဘဝဒုက္ခတွေကို အဝေးကနေ သိမြင်နေတာ အလွန်အံ့ဩစရာကောင်းပါတယ်။ မောင်လွန်းခင်က ဘဝ၏ ဆင်းရဲဒုက္ခများမှ လွတ်မြောက်ရန် သနားသဖြင့် ကယ်တင်တော်မူပါရန် လျှောက်ထားခဲ့ပါတယ်။ ရွှေဥမှင်ဆရာတော်ကြီးက ဝေပုလ္လာရာမဆရာတော်ကို တစ်သက်လုံး 'မင်းလေး' လို့ ခေါ်သွားခဲ့ပါတယ်။ ဆရာတော်ကြီးဟာ မေတ္တာ၊ ကရုဏာ ကြီးမားစွာဖြင့် မောင်လွန်းခင်ရဲ့ ဦးခေါင်းကို လက်နှင့် အသာအယာ ပွတ်သပ်ပြီး. .

'မင်းလေး. . . မင်းက သူတော်ကောင်းကွ။ အရိယာဝိဇ္ဇာများ၊ အရိယာသူတော်လောင်းများ၊ မဟိဒ္ဓိဝိဇ္ဇာမိုရ်များ စောင့်ရှောက်ခံပုဂ္ဂိုလ် ဖြစ်နေ တာပဲ။ မင်းလေးအတွက်သက်သက် ဆရာတော်ပင်လျှင် ဒီပြည်မြို့ကနေ လာပြီးစောင့်နေရတာပဲ။ မင်းယနေ့ကစ၍ သီလကို လုံခြုံအောင် စောင့်ထိန်းပါ။ အလှူဒါန တရားကို များများပြုပါ။ သရဏဂုံသုံးပါး ခန္ဓာကိုယ်မှာ မြဲပါစေ၊ ဘုရားဂုဏ်တော်များ၊ သရဏဂုံများကို ပုတီးစိပ်ပါ။ နွားသား၊ ကျွဲသား၊ ဝက်သားတို့ကို ရှောင်ပါ။ တစ်သက်လုံး မစားပါနှင့်။ ဒါဆိုမင်း အကုသိုလ်ကင်းပြီး ကုသိုလ်တရားတွေ မင်းကို အကျိုးပေးလာမည်။ မင်း သူတော်ကောင်းဖြစ်ပြီ။ ဒါဆိုလျှင် မင်းလေးကို လူဝိဇ္ဇာမိုရ်၊ နတ်ဝိဇ္ဇာမိုရ်၊ ရဟန်းဝိဇ္ဇာမိုရ်များ၊ အရိယာပုဂ္ဂိုလ်များ မင်းလေးကို ကူညီစောင့်ရှောက်လာ ကြလိမ့်မယ်' လို့ အမိန့်ရှိပါတော့တယ်။ (ဘဝဖြစ်စဉ်၊ စာ-၃၇)

ဆုံတွေ့စမှာပင် မမေ့နိုင်လောက်အောင် သွန်သင်လမ်း ပြတော်မူခဲ့တာပါ။ ဒါကြောင့် ဝေပုလ္လာရာမဆရာတော်လောင်းလျာဟာ ငယ်ငယ်ရွယ်ရွယ်နဲ့ ဥပုသ်သီလဆောက်တည်၊ ပုတီးစိပ်၊ ဘာဝနာပွားရင်း တစ်ဖက်ကလည်း ကျောင်းစာများကို ကြိုးစားသင်ယူခဲ့ပါတယ်။ စနေ၊ တနင်္ဂနွေလို ကျောင်းပိတ်ရက်များမှာတော့ ရွှေဥမှင်တောရ ဆရာတော်ကြီးထံမှာ လောကီ လောကုတ္တရာ ပညာရပ်များအားထုတ် ဆည်းပူးလို့သာ နေခဲ့ပါတယ်။ ဒီလို အားထုတ်တာလည်း မလွယ်လှပါဘူး။ ဘာဖြစ်လို့လဲဆိုတော့ မွေးစားမိဘများဖြစ်တဲ့ တပ်မတော်အရာရှိကြီးတွေက မောင်လွန်းခင်ကို တပ်မတော်အရာရှိသာ ဖြစ်စေချင်ပါတယ်။ လူကြီးတွေရဲ့ စေတနာကို မောင်လွန်းခင် နားလည်တန်ဖိုးထားပါတယ်။ ဒါပေမဲ့ မောင်လွန်းခင်ရဲ့ပါရမီကိုက သာသနာပြုလမ်းကြောင်းပေါ်မှာသာ လျှောက်လှမ်းဖို့ နှိုးဆော်နေတာပါ။

ဒီလိုနဲ့ (၁၉၆၂) မှာ ဆရာတော်လောင်းလျာ မောင်လွန်းခင် ဆယ်တန်း

အောင်ပါတယ်။ မွေးစားမိဘ တပ်မတော်အရာရှိကြီးတွေက ဗိုလ်သင်တန်း ပို့ဖို့စီစဉ်၊ မောင်လွန်းခင်က သာသနာ့ဘောင်ဝင်ဖို့ ပြင်ဆင်နဲ့ အင်မတန် လွန်ဆွဲရတဲ့အချိန် ဖြစ်ခဲ့ပါတယ်။ ဒါကြောင့် ဘယ်လမ်းလိုက်ရမယ်ဆိုတာ အဖြူ, အမည်း သဲကွဲအောင် ဆရာတော်လောင်းလျာ အဓိဋ္ဌာန်တင်လိုက် ရပါတော့တယ်။

'မိမိဘုရားစင်မှာ ဖယောင်းတိုင် ၉ တိုင်ထွန်း၊ သပြေ ၉ ခက်၊ ရေ ၉ ခွက် ကပ်လှူ၍ ဆုတောင်းအဓိဋ္ဌာန်ပြုလိုက်ပါတော့၏။

ဗုဒ္ဓမြတ်စွာဘုရား အမှူးထား၍ ဘုရား၊ တရား၊ သံဃာ၊ ဆရာသမား၊ မိဘတို့အား ဦးထိပ်ထား၍ အထက်ထွက်ရပ်ပေါက် ဆရာတော်ကြီးများ၊ ဝိဇ္ဇာ ဇော်ဂျီ တပဿီပုဂ္ဂိုလ်များ၊ သမ္မာဒေဝနတ်များ၊ သာသနာတော်စောင့်နတ် များ၊ အထူးတိုင်ကြားအပ်ပါသည်။ အထူးမေတ္တာရပ်ခံ ပန်ကြားအပ်ပါသည်။ အထူးအသိပေးတိုင်တည်အပ်ပါသည်။ အားလုံး ကြားသိတော်မူကြပါစေ ကုန်သတည်း။

အကျွန်ုပ်သည် ယနေ့ယခုအချိန်မှစ၍ နောက်ထပ် (၄၅) ရက်တိတိ အဓိဋ္ဌာန်ပြုပါ၏။ အကျွန်ုပ်သည် သာသနာ့ဘောင်တွင် သီလ, သမာဓိတရား၊ သမထဝိပဿနာတရားများကို ဘဝခရီးဆက်ရမည်မှန်ပါက (၄၅) ရက် အတွင်း မြင့်မြတ်သော အထက်တန်းရဟန်းဘဝကို ဧကန်အမှန်ရရှိပါစေ သတည်း။ အကယ်၍ ရဟန်းဘဝဖြင့် သာသနာပြုကာ ဘဝခရီးဆက်ခွင့်မရှိပါ က လောကမှာ လူ့ဘဝ၊ လူ့အကျင့်စရိုက်အတိုင်းသာ နေထိုင်ပါတော့မည်။ ပုတီးစိပ်ခြင်း၊ တရားထိုင်ခြင်း၊ သီလ, သမာဓိလုပ်ငန်းများကို အားလုံးရပ်စဲပစ် တော့မည်။ လုံးဝမလုပ်တော့ပါ။ စားစားသောက်သောက် ပျော်သလိုသာနေပါ တော့မည်'ဟု အဓိဋ္ဌာန်ပြုလိုက်ပါတော့၏။

(ဘဝဖြစ်စဉ်၊ စာ-၄၃)

ဆရာတော်လောင်းလျာရဲ့ အဓိဋ္ဌာန်ဟာ ရက်ပေါင်း ၂၀ အတွင်း ထူးခြား လာပါတော့မယ်။ တစ်နေ့မှာ ဆရာတော်လောင်းလျာ ပြည်မြို့သို့ စက်ဘီးစီး ပြီးထွက်လာရာ ပြည်မြို့ အဝင် ဆင်စုနတ်စင်ရှေ့မှာ မိန်းမဝဝကြီးနှစ်ယောက် ကစက်ဘီးကို လက်ကာတားပြီး 'မင်းက ဗုဒ္ဓဟူးသား၊ မင်းနာမည် မောင်လွန်းခင် ဆိုတာ ဟုတ်ပါသလား' လို့ မေးပါတော့တယ်။

မောင်လွန်းခင် အလွန်အံ့ဩရလေပြီ။ အံ့ဩလျက်ပင် အကျိုးအကြောင်း

မေးတော့ မိန်းမကြီးနှစ်ယောက်က ဒေါ်လှစိန်နဲ့ ဒေါ်တင်အေးလို့ခေါ်တဲ့ ညီအစ်မဖြစ်ကြောင်း၊ ရန်ကုန် စမ်းချောင်း ဆီဆုံလမ်းမှာနေကြောင်း မိတ်ဆက်ကြပါတယ်။

'ဒါနဲ့ အဒေါ်တို့က ကျွန်တော့ကို တွေ့တွေ့ချင်း ဘာလို့ သိနေတာလဲ၊ ဘာကိစ္စရှိပါသလဲခင်ဗျာ' စသည်ဖြင့် မောင်လွန်းခင်က မေးပါတော့တယ်။ အဲဒီမှာ အဒေါ်ကြီးနှစ်ယောက်ရဲ့ ပြောစကားကြားရတော့ မောင်လွန်းခင် ပို၍အံ့ ဩရလေပြီ။ အံ့ဩမကုန်နိုင်တော့ချေပြီ။

'အထက်ထွက်ရပ်ပေါက် ဝိဇ္ဇာခိုရဲ့ ဘိုးမင်းခေါင်က အိပ်မက်ထဲမှာ အမိန့်ချလိုက်တယ်။ နင်တို့နှစ်ယောက် ပြည်မြို့ကိုသွားကြ၊ နတ်စင်ရှေ့ကနေ နံနက် (၈) နာရီနဲ့ (၉) နာရီကြားမှာ သွားစောင့်နေကြ၊ သူလာလိမ့်မယ်။ သူက ဗုဒ္ဓဟူးသား၊ နာမည်က မောင်လွန်းခင်။ ဒီကလေးက ဝိဇ္ဇာအလောင်းအလျာ၊ ရဟန်းဝိဇ္ဇာပုဂ္ဂိုလ်တဲ့။ သူက ၄၅ ရက်အဓိဋ္ဌာန်ပြုထားတာ။ ဒါတွေတို့ အထက်က အကုန်သိနေကြတယ်။ တော်ကြာ (၄၅) ရက်လွန်သွားရင် လောကမှာ မဟုတ်တာတွေ အကုန်လျှောက်လုပ်မှုဖြင့် ခက်ကုန်ဦးမယ်။ ဒါကြောင့် နင်တို့နှစ်ယောက် ပြည်ကိုသွားပြီး ဒီသူငယ် မောင်လွန်းခင်ကို ရန်ကုန်ခေါ်ခဲ့။ ရန်ကုန်ရောက်လျှင် နဝင်းကိုက်အောင် ကိုးထပ်ကြီးဘုရား ကိုးထပ်ကြီးသိမ်မှာ ရဟန်းဘောင်တက်ပေးလိုက်ကြ။ နင်တို့ ညီအစ်မနှစ်ယောက်က ရဟန်းဒါယိကာမလုပ်ကြ. . ' စသည်ဖြင့် အကြောင်းအကျိုး တွေဆက်စပ်ပြပါတော့တယ်။ ဆရာတော်လောင်းလျာဟာ အံ့ဩဝမ်းသာလျက်က . . .

'ငါသည် ရဟန်းဘဝဖြင့် သာသနာပြုခွင့်ရပေပြီ။ သိဒ္ဓိ အမျိုးမျိုးပိုင်ဆိုင်အောင် ကြိုးစားခွင့်ရပေပြီ' လို့ စိတ်ထဲက ဥဒါန်းကျူးမိပါတော့တယ်။

ဆရာတော်လောင်းလျာရဲ့ အဓိဋ္ဌာန်က ပြင်းသလောက် အထက်ဝိဇ္ဇာကြီးများရဲ့ ချီးမြှောက်မှုကလည်း ထိုက်ထိုက်တန်တန် ရှိလှပါတယ်။ ဒီလိုနဲ့ မောင်လွန်းခင်ဟာ (၁၃၂၆) ခုနှစ် ပထမဝါဆိုလမှာ ဒေါ်လှစိန်၊ ဒေါ်တင်အေး၊ ဒေါ်စောတင်တို့က ပစ္စည်းလေးပါး ဒါယကာ၊ ဒါယိကာမများအဖြစ် ခံယူကာ မြင့်မြတ်၍ အထက်တန်းကျသော ရဟန်းဘဝသို့ တက်လှမ်းရောက်ရှိခဲ့ပါတော့တယ်။

ကျောင်းသားဘဝက ငယ်ဆရာ ကျေးဇူးတော်ရှင် ရွှေဥမင်တောရကျောင်းဆရာတော်ကြီးထံတော်သို့ကား ချက်ချင်းမရောက်ဖြစ်၊ လိုချင်တဲ့

ရဟန်းဘဝကို ရခဲ့ပေမယ့် ဘဝလမ်းဟာ တစ်နေရာဆီ ချိုးကွေ့သွားပြန်ပါ တယ်။ အဲဒီမှာ ရွှေဥမင်တောရ ဆရာတော်ကြီးက အိပ်မက်ပေးပြီး လိုက်ခေါ် ရပြန်ပါတယ်။

ကျေးဇူးတော်ရှင် ဝေပုလ္လာရာမဆရာတော်ကြီးဟာ မိမိဘဝရဲ့ အမြင့်မြတ်ဆုံး ရည်မှန်းချက်ဖြစ်တဲ့ ရဟန်းဘဝကိုရခဲ့၊ ရောက်ခဲ့ပြီးသော်လည်း ငယ်ဆရာ ရွှေဥမင်တောရ ဆရာတော်ကြီးထံတော်သို့ ချက်ချင်းပြန်မရောက်ခဲ့ပါ။ အရှင်ဝေပုလ္လသည် ရဟန်းဖြစ်သည်နှင့် ရန်ကုန်မြို့ သဃ်န်းကျွန်း လေးထောင့်ကန်လမ်း ငမိုးရိပ်ရပ်ကွက် ရွှေသိမ်ဓမ္မသိဂီကျောင်းတိုက် ဆရာတော် ဦးဓမ္မသရိယအား ဥပဇ္ဈာယ်ပြု၍ အခြေခံစာဝါများကို လေ့ကျက်ဆည်းပူးခဲ့ရပါတယ်။ ဥပဇ္ဈာယ်ဆရာတော်ကြီးဟာ ကျန်းမာရေးကလည်း သိပ်မကောင်းတော့ အရှင်ဝေပုလ္လကပဲ ဝတ်ကြီးဝတ်ငယ် ပြုစုခဲ့ရပါတယ်။ အရှင်ဝေပုလ္လဟာ ဆရာတော်ဦးဇနိန္ဒ၊ မြင်းခြံ ဆရာတော် ဦးပုညတို့ထံမှာ စာဝါများကို နေ့ညမအား ကြိုးစားသင်ယူခဲ့ပါသည်။ ရဟန်းငယ် (၁၀) ပါး၊ သာမဏေ (၁၅) ပါးတို့ကို ဦးဆောင်ပြီးတော့လည်း ကျောင်းတိုက်ရဲ့ ဝတ္တရားမှန်သမျှကို မခိုမကပ် ဦးဆောင်လုပ်ကိုင်ခဲ့ပါတယ်။

ဒီလိုနဲ့ အရှင်ဝေပုလ္လ ရန်ကုန်မှာ ငါးနှစ် ငါးဝါကြာတဲ့အထိ သီတင်းသုံးကာ လောကုတ္တရာစာပေများကို သင်ယူခဲ့ပါတယ်။ ဥပဇ္ဈာယ်ဆရာတော်ကြီးမှာ လေငန်းရောဂါ ခံစားနေရပြီး ကျန်းမာရေးမကောင်းလှတဲ့အတွက် ဝါတွင်းသုံးလ သီလပေး တရားဟောကိစ္စတွေမှာ အရှင်ဝေပုလ္လ အဓိက ဖြစ်လာခဲ့ပါတယ်။ ရဟန်းခံရှင်ပြု ပဋ္ဌင်းခံစတဲ့အလှူများ မှာလည်း အရှင်ဝေပုလ္လသာလျှင် ဥပဇ္ဈာယ်ဆရာတော်ကြီးရဲ့ကိုယ်စား ဆောင်ရွက်ခဲ့ပါတယ်။ ဥပဇ္ဈာယ်ဆရာတော်ကြီးကလည်း အရှင်ဝေပုလ္လကို အလွန် စိတ်ချယုံကြည်အားကိုးပါတယ်။ ရဟန်းတို့ တတ်အပ်တဲ့ ပညာမှန်သမျှ နေမကောင်းတဲ့ကြားက မငြိုင်းမချန် သင်ပေးပါတယ်။ အရှင်ဝေပုလ္လကလည်း အလွန်ကြိုးစားပါတယ်။ ဒါကြောင့် ရဟန်းချင်း လည်းကြည်ညိုခံရရုံမျှမက ဒကာ၊ ဒကာမ ပရိသတ်ဝေနေယျများကပါ အင်မတန်ကြည်ညိုလာကြပါတော့တယ်။

ဒီလိုနဲ့ ကျောင်းတိုက်ကြီးရဲ့ ကြီးပွားတိုးတက်ကြောင်းကို လုပ်ဆောင်နေစဉ်မှာပဲ 'ကျွန်ုပ် ဝေပုလ္လအရှင်သည် ခဏ ခဏ အဖျားတတ်ခြင်း၊ အအေးပတ်ခြင်း၊ ညဉ့်ပိုင်း အိပ်မပျော်ခြင်း စသောချူချာမှု၊ ကျန်းမာရေး မကောင်းမှု

များ စတင်ဖြစ်ပေါ်လာပါတော့သည်။ တစ်ခါတစ်ရံ ဆွမ်းခံကြွနေစဉ်မှာပင် အဖျားတက်နေတတ်ပါသည်' လို့ ဘဝဖြစ်စဉ်စာ အုပ်ကြီးမှာ မှတ်တမ်းတင်ခဲ့တဲ့ ဒီဖျားနာခြင်းဟာ ဘဝရဲ့ အလှည့်အပြောင်းတစ်ခုကို ဖြစ်စေလိမ့်မယ်လို့ အစက မရိပ်စားမိခဲ့ပါဘူး။

ဆရာဝန်တွေနဲ့ ဆေးထိုး၊ ဆေးစား ကုသပါသော်လည်း သက်သာပြီးနောက် မကြာခဏ အဖျားပြန်တက်လာတတ် ပါတယ်။ ဘဝတစ်လျှောက်လုံး ကျန်းမာရေး ဒေါင်ဒေါင်မြည်လာခဲ့တာ၊ အခုမှ အဖျားနာလာကာ လုပ်ချင်တာတွေ မလုပ်ရနဲ့ စိတ်ဓာတ်လည်း ကျလာပါတယ်။ တစ်ည. . . ပြင်းပြင်းထန်ထန် အဖျားတက်ပြီး ဆေးသောက်ကာ အိပ်ပျော်သွားခဲ့ပါတယ်။ နိုးလာချိန်မှာ အလွန်ထူးဆန်းတဲ့ အသံတစ်သံကို ကြားရပါတယ်။ အဲဒီအသံကား ငယ်ဆရာ ကျေးဇူးရှင် ရွှေဥမင်ဆရာတောရဆရာတော်ကြီးရဲ့အသံ ဖြစ်နေပါတော့တယ်။

'ဆရာတော်ကြီးသည် ကျွန်ုပ်၏ဦးခေါင်းကို လက်ဖြင့်ပွတ်သပ်လျက် ဟဲ့ . . . မင်းလေး. . ငါ အသက်အရွယ်ကြီး လာပြီ၊ ရှေ့မှာ သိပ်ကြာကြာနေရဖွယ် မမြင်ရတော့ပါ။ မင်းကျောင်းမှာ ပြန်နေရမယ်။ ငါ မင်းကို အကျင့်ပဋိပတ်နှင့် ပတ်သက်တဲ့ ပညာတွေပေးဖို့ ရှိနေတယ်။ မင်း ငါ့ ဆီကို ပြန်လာခဲ့ပါ။ မင်း အခုခံစားနေရတဲ့ ရောဂါတွေအား လုံး အကောင်း ပတိဖြစ်သွားမှာပါ. . . ဟု ပြောရင်းဆိုရင်း ဆရာတော်ကြီးသည် ကျွန်ုပ်၏ ဦးခေါင်းကို ပွတ်သပ်ရင်း ပျောက်ကွယ်သွားပါတော့သည်'

(ဘဝဖြစ်စဉ်၊ စာ-၅၉)

ဒါပေမဲ့ အရှင်ဝေပုလ္လကတော့ ကယောင်ကတမ်း အိပ်မက်ဆန်း မက်တယ်လို့သာ ထင်ခဲ့ပါတယ်။ မိမိကျောင်းတိုက် အလုပ်တွေကိုသာ နေကောင်းလျှင်ကောင်းသလို အားကြိုးမာန်တက် လုပ်ဆောင်ခဲ့ပါတယ်။ မိမိကျန်းမာရေးထက် ဥပဇ္ဈာယ်ဆရာတော်ကြီးရဲ့ ကျန်းမာရေးကို ပိုပြီး ဂရုစိုက်ခဲ့ပါတယ်။ အဲဒီမှာ ကျေးဇူးရှင် ရွှေဥမင်တောရဆရာတော်ကြီးဟာ အိပ်မက်ထဲမှာ မကြာခဏကြွလာပြီး 'မင်း. . ငါခေါ် နေတာ မလာသေးဘူးလား။ အချိန်သိပ်မရှိတော့ဘူးကွ။ အချိန်ကျနေပြီ။ မင်းလာခဲ့တော့'လို့ အမိန့်ရှိပါတယ်။ ဒီလို အကြိမ်ကြိမ် ကြုံတွေ့လာရတော့ အရှင်ဝေပုလ္လဘက်ကလည်း အလေးအနက် ယုံကြည်လာခဲ့တယ်။

သို့သော် ကျေးဇူးရှင် ရွှေဥမင်ဆရာတော်ဘုရားကြီးထံတော်သို့ ရုတ်ခြည်း မသွားဖြစ်နိုင်သေးပါ။ မိမိရဲ့ ဥပဇ္ဈာယ်ဆရာတော်ကြီးရဲ့ ကျန်းမာရေးကလည်း ကြာလေဆုတ်ယုတ်လေ၊ စာချဆရာတာ်ဦးပုညလည်း နေမကောင်း၊ ဆရာတော် ဦးဇနိန္ဒလည်း ကျောင်းခွဲသွားပြီဖြစ်ရာ ကျောင်းတိုက်ကြီးရဲ့ တာဝန်မှန်သမျှ အရှင်ဝေပုလ္လရဲ့ ပခုံးပေါ်မှာ၊ တာဝန်မှန်သမျှ ကိစ္စမှန်သမျှ တနင့်တပိုးကြီး ထမ်းဆောင်နေဆဲမှာပဲ ဖျားနာရောဂါက နှိပ်စက်လာပြန်ပါတယ်။ ဒီတစ်ခါ အိပ်ရာကမထနိုင်အောင် လဲတော့တာ။ ဟော. . . ရွှေဥမင်ဆရာတော်ကြီး အိပ်မက်ထဲမှာ ပေါ်လာခဲ့ပြန်ပေပြီ။

'မင်းက မလာဘဲ ပေနေတာကိုးကွ။ ငါ့ဆီ မရောက်သရွေ့ ဒီရောဂါ မပျောက်စေရဘူး'

အဲဒီမှာပါ အရှင်ဝေပုလ္လဟာ ပြည်မြို့ဘက်သို့ လက်အုပ်ချီလျက်. . .

'ရွှေဥမင်တောရဆရာတော်ကြီးဘုရား . . . တပည့်တော် ဝေပုလ္လ ဆရာတော်ကြီးထံ မကြာမီ အရောက်လာပါတော့မည်ဘုရား' လို့ လျှောက်ထားလိုက်ပါတော့တယ်။ မကြာခင်မှာပဲ အဖျားကျသွားပြီး နာရီကြည့်လိုက်တော့ သန်းခေါင်ကျော် (၂) နာရီထိုးတော့မယ်။ ရွှေသိမ်ကျောင်းတိုက်ကြီးကို မခွဲချင်ပေမယ့်လည်း ခွဲရပေတော့မယ်။ တစ်ကျောင်းလုံးလည်း အိပ်မောကျ နေပေပြီ။ အရှင်ဝေပုလ္လဟာ သင်္ကန်း၊ တဘက် စသည်တို့ကို သိမ်းဆည်းပြီး နေမကောင်းဘဲ အိပ်ပျော်နေဆဲရှိတဲ့ ဥပဇ္ဈာယ်ဆရာတော်ကြီးကို ဦးချကန်တော့ လိုက်ပါတယ်။ မျက်ရည်တွေ ရစ်ဝဲလျက်က. . .

'တပည့်တော်ဝေပုလ္လအား သနားသဖြင့် ခွင့်ပြုတော်မူကြပါဘုရား။ ကာယကံ၊ ဝစီကံ၊ မနောကံဟူသော ကံသုံးပါးတွင် တစ်ပါးပါးဖြင့် ပြစ်မှားကျူးလွန်မိပါက တပည့်တော်အား သည်းခံခွင့်လွှတ်တော်မူပါဘုရား။ မတတ်သာ သည့်ဘဝဖြစ်၍ ဤကျောင်းတိုက်မှာ တပည့်တော်ကို ထွက်ခွာသွားခွင့်ပြုတော်မူပါဘုရား' လို့ လျှောက်ထားရေရွတ်မိပါသေးတယ်။

ပြီးတော့ မိမိတပည့်လေးများ၊ ရဟန်းငယ်များ၊ သာမဏေများ၊ ထို့နောက် ဒကာ, ဒကာမများအားလုံးကို မျက်ရည်ဖြင့် နှုတ်ဆက်ခဲ့လျက် ပြည်မြို့ဘက်ဆီ ခရီးထွက်ခဲ့ရပေပြီ။ မိချောင်းရဲရွာရောက်တော့ ကားပေါ်ကဆင်း၊ မြင်းလှည်းငှားပြီး ရွှေဥမင်လိုဏ်ဂူတောရကျောင်းသို့ ခရီးဆက်ခဲ့ပါတယ်။ ရွှေဥမင်တောရရောက်တော့ မှောင်ရီပျိုးနေပြီ။ မှောင်ရိပ်ထဲမှာမို့ ဆရာတော်ကြီးက အာဂန္တု

ရပဟန်းလို့ ထင်မှားနေလေရာ . . .

'ဆရာတော်ကြီးဘုရား. . တပည့်တော်ဝေပုလ္လကြီးကို မမှတ်မိတော့ဘူး လားဘုရား။ ဆရာတော်ကြီးရဲ့ တပည့်အရင်း ဝေပုလ္လပါဘုရား။ ဆရာတော်ကြီးခေါ်လို့ တပည့်တော် လာရတာပါဘုရား' လို့အားပါးတရ လျှောက်ထား လိုက်ပါတယ်။

ရွှေဥမင်တော်ရဆရာတော်ကြီးဟာ အလွန်ဝမ်းသာသွားပြီး. .

'ဟဲ့. . . မင်းလေး. . ငါမျှော်နေတာ ကြာလှပြီဟဲ့။ မင်းက အခုမှ လာတာကိုးဟ။ ဆရာတော့မှာ ရှေ့ဆက် အချိန်သိပ်မရှိတော့ဘူး။ မင်းကို ပညာပေးစရာတွေ၊ ရှေ့ဆက် လုပ်စရာတွေ အများကြီးရှိနေတယ်' လို့ ခရီးဦးကြိုပြုခဲ့ပြီး သင့်တော်ရာမှာ နေရာပေးနားနေစေပါတယ်။

'ကျွန်ုပ်ဝေပုလ္လအရှင်၏ ငှက်ဖျားရောဂါ၊ ခေါင်းကိုက်ရောဂါတို့သည်လည်း မည်သည့်ဆေးဝါးမျှ မသောက်ရဘဲနှင့် အလိုလိုပျောက်ခြင်းမက ပျောက်ကင်းနေပါတော့သည်။ ရွှေဥမင်လိုဏ်ဂူတောရကျောင်းသို့ ရောက်သည့်နေ့မှစ၍ အိပ်ပျော်ခြင်း၊ ပေါ့ပါးခြင်း၊ အလိုလိုပျော်ရွှင်နေခြင်း၊ စိတ်တို့သည် ပေါ့ပေါ့ပါးပါး သွက်သွက်လက်လက် နေ့စဉ်ဖြစ်နေပါတော့သည်'

(ဘဝဖြစ်စဉ်၊ စာ-၆၇)

ရွှေဥမင်တော်ရဆရာတော်ကြီးကိုယ်တိုင် ဝေပုလ္လအရှင်မြတ်အား စာဝါများ ပို့ချပေးခဲ့ပါတယ်။ သဒ္ဒါ၊ သင်္ဂြိုဟ် အခြေခံကစပြီး ပြန်သင်ပေးခြင်းဖြစ်ပါတယ်။ ယမိုက်ပဋ္ဌာန်းကျမ်းကြီးများမှသည် ဋီကာ၊ အဋ္ဌကထာများနဲ့တွဲပြီး အထက်စာဝါကြီးများကို သင်ယူပါတယ်။

'ထို့ပြင် ရွှေဥမင်တောရဆရာတော်ကြီးသည် အခြေခံအားဖြင့် ဗုဒ္ဓါနုဿတိကမ္မဋ္ဌာန်း ပွားများအားထုတ်ပုံတို့ကို သင်ကြားပြသပေးတော်မူပါသည်။ နေကသိုဏ်း၊ လကသိုဏ်းအပါအဝင် ကသိုဏ်း (၁၀) ပါးတို့ကို တစ်ခုပြီးတစ်ခု ကျင့်ဆောင်ပွားများ အားထုတ်ပုံများကိုလည်း စာတွေ့၊ လက်တွေ့ ပေါင်းစပ်ပြသပေးခဲ့ပါသည်။ ထို့အပြင် ဗုဒ္ဓဂုဏ်တော်၊ ဓမ္မဂုဏ်တော်များ၊ သံဃာ့ဂုဏ်တော်များ ပွားများအားထုတ်ပုံတို့ကိုလည်းကောင်း၊ ဗုဒ္ဓဂုဏ်တော်ကိုးပါးအား သတ္တဋ္ဌာနကျင့်စဉ်၊ အဋ္ဌဋ္ဌာနကျင့်စဉ်၊ နဝဋ္ဌာနကျင့်စဉ်တို့ကို အကျယ်တဝင့် စာတွေ့၊ လက်တွေ့၊ ကိုယ်တွေ့များ ပေါင်းစပ်ပြီး ရှင်းလင်းပြသ ပို့ချပေးတော်မူခဲ့ပါသည်'

'ထို့အပြင် သမထလမ်းစဉ်အရ သမ္ဗုဒ္ဓေဂါထာတော်အား နေ့စဉ် တစ်ထောင်ပြည့်အောင် ပွားများအားထုတ်ပုံ၊ အရဟံဂုဏ်တော် ရှစ်သောင်း လေးထောင် ပွားများအားထုတ်နည်းတို့ကို အချိန်နာရီနှင့်တကွ အသေးစိတ် သင်ကြားပြသ ပေးတော်မူခဲ့ပါသည်။ ရွှေဥမင်တောရဆရာတော်ကြီးသည် မိမိ၏ တောရကျောင်းဝင်းထဲမှာ သီတင်းသုံးနေထိုင်တော်မူကုန်သော ရဟန်း ရှင်၊ လူ၊ သီလရှင်၊ ယောဂီ၊ ရသေ့၊ သူတော်စင်မှန်သမျှ အသားငါး မစားသုံး ရဘဲ (အသက်သတ်လွတ်) အစားအစာ ဆွမ်း၊ ကွမ်းတို့ကိုသာ သုံးဆောင်စေ ပါသည်'

(ဘဝဖြစ်စဉ်၊ စာ-၆၈)

ကျင့်ကြံအားထုတ်မှုမရှိဘဲ ပေါ့ပေါ့ဆဆနေတာကို ရွှေဥမင်ဆရာတော် ကြီး လုံးဝမကြိုက်ပါဘူး။ သမထ ဝိပဿနာ တစ်ခုခုကျင့်နေတာကိုပဲ ဆရာ တော်ကြီး လိုလားပါတယ်။ ရဟန်းဖြစ်လျှင် ဝိနည်းတော်ကို အထူးရိုသေစွာ လိုက်နာတတ်အောင် သင်ကြားပေးတော်မူပါတယ်။ ရွှေဥမင်တောရ ဆရာတော်ကြီးဟာ အလောင်းတော်ကဿပအနီး မဟာမြိုင်တောကြီးထဲတွင် (၇) နှစ်တိုင်တိုင် သမထတရားကို ကျင့်ဆောင်ပွားများအားထုတ် အောင်တော် မူခဲ့၍ တောစောင့်နတ်များ၊ တောင်စောင့်နတ်များ၊ ရုက္ခစိုးနတ်များ၊ ဘုမ္မစိုး နတ်များ၊ အကာသစိုးနတ်များသည် ဆရာတော်ကြီးအား (ဓမ္မသိဒ္ဓိပါရဂူ လေးကျွန်းပိုင်ဆရာတော်ကြီး) ဟု တစ်ခဲနက် ကြွေးကြော်လျက် ထိုဘွဲ့တော် ကို ဆက်ကပ်ခဲ့ခြင်း ဖြစ်ပါတယ်။

ရွှေဥမင်တောရဆရာတော်ကြီးရဲ့ လက်စွဲဆောင်ပုဒ်တစ်ခုကတော့ 'ငါ့ ကျောင်းတိုက်မှာ တရားအားထုတ်ပြီး နေချင်သလောက်နေကြ၊ လူတစ်ထောင် ဆန်မဆောင်နဲ့၊ အားလုံးကို ငါဆရာတော် ကျွေးမွေးနိုင်သည်' လို့ ဖြစ်ပါသတဲ့။

ဟုတ်ပါတယ်. . ဆရာတော်ကြီးကြံစည်သမျှ လိုတရ၊ ဆရာတော်ကြီး အမိန့်ရှိသမျှ အားလုံးအောင်မြင်နေတာ အရှင်ဝေပုလ္လ တအံ့တသြ ကြုံတွေ့ နေရပြီ မဟုတ်ပါလား။

ကျေးဇူးရှင် ရွှေဥမင်တောရဆရာတော်ဘုရားကြီးဟာ စာတတ်ပေတတ် ကျမ်းတတ်အကျော်တစ်ပါးဖြစ်ပါတယ်။ ငယ်စဉ်က မန္တလေး မစိုးရိမ်တိုက်၊ မြတောင်တိုက်၊ ဘုရားကြီးတိုက်၊ ဗန်းမော်တိုက်တို့မှာ ညောင်ရမ်းဆရာတော် ကြီးများ၊ ပခုက္ကူအလယ်တိုက်ဆရာတော်ကြီးများထံတွင် ပရိယတ္တိစာပေများ

သင်ကြားတတ်မြောက်ခဲ့ပါတယ်။ ဆရာတော်ကြီးဟာ ဉာဏ်ပညာ ထက်မြက်လှသောကြောင့် နေ့စဉ်, နေ့စဉ် တစ်နေ့လျှင် စာမျက်နှာ ၂၀ အလွတ်ရအောင် ကျက်မှတ်နိုင်ကြောင်း သိရပါတယ်။ ရွှေဥမင်ဆရာတော်ကြီးဟာ ပိဋကတ်စာပေများကို တတ်ကျွမ်းရုံမျှမက လောကီပညာဘက်တွင်လည်း အထူးကျွမ်းကျင်တတ်မြောက်ကြောင်း ဝေပုလ္လာရာမဆရာတော်ကြီးက 'ဘဝဖြစ်စဉ်' ကျမ်းမှာ ဖော်ပြထားပါတယ်။

'လောကီပညာဘက်တွင်လည်း အင်းပညာ၊ စမပညာများ၊ ပဋ္ဌမ်ပညာများ၊ စမရုပ်ပညာများ၊ မြန်မာပြည်အရပ်ရပ်၌ ရှိနေကြကုန်သော ဂိုဏ်းဂဏအသီးသီး၏ ပညာရပ်များ၊ ဂါထာကျင့်စဉ်များ၊ မန္တန်ကျင့်စဉ်များ၊ ဝိဇ္ဇာလမ်းစဉ်များ၊ သိဒ္ဓိလမ်းစဉ်အမျိုးမျိုးများ၊ သိဒ္ဓိပေါက်ကျင့်စဉ်လမ်းများ၊ ထွက်ရပ်ပေါက်ကျင့်စဉ်လမ်းများ၊ ဓာတ်ယတြာအစီအရင်များကို စာတွေ့ လက်တွေ့ ဆရာတွေ့ ငါတွေ့မကျန်ရအောင် အစစအရာရာ သင်ကြားပေးပါသည်'

(ဘဝဖြစ်စဉ်၊ စာ-၇၀)

ရွှေဥမင်တောရကျောင်းမှာ သံဃာအပါး (၂၀) ကျော်၊ ရသေ့၊ ယောဂီ သူတော်စင် (၂၀) ခန့်ရှိနေရာ အရှင်ဝေပုလ္လတစ်ပါးတည်းကိုသာ အထူးသီးသန့် လက်ရွေးစင်တပည့်ကြီးအဖြစ် ရွေးချယ်သင်ကြားပေးခဲ့ခြင်းဖြစ်ပါတယ်။ 'သာသနာပြုပုဂ္ဂိုလ်ဆိုတာ စာပေပရိယတ္တိ ကျွမ်းကျင်လိမ္မာရမည်၊ ဝိနည်းတော်နှင့် အညီ နေထိုင်သီတင်းသုံးရမည်၊ မိမိမှာ အားကိုးအားထားရာဟူ၍ မိမိ၏အကျင့်သီလ၊ သမာဓိဂုဏ်သာ ရှိသည်။ ထို့ကြောင့် သီလ၊ သမာဓိနှင့်ပြည့်စုံအောင် ရွှေဥမင်ဆရာတော်ကြီးက အရှင်ဝေပုလ္လအား အထူးလေ့ကျင့် သင်ကြားပေးတော်မူခဲ့ပါတယ်။

ဆွမ်းစားတာကအစ ဆရာတော်ကြီးက စနစ်တကျ သင်ကြားပေးပါတယ်။

'အရှဏ်ဆွမ်းဆိုတာ လေငြိမ်လောက်သာ ဘုဉ်းပေးသုံး ဆောင်ရတယ်ကွဲ့။ ကိလေသာထူပြောတဲ့လူတွေကို အဝအပြ မစားရဘူး'

ရွှေဥမင်တောရဆရာတော်ဘုရားကြီးဟာ သံဃာတော်များ၊ ရသေ့, ယောဂီများ၊ သူတော်စင်များ၊ သီလရှင်များကို သူ့အဆောင်နဲ့သူထားပြီး စနစ်တကျအုပ်ချုပ်ပါသည်။ ဘယ်သူမဆို တရားအားထုတ်ခြင်း၊ အဓိဋ္ဌာန်ဝင်၍ ပုတီးစိပ်ခြင်း ပြုရပါတယ်။ အဓိဋ္ဌာန်မဝင်နိုင်သူများဟာ ကျောင်းသန့်ရှင်း ရေးလုပ်ရပါတယ်။ ရဟန်းဖြစ်လျှင် ဆွမ်းခံထွက်ရပါတယ်။

'ရွှေဥမင်ကျောင်းတိုက်မှာ သီတင်းသုံးနေသရွေ့ သူတစ်ပါးတို့၏ အသက်၊ အသွေး၊ အသား၊ အရိုး၊ အဆီတို့ကို ရှောင်ရှားရပါသည်။ ထာဝရ သက်သတ်လွတ်၊ ထာဝရဆားဟင်း၊ ထာဝရဟင်းသီးဟင်းရွက်ကိုသာ ဘုဥ်းပေးသုံးဆောင်ရပါသည်'

(၄င်း၊ စာ-၇၂)

ဒီလိုနဲ့ 'သာသနာပြုအစခရီး' အဖြစ် ရွှေဥမင်ဆရာတော်ဘုရားကြီးက အရှင်ဝေပုလ္လာကို ဒီလိုကျင့်ဆောင်ပွားများအားထုတ်စေခဲ့ပါတယ်။

(၁) နံနက်ပိုင်းနှင့် နေ့ပိုင်းမှာ သမ္ဗုဒ္ဓေတစ်ထောင် (ပုတီး ၁၀ ပတ်) ရအောင် အားထုတ်ရပါတယ်။

(၂) သရဏဂုံသုံးဆယ်အား (၁၀၈) ခေါက် ပုတီး တစ်ထောင်ရအောင် ညပိုင်းမှာ သရဇ္ဈာယ်ပွားများရပါ သည်။

(၃) ဝါတွင်းသုံးလမှာ နံနက်အရုဏ်တက်တစ်ကြိမ်၊ ညဦးပိုင်းတစ်ကြိမ် ရတနာသုံးပါးအား ပန်း၊ ရေချမ်း၊ ဖယောင်းတိုင်၊ အမွှေးတိုင်များ ကပ်လှူပူဇော် ရှိခိုးကန် တော့ရပါတယ်။ မေတ္တာပို့၊ အမျှဝေရပါတယ်။ ၁၉၆၄၊ ၁၉၆၅၊ ၁၉၆၆၊ ၁၉၆၇ လေးနှစ်တိတိ မပျက်မကွက် မလိမ်မညာ အားထုတ်ခဲ့ကြောင်း ဝေပုလ္လာရာမဆရာတော်ဘုရားကြီးက ဖော်ပြထားပါတယ်။

(၄) နေ့စဉ် အရဟံဂုဏ်တော် ရှစ်သောင်းလေးထောင်ရအောင် ပွားများ အားထုတ်ရပါတယ်။ နံနက် ၄ နာရီမှ နံနက် ၁၁ နာရီအထိ အရဟံဂုဏ်တော် ၆ ပါး (လေးသောင်းလေးထောင်) ခန့်ရအောင် မနားတမ်း မမောတမ်း ပုတီးစိပ်ရပါတယ်။ နံနက် (၁၁) နာရီနှင့် မွန်းတည့် (၁၂) နာရီကြား ဆွမ်းစားချိန်၊ နားချိန် ဖြစ်ပါတယ်။ မွန်းတည့် (၁၂) နာရီမှစ၍ မနားတမ်းဆက်စိပ်ပါမှ ညနေ (၅) နာရီ (၆) နာရီခန့်လောက်မှာ (နံနက်ပိုင်းစိပ်တာနဲ့ပေါင်းလိုက်ရင်) ပုတီးပတ်ပေါင်း (၈၄၀) သို့မဟုတ် အရဟံဂုဏ်တော်ပေါင်း ရှစ်သောင်းလေးထောင် ပြီးစီးပါတယ်။ ကိုးရက်အဓိဋ္ဌာန် တစ်ကဏ္ဍဝင်ပြီး ကျင့်ရပါတယ်။ အရဟံကျင့်စဉ်ဟာ သမထလမ်းအတွက် အလွန်ခရီးပေါက်တဲ့ လမ်းစဉ်ဖြစ်ကြောင်း ဖော်ပြထားပါတယ်။ ဒီအဓိဋ္ဌာန်အောင်လျှင် မြင်းမိုရ်တောင်တွင် ရှိသမျှ ဘုမ္မစိုး၊ ရုက္ခစိုး၊ အာကာသစိုးနတ်များ၊ တောစောင့်၊ တောင်စောင့်နတ်များ၊ အာလိန်ငါးတပ်ကိုစောင့်နတ်မင်းများ၊ သိကြားမင်းနှင့် ၃၃ ကျိပ်သော နတ်များအားလုံးအား ပိုင်ဆိုင်ခွင့်၊ ခေါ်ပိုင်ခွင့်၊ စေပိုင်ခွင့်၊ တမ်းတပိုင်ခွင့်

အားလုံးပြီးစီး အောင်မြင်တယ်လို့ ဆိုပါတယ်။ ဒါကြောင့် အမြော်အမြင် ကြီးလှတဲ့ ရွှေဥမင်ဆရာတော်ကြီးဟာ အရဟံဂုဏ်တော် ရှစ်သောင်း လေးထောင်အကျင့်ကို တစ်နှစ်လျှင် ကိုးရက် အဓိဋ္ဌာန် သုံးကြိမ်အောင်မြင် အောင် အရှင်ဝေပုလ္လာအား ကျင့်ကြံစေခဲ့ပါတယ်။

(၅) မဟာသရဏဂုံသုံးဆယ်ကိုလည်း လက်မလွှတ်ရပါဘူး။ တစ်ညလုံး ရွတ်ဖတ်သရဇ္ဈာယ်ရပါတယ်။ နေ့ဘက် အခြားအဓိဋ္ဌာန်မရှိလျှင် မဟာ သရဏဂုံသုံးဆယ်ကိုပဲ ရွတ်ဖတ်ပူဇော်ရပါတယ်။

(၆) ဂုဏ်တော်ကိုးပါးကို သတ္တဋ္ဌာန၊ အဋ္ဌဋ္ဌာန၊ နဝဋ္ဌာန အကျင့်အားဖြင့် ပွားများပုံကို ရွှေဥမင်ဆရာတော်ကြီးက လက်တွေ့သင်ကြားပေးပါတယ်။ ဘုရားဂုဏ်တော် ကိုးပါး သတ္တဋ္ဌာနအကျင့်ကို တစ်နှစ်လျှင် အနည်းဆုံး သုံးကြိမ် အားထုတ်စေခဲ့ပါတယ်။

(၇) ဘုရားဂုဏ်တော်ကိုးပါးကို သစ္စာလေးပါးကိုတည်၊ ရုပ်, နာမ်နှစ်ပါး တိုး၍,တိုး၍ စုစုပေါင်းဂုဏ်တော် ကိုးပါးစေ့လျှင် ပုတီးအပတ်ပေါင်း ၁၀၈ ပတ်ရအောင် ဣရိယာပုဒ်တစ်ပါးတည်းနှင့်၊ တစ်ထိုင်တည်းနှင့်အပြီး ပုတီးစိပ် ရပါတယ်။ ဒီကျင့်စဉ်ကို ဝါတွင်းသုံးလုံး နေ့စဉ် အားထုတ်ရပါတယ်။

(၈) ဝင်လေကို (အရဟံ)၊ ထွက်လေကို (ဘဂဝါ) လို့ရှုမှတ်ပြီး အာနာပါန ကမ္မဋ္ဌာန်းကိုလည်း အားထုတ်ရပါတယ်။ ကျင့်စမှာ နံနက်တစ်နာရီ, ည တစ်နာရီ၊ အရှိန်ရသွားတဲ့အခါ နံနက်သုံးနာရီ, ညသုံးနာရီ ကျင့်စေခဲ့ပါတယ်။

(၉) ဝါတွင်းသုံးလပတ်လုံး တောင်ထိပ်ပေါ်က ဝါးကျောင်းလေးမှာ တစ်ပါး တည်း (ဧကစာ) အားထုတ်ရပါတယ်။ ဝါးကျောင်းအောက် မြေကြီးပေါ် တောင် မဆင်းပါဘူးလို့ အဓိဋ္ဌာန်ရပါတယ်။ သောက်ရေ၊ သုံးရေ၊ ဆွမ်းကိစ္စနဲ့ ယုတ်စွ အဆုံး ကျင်ကြီး, ကျင်ငယ်စွန့်တဲ့အထိ တပည့်တစ်ယောက်က ပါရမီဖြည့်ကူညီ ရပါတယ်။ အာနာပါနကမ္မဋ္ဌာန်းနဲ့ မဟာသရဏဂုံသုံးဆယ်ကို အားထုတ် ရပါ တယ်။ ညဘက် လုံးဝအိပ်ခွင့်မရှိ၊ တစ်ညလုံးအား ထုတ်ရပါတယ်။ အိပ်နေ လျှင် ရွှေဥမင်ဆရာတော်ကြီးက အလိုလိုသိမြင်ဇတော်မူပြီး လာရောက်သတိပေး လေ့ ရှိတော့တာပါပဲ။

ဝေပုလ္လာရာမဆရာတော်ကြီးဟာ ကျေးဇူးရှင်ရွှေဥမင်ဆရာတော်ကြီး သွန်သင်ညွှန်ကြားတဲ့အတိုင်း လိုက်နာကျင့်ကြံခဲ့ပါတယ်။ အထက်ပါ အဓိဋ္ဌာန် များကို အမှတ်စဉ် ၄ မှ ၉ အထိ ၁၉၆၈ ခုနှစ်မှစ၍ ၁၉၆၉၊ ၁၉၇၀၊ ၁၉၇၁၊

၁၉၇၂ ခုနှစ်အထိ ငါးနှစ်ကြာအောင် ပွားများအားထုတ်ခဲ့ပါတယ်။ ဤအဓိဋ္ဌာန်ကျင့်စဉ်များကို ငါးနှစ်အတွင်း အကြိမ်ကြိမ်အထပ်ထပ် အားထုတ်တော်မူခဲ့ပါတယ်။ သက်သတ်လွတ်စားပြီး နေ့မအား, ညမအား ကျင့်ကြံခဲ့ခြင်းဖြစ်ပါတယ်။

နောင်အခါမှာလည်း အလျဉ်းသင့်သလို ဆက်၍, ဆက်၍ အားထုတ်ခဲ့ပါတယ်။ (၁၉၇၄) ခုနှစ်က ရန်ကုန်၊ ဝင်ဒါမီယာ၊ ကမ္ဘာ့ဓာတ်ပေါင်းစုအောင်မင်းခေါင်စခန်းမှာ အရဟံဂုဏ်တော် ရှစ်သောင်းလေးထောင် ကိုးရက်အဓိဋ္ဌာန် အောင်တော်မူခဲ့ပါတယ်။

'ဤသို့လျှင် ကျွန်ုပ် ဝေပုလ္လာအရှင်သည် ရွှေဥမင်ဆရာတော်ကြီး၏ အရိပ်အောက်တွင် သီလတရား၊ သမာဓိတရား၊ အကျင့်သိက္ခာတို့ကို ကြိုးစားအားထုတ်နေစဉ် ၁၉၆၇ ခုနှစ်တွင် ရက်ကန်းစင်တောင်ဆရာတော်ကြီး၏ ရွှေသားပုရပိုက်တွင် ကမ္မည်းတင်ခံရပြီဖြစ်ကြောင်း၊ သို့ဖြစ်၍ ငါ၏ တပည့် ဝေပုလ္လာကြီးသည် ယနေ့မှစ၍ (မဟိဒ္ဓိမဟာမေ့ အင်းဝိဇ္ဇာ)ဟူသော ဘွဲ့တော်ကို ခံယူပိုင်စိုးစေဟူ၍ ကျေးဇူးရှင်ရွှေဥမင်တောရဆရာတော်ကြီးက ချီးမြှင့်ပေးသနားတော်မူခဲ့ပါသည်'

(ဘဝဖြစ်စဉ်၊ စာ-၇၇)

အရှင်ဝေပုလ္လဟာ မဟာသရဏဂုံ သုံးဆယ် ကျင့်စဉ်ကိုလည်း ညစဉ်အဓိဋ္ဌာန် ဝင်ပွားများခဲ့ပါတယ်။ အိပ်ပျော်သွားမှာစိုးလို့ အုန်းသီးကို ခေါင်းအုံးပြီး ပွားများခဲ့ရတာလည်း ရှိပါတယ်။ အိပ်ငိုက်ပြီး အုန်းသီးပေါ်က ခေါင်းလည်၍ပြုတ်ကျလျှင် နိုးကြားလန်းဆန်းလာပြီး တစ်ပြိုင်နက်တည်းမှာ မဟာသရဏဂုံသုံးဆယ်ကို ဆက်လက်ရွတ်ဆို ပူဇော်ရပါတယ်။ ဒီလိုအပင်ပန်းခံပြီး ညလုံးပေါက် ကျင့်ကြံအားထုတ်ခဲ့ခြင်းကြောင့် သူရသတိနတ်သမီးက လောကီပညာအရပ်ရပ်၊ နက္ခတ်ပညာ၊ ဓာတ်ပညာတို့ကို ပြသသွန်သင်ပြီးလျှင် (လောကဝိဇ္ဇာဓရ နာနာနယပါရဂူ) ဟူသောဘွဲ့တော်ကို ၁၉၇၅မှာ ပေးအပ်ခဲ့ပါတယ်။ ဒီအကြောင်းအရာတွေဟာ 'ပြောမယုံ ကြုံဖူးမှသိ' သမထ အကျင့်ကို ကိုယ်တိုင်ကျင့်မှ သိနိုင်ပါကြောင်း ဝေပုလ္လာရာမဆရာတော်ကြီးက ဖော်ပြထားပါသည်။

၁၉၇၂ ခုနှစ်အထိ ကျေးဇူးရှင်ရွှေဥမင်တောရဆရာတော်ကြီးထံတော်မှာ ပညာရင်နို့ သောက်စို့ခဲ့ရာ ဆရာတော်ကြီး ညွှန်ပြတဲ့ကျင့်စဉ်များကြောင့် အရှင်

ဝေပုလ္လာဟာ ကျန်းမာရေးအလွန် ကောင်းလာပါတယ်။ အသားအရေ၊ မျက်စိ၊ မျက်နှာကြည်လင်တောက်ပပြီး ဥပဓိရုပ်ရှုပကာယ ပိုကောင်းလာပါတယ်။ ပြောတိုင်းဖြစ် လုပ်တိုင်းအောင်လာပါတယ်။ ဒကာ၊ ဒကာမတွေ ပိုများလာပြီး ပစ္စည်းလေးပါး အလျှံပယ်ကြွယ်ဝလာပါတယ်။ ဘေးရန် အန္တရာယ်အပေါင်းမှ ကင်းဝေးလာပါတယ်။ ပြောသမျှ၊ ဟောသမျှ အားလုံး မှန်လာပြီး လောကီ ဣဋ္ဌာသယကဲ့သို့ ဖြစ်လာပါတယ်။ မိမိရဲ့ အသံဩဇာကအစ ပြောင်းလဲသွားပါတယ်။ ခြေတံ၊ လက်တံ၊ မျက်နှာ၊ ကိုယ်အနေအထားတို့ဟာ တစ်လထက် တစ်လ၊ တစ်နှစ်ထက်တစ်နှစ် ပြောင်းလဲလို့သာ လာပါတော့တယ်။

ကျေးဇူးရှင် ရွှေဥမင်ဆရာတော်ကြီးကတော့ ဒီလို ပြောင်းလဲတိုးတက်လာတဲ့ တပည့်အရှင်ဝေပုလ္လကို အရိပ်တကြည့်ကြည့်နဲ့နေလျက်က ပီတိပန်းတွေ ဖြာဝေနေပါတော့တယ်။

'အချိန်ကာလကား ခရစ်နှစ် ၁၉၆၇ ခုနှစ်မှ ၁၉၇၂ ခု နှစ် အတွင်းဖြစ်ပါသည်။ ရွှေဥမင်တောရဆရာတော်ကြီးသည် ညစဉ်ညတိုင်းလိုလိုပင် အကျွန်ုပ်အားခေါ်၍ ပဋ္ဌာန်းဝတ်ရွတ်စဉ်များအား ဆိုစေခြင်း၊ ဓမ္မပဒဂါထာတော်များ အား ရွတ်ဆိုစေခြင်းအပြင် မေတ္တာပို့နည်းများ၊ တရားထိုင်နည်းများ၊ အဓိဋ္ဌာန်ပြုဆောက်တည်နည်းများ၊ ဓူတင်ဆောက်တည်နည်းများအား သင်ကြားပြသပေးပါသည်။ ရွှေဥမင်တောရ ဆရာတော်ကြီးထံတော်တွင် အဂ္ဂိရတ်ဖိုဆွဲပေးခြင်း၊ မီးသွေးဝယ်ပေးခြင်း၊ ဓာတ်ပစ္စည်းဝယ်ပေးခြင်း၊ လုံထည့်ပေးခြင်း၊ ဇော်မံပေးခြင်းများ လုပ်ပေးရပါသည်။ ညဘက်ရောက်ပါလျှင် ရွှေဥမင်ဆရာတော်ကြီးအား နင်းနယ်ပေးရခြင်း၊ နှိပ်နယ်ပေးရခြင်း၊ တံတောင်ဆစ်နှင့် ကြိတ်ပေးရခြင်းစသောဝတ်ကြီးဝတ်ငယ်ကိစ္စများ လုပ်ပေးရင်းနှင့် တစ်ခါတစ်ရံ ဆရာတော်ကြီးအိပ်ရာဘေးတွင် အိပ်ပျော်သွားတာလည်းရှိခဲ့ပါသည်။

တစ်နေ့ . . . (ထိုတစ်နေ့ဆိုသည်ကို ယနေ့ထက်တိုင် အကျွန်ုပ်၏ရင်ထဲနှလုံးအိမ်ထဲတွင် စွဲမြဲစွာမှတ်မိနေခဲ့ပါသည်) ထိုနေ့ကား တန်ဆောင်မုန်းလပြည့်နေ့ ညပိုင်းဖြစ်ပါသည်။

(၂၀၀၁ခုနှစ်ထုတ် ဆရာ့ခြေရာ၊ စာ-၆)

ကျေးဇူးရှင် ရွှေဥမင်ဆရာတော်ကြီးဟာ အရှင်ဝေပုလ္လကိုခေါ်ပြီး သိမ်တောင်ပေါ်သို့ တက်လာခဲ့ပါသည်။ တောင်ပေါ်ရောက်တာနဲ့ ကောင်းကင်

နက္ခတ် အသွားအလာတွေကို သင်ကြားပြသပေးပါတယ်။ အရှေ့ဘက်က တက်လာတဲ့ နက္ခတ်တွေကို မှတ်သားလေ့လာစေပါတယ်။ အနောက်မိုးကုပ်စက်ဝိုင်းသို့ ဝင်တော့မယ့် နက္ခတ်များ၊ မွန်းတည့်ဆဲနက္ခတ်များ၊ လနှင့် စန်းယှဉ်နေတဲ့ နက္ခတ်များအားလုံးကို တစ်ညလုံး ပြသပေးတော်မူခဲ့ပါတယ်။ ဆရာတော်ကြီးရဲ့ ကျောင်းပေါ် ပြန်ရောက်ချိန်မှာလည်း ကောင်းကင်အမြင် နက္ခတ်များကို ပုံစံနှင့်တကွ ရေးမှတ်စေပါတယ်။ ဝေပုလ္လအရှင်မှာ ပင်ပန်းလှပေပြီ။ ဒါကြောင့် ရေးရင်းမှတ်ရင်းက ဆရာတော်ကြီးခြေရင်းမှာ အိပ်ပျော် သွားခဲ့ပါတယ်။ မိုးလင်းတော့. . .

'ညက မင်း ငါ့အနားမှာ အိပ်ပျော်သွားခဲ့တယ်။ ဒါနဲ့ဆိုရင် ငါမှတ်မိသလောက် ခြောက်ခါ, ခုနစ်ခါလောက်တော့ ရှိပြီကွ။ မင်းလာအိပ်တိုင်းဟာ ညာဘက် ချွေးထွက်တယ်။ မင်းခေါင်းက ပူနေတယ်။ တစ်ကိုယ်လုံးဟာ ပူပြင်းနေတာပဲကွာ။ မင်းလေး တစ်ကိုယ်လုံးဟာ တေဇောဓာတ်၊ မီးဓာတ်တွေ အားကြီးနေတာ ငါသတိပြုမိတယ်' လို့ အစ ချီမိန့်ကြားပါတယ်။

ဝေပုလ္လအရှင်က အလိုက်သင့်နာခံလျက်က 'အမိန့်ရှိပါဘုရား' လို့ လျှောက်ထားတယ်။

'အခုတော့ မင်းလေးက ငယ်ငယ်ရွယ်ရွယ် ရှိသေးတာကိုးကွ။ မင်းလေးရဲ့ ကိုယ်က တေဇောဓာတ်တွေ ဒီလောက် အားကြီးနေရင် တစ်နေ့ မင်း ဝါတော်၊ သိက္ခာတော်ရလာတာနဲ့အမျှ တန်ခိုးကြီးတဲ့ပုဂ္ဂိုလ်၊ အသိဉာဏ်ကြီးရင့်တဲ့ ပုဂ္ဂိုလ်၊ လူအများမင်းစိုးရာဇာများက အထူးပူဇော်ခံရတတ်တယ်ကွ။ ဒီတော့ မင်းလေးကို ငါ ပညာတစ်ခု သင်ပေးမယ်ကွာ။ မင်းကျင့်နိုင်ပါ့မလား'

ရွှေဥမင်ဆရာတော်ကြီးရဲ့ အလွန်ရိုသေလေးစားထိုက်တဲ့ အာစရိယဂုဏ်ပေါ်လွင်လှပါတယ်။ တပည့်အပေါ် အမြော်အမြင်ကြီးလွန်းလှတဲ့ ဆရာကောင်း ဆရာမြတ် ဖြစ်တော်မူပါတယ်။

'တပည့်တော် ရိုသေလေးစားစွာ ကျင့်ဆောင်အားထုတ်ပါမည်ဘုရား'

'တို့ဆရာတော်ကြီးများ အစဉ်အဆက် လွန်ခဲ့သော နှစ်ပေါင်းနှစ်ရာကျော်ခန့်က ကျင့်ကြံပွားများ အားထုတ်ခဲ့တဲ့ သတ္တဌာန၊ နဝဌာနကျင့်စဉ်ကို မင်းလေးကို ငါ သင်ကြားပေးမယ်ကွ။ ဒီကျင့်စဉ်ကို ရှေးဆရာတော်ကြီးတွေက သတ္တဌာန ကျင့်စဉ်လို့လည်းခေါ်တယ်ကွ။ လူဝိဇ္ဇာခိုရ် မောနေယျ ဆရာကြီး ဦးထွန်းအောင်၊ ရက်ကန်းစင်တောင်ဆရာတော်ကြီး ဦးသြဘာသ၊ ဒုတိယ

ရက်ကန်းစင်တောင် ဆရာတော်ကြီး ဣစ္ဆာသယက္ကသိနာဂသံသိပ္ပဘွဲ့ခံ ဇင်ဖျိုး ဦးဥက္ကံသနဲ့ အောင်တော်မူဆရာထယ်တို့ဟာ ဒီကျင့်စဉ်ကို အားထုတ် ပေါက်မြောက်ခဲ့ကြတယ်။ ဒီကျင့်စဉ် အောင်မြင်ရင် ပညာအမျိုးမျိုးကို စိုးပိုင်တယ်။ မင်းလေးဟာ တေဇောဓာတ်အားများတဲ့ပုဂ္ဂိုလ် ဖြစ်တဲ့အတွက် ဒီကျင့်စဉ်ဟာ မင်းလေးနဲ့ အလွန်ကိုက်ညီလိမ့်မယ်လို့ ငါထင်တယ်ကွာ။ မင်းလေး ဘယ့်နှယ်လဲ'

ရွှေဥမင်ဆရာတော်ကြီးရဲ့ ပညာပေးပုံ၊ ပညာဖြင့် မျှားယူပုံ ဘယ်လောက်ပညာပါလိုက်ပါသလဲ။ ဆရာကသာ ပညာပေးလို့ကတော့ အချိန်မရွေးကျင့်မယ်ဆိုတဲ့ တပည့်မျိုးထဲမှာ အရှင်ဝေပုလ္လဟာ ထိပ်ဆုံးကပါပဲ။ အရှင်ဝေပုလ္လဟာ သတ္တဋ္ဌာနကျင့်စဉ်ကို ကိုးကြိမ်ထက်မနည်း အောင်မြင်အောင်ကျင့်ဆောင်တော်မူခဲ့ပါတယ်။ ဒီကျင့်စဉ်အကြောင်း သူရဇ္ဇမဂ္ဂဇင်းမှာ အပြည့်အစုံရေးခဲ့ပြီး ဖြစ်ပါတယ်။ ယခုထပ်မံ ညွှန်းဆိုရေးသားရတာကတော့ ကျေးဇူးရှင် ရွှေဥမင်ဆရာတော်ကြီးရဲ့ ပညာကျေးဇူးတွေ ပေါ်လွင်စေချင်လို့ပါ။ ကျေးဇူးရှင်ရွှေဥမင်ဆရာတော်ကြီးဟာ ကိုယ်တော်တိုင်လည်း ခက်ခက်ခဲခဲ ဇွဲလုံ့လ၊ ဝီရိယ ကြီးမားစွာနဲ့ ကျင့်ဆောင်တော်မူခဲ့ပါတယ်။ မြန်မာပြည်ချင်းတောင်နှင့် အိန္ဒိယနယ်စပ် မဟာမြိုင်တောကြီးထဲမှာ ကပ္ပိယမရှိ၊ တပည့်တစ်ယောက်မှမပါဘဲ တစ်ပါးတည်း ဖြစ်သလို သီတင်းသုံးခဲ့သည်မှာ ခုနစ်နှစ်ကြာပါတယ်။

'အားထုတ်ရတာ ခုနစ်နှစ်ကြာတယ်ကွ။ သမ္ဗုဒ္ဓေဂါထာတော်ကြီးကို နံနက် အရုဏ်တက်တစ်ကြိမ်၊ နေဝင်တစ်ကြိမ် သမ္ဗုဒ္ဓေအဖွင့်အနက်ကိုပါ ရွတ်ဆိုပြီး ဘုရားကန်တော့ရတယ်။ ပြီးတော့ သာသနာ့ငါးထောင် ရည်စူးပြီးတော့ သမ္ဗုဒ္ဓေဂါထာတော်ကြီးကို အခေါက်ပေါင်းငါးထောင်စေ့အောင် သရဇ္ဈာယ်ရတယ်ကွ။ ဒီအကျင့်ပဋိပတ်ကို အတိ တိက္ခ ဥဋ္ဌိအကျင့်မြတ် အဆင့်မြင့်ကျင့်စဉ်လို့ ခေါ်တယ်။ ခုနစ်နှစ်တိတိ ကြာသည်အထိ သမ္ဗုဒ္ဓေကျင့်စဉ်ကို ကျင့်လာလိုက်တာ ငါအောင်မြင်ပြီဆိုတဲ့နေ့မှာ အံ့ဩစရာ မင်းကို ငါပြောပြမယ်။ ခုနစ်နှစ်အဓိဋ္ဌာန်အောင်တဲ့ နေ့မှာ ငါ သပိတ်ဖွင့်ပြီး တောထဲမှာ ဆွမ်းခံတယ်ကွ'

'ဒီတောကြီးထဲမှာ လူမှမရှိတာ၊ ဆရာတော် ဘယ်သွားပြီး ဆွမ်းခံပါသလဲဘုရား'

တပည့်ဖြစ်သူ ဝေပုလ္လက မေးမြန်းလျှောက်ထားတဲ့အခါ ဆရာတော်ကြီးက ဒီလိုဆက်လက်အမိန့်ရှိပါတယ်။

'သစ်ပင်တွေဆီကို ဆွမ်းခံသွားတာပေါ့ကွ။ သရက်ပင်အောက်ကို သွားပြီး ဆွမ်းခံရပ်လျှင် သရက်သီးချိန်မဟုတ်ပေမယ့် အပင်ပေါ်မှာ ဘာအသီးမှမရှိဘဲနဲ့ သပိတ်ထဲကို သရက်သီးအမှည့်တွေ ရောက်လာရတယ်ကွ။ ငှက်ပျောပင်အနားမှာ ဆွမ်းခံရပ်နေရင်လည်း ဘာအသီးတစ်လုံးမှမရှိတဲ့ ငှက်ပျောပင်က ငှက်ပျောသီးမှည့်တွေ သပိတ်ထဲ အလိုလို ရောက်လာတယ်ကွ။ ပိန္နဲသီးအမှည့်တွေ အမြွာလိုက်, အမြွာလိုက် သပိတ်ထဲကို အလိုလိုကျရောက်လာတယ်ကွ။ ဒီလို အောင်မြင်ပြီးစီးတော့မှ ယခု ပြည်မြို့အနီး ရွှေဥမင်တောရကို ငါကြွလာတာပေါ့ကွာ'

'သစ်ပင်တွေက ဆွမ်းလောင်းတယ်ဆိုတော့ ဆန်းတော့ ဆန်းကြယ်တာပဲဘုရား။ သစ်ပင်တွေက ဓာတ်သဘာဝ၏ ရုပ်ဝတ္ထုပစ္စည်းတွေပဲ။ လူတွေလို အသက်ရှိတာမှမဟုတ်တာ။ ဒါတွေက ဆွမ်းလောင်းတယ်ဆိုတော့ တပည့်တော် ထင်ပါတယ်ဘုရား။ ဆရာတော်ကြီး သမ္ဗုဒ္ဓေဂါထာတော်ကို အတိတိက္ခဥဂ္ဂါ အကျင့်လမ်းအားဖြင့် အောင်တော်မူလို့ ရုက္ခစိုးနတ်များ၊ သစ်ပင်စောင့်နတ်များ၊ တောစောင့်နတ်များ ကြည်ညို၍ တန်ခိုးကမ္မဇိဒ္ဓိနှင့် ဆွမ်လောင်းတာပဲ ဖြစ်နိုင်တယ်လို့ တပည့်တော်ယူဆမိပါတယ်ဘုရား' ဟု လျှောက်ထားလိုက်တော့ ရွှေဥမင်ဆရာတော်ကြီးမှာ ခပ်ပြုံးပြုံးနှင့် ခေါင်းတညိတ်ညိတ် ရှိနေပါတော့သည်။

(၁၃၆၀ ပြည့်နှစ်ထုတ် သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း၊ စာ-၃၃)

တကယ်တော့ ရွှေဥမင်တောရဆရာတော်ကြီးဟာ ဂျပန်ခေတ် ရဟန်းငယ် ဘဝကတည်းက ကာယသိဒ္ဓိပြီးစီးအောင် မြင်နေတဲ့ ရဟန်းတော်တစ်ပါးဖြစ်ပါတယ်။ ဂျပန်တပ်များ ထွက်ပြေးစပြုချိန် ၁၉၄၅ ခုနှစ်မှာ ရွှေဥမင်တောရဆရာတော်ကြီးဟာ ရွှေတောင်မြို့နှင့် ပြည်မြို့အကြား လေးကျွန်းဆီမီးကုန်းတော်မှာ သီတင်းသုံးတော်မူခဲ့ပါတယ်။ အဲဒီမှာ ဆရာတော်ဟာ 'ကာယသိဒ္ဓိ' ပြီးစီးကြောင်း သတင်းကြီး ကျော်စောနေတဲ့အတွက် ဆရာတော်ကြီးကို ဖမ်းဆီးဖို့ အင်္ဂလိပ်အစိုးရက ဆုငွေထုတ်ခဲ့ပါတယ်။

ငှင်းနောက် အင်္ဂလိပ်က နွားမယ်၊ ပရဝိုက်တန်းရွာများမှ ရွာသူရွာသားများကို မြှောက်ပေးပြီး ဆရာတော်ကြီးအား ဝိုင်းဝန်း၍ လုပ်ကြံဖမ်းဆီးခိုင်း၏။

အင်္ဂလိပ်အစိုးရက ဖမ်းမိလာခဲ့လျှင် ဆုငွေငါးရာ၊ ဆုငွေတစ်ထောင် ပေးမည်ဟု ကြော်ငြာထားသောကြောင့် ဆုငွေလိုချင်၍ လုပ်မိလုပ်ရာ လုပ်ကြသည်ဟူ၍လည်း ဆရာတော်ကြီးကိုယ်တိုင်ပင် အမိန့်ရှိခဲ့ဖူး၏။ လေးကျွန်းဆီမီးကုန်းတော်တွင် တရားအကျင့် စခန်းဝင်၍ သီတင်းသုံးတော်မူနေသော ရွှေဥမင်တောရ ဆရာတော်ကြီးအား ပုတ္တန်း၊ ပရဗိုက်တန်းရွာမှ တစ်ရွာလုံး လိုလိုထွက်၍ ဆရာတော်ကြီးအား ဝိုင်းဝန်းကာ တုတ်၊ ဓား အစုံဖြင့် ရိုက်နှက်ထုထောင်းကြ၊ ဝိုင်းဖမ်းကြ၏။ ဆရာတော်ကြီးကား ဘာဆိုဘာမှမဖြစ်၊ ဘာဒဏ်ရာမှလည်း မရှိ၊ မည်သည့်အန္တရာယ်မှလည်း မကျရောက်ဘဲ နောက်တစ်နေ့တွင် ပုတ္တန်း၊ ပုရဗိုက်တန်းရွာများမှ ရွာသားလေးဆယ်ခန့် ဆေးရုံတွင် အတွင်းလူနာအဖြစ် တင်ခဲ့ရ၏။ ရွာထဲတွင် ၁၀ ယောက်ခန့်သည် အပြင်လူနာအဖြစ် တစ်လခန့် အိမ်ထဲမှာ၊ ရွာထဲမှာအောင်း၍ အနာတရများကို တောဆရာများဖြင့် ကြိတ်မှိတ်၍ ဆေးကုသမှုခံယူခဲ့ရ၏။

အခင်းဖြစ်ပွားပြီး နောက်မနက်မှာပင် ဆရာတော်ကြီးမှာကား ဘာမှမဖြစ်သလို၊ မည်သည့်ဒဏ်ရာမှမခံစားရသလို ပကတိအကောင်းအတိုင်း ပြုံးပြုံးရယ်ရယ်ဖြင့် ဆွမ်းခံကြွနေကြောင်း . . . ကာယသိဒ္ဓိဘက်တွင် အထူးဂုဏ်သတင်းကြီး၍ နောက်ပိုင်း အင်္ဂလိပ်အရေးပိုင် နယ်ပိုင်များက တရားကျင့်ကြံအားထုတ်နေသော သူတော်စင်ဖြစ်ကြောင်း အသိအမှတ်ပြု ခွင့်လွှတ်ခဲ့ဖူး၏။

(သမ္ဗုဒ္ဓေဂါထာ အဖွင့်ကျမ်း၊ စာ-၂၄)

ကျေးဇူးရှင် ရွှေဥမင်ဆရာတော်ကြီးဟာ ၁၉၅၉ ခုနှစ်မှစ၍ ၁၉၇၂ ခုနှစ်အထိ မြန်မာပြည်အလယ်ပိုင်းတွင် ထင်ရှားကျော်ကြားသော တန်ခိုးကြီး ဆရာတော်ကြီးတစ်ပါး ဖြစ်ခဲ့ပါတယ်။

ဆရာတော်ကြီးဟာ . . .

(၁) သူတစ်ပါးရဲ့ အတွင်းစိတ်ကို အတပ်သိတဲ့ ပရစိတ္တဝိဇာနနဉာဏ်

(၂) ဒိဗ္ဗစက္ခု (နတ်မျက်စိ) အဘိညာဉ်ရရှိကြောင်းနှင့်

(၃) မနောမယိဒ္ဓိ ပြီးစီးအောင်မြင်လို့ ကြံစည်ရုံမျှဖြင့် ဘာမဆို လိုတရကြောင်း

(၄) ကာယသိဒ္ဓိပြီးစီးကြောင်းများကို ဝေပုလ္လာရာမဆရာတော်ကြီးကိုယ်တော်တိုင် မျက်ဝါးထင်ထင် တွေ့မြင်ခဲ့ပုံများကို သမ္ဗုဒ္ဓေအဖွင့်ကျမ်းမှာ

မှတ်တမ်းတင်ဖော်ပြထားတာကို တွေ့နိုင်ပါတယ်။

ကျေးဇူးရှင် ရွှေဥမင်ဆရာတော်ဘုရားကြီးဟာ သမ္ဗုဒ္ဓေ ဂါထာတော်ကြီး အား အတိတိက္ခဥဋ္ဌအကျင့်မြတ်ကို မဟာမြိုင်တောကြီးထဲမှာ အောင်မြင် တော်မူခဲ့တဲ့အတွက် ကာသသိဒ္ဓိ ပြီးစီးနေတဲ့အပြင် ဘေးအန္တရာယ် အပေါင်း မှလည်း ကင်းဝေးနေပါတော့တယ်။ သူတစ်ပါးရဲ့ အတွင်းစိတ်ကို သိတဲ့ ပရိစိတ္တဝိဇာနနဉာဏ်၊ အလွန်ဝေးကွာခြားတဲ့ အရပ်ဒေသက အလွန်သေးငယ် တဲ့အရာကိုတောင် လှမ်းမြင်နိုင်တဲ့ နတ်မျက်စိကဲ့သို့သော ဒိဗ္ဗစက္ခုဉာဏ်များ ပေါက်ရောက်အောင်မြင်နေကြောင်းကိုလည်း အရှင်ဝေပုလ္လ မျက်မြင် ကိုယ်တွေ့ ကြုံခဲ့ရပါတယ်။

ရွှေဥမင်ဆရာတော်ဘုရားကြီးက မနက်ဖြန် ဘယ်အချိန်မှာ ဘယ်သူ လာလိမ့်မယ်၊ ဘယ်မြို့က ဘယ်နှစ်ယောက် လာလိမ့်မယ်လို့ ကြိုတင်အမိန့်ရှိ ထားရင် အဲဒီအတိုင်း ကွက်တိမှန်နေတတ်ပါတယ်။ သူတစ်ပါးစိတ်ထဲမှာ ဘာဖြစ်နေ တယ်ဆိုလည်းအတပ်သိ၊ အတပ်ပြောနိုင်ပါတယ်။

ရွှေဥမင်တောရသို့ ရောက်လာသူမှန်သမျှ ညဘက်မှာ တရားအားထုတ်ရ လေ့ရှိပါတယ်။ ဆရာတော်ကြီးကိုယ်တိုင် ကမ္မဋ္ဌာန်းကျောင်းဇရပ်များကို လှည့်လည်စစ်ဆေးကာ တရားအားထုတ်ဖို့ သတိပေးနှိုးဆော်လေ့ရှိပါတယ်။ ဆရာတော်ကြီးဟာ တောင်ဝှေးတစ်ချောင်းကိုင်ပြီး လှည့်လည်ကာ အိပ်နေတဲ့ ယောဂီတွေကို တရားအားထုတ်ဖို့ အချိန်တန်ပြီ၊ ထတော့. . ထတော့လို့ နှိုးဆော်လေ့ရှိပါတယ်။ အားလုံးနိုးပြီဆိုမှ သူ့ကျောင်းသူပြန်သွားပြီး ကိုယ်တော် တိုင်လည်း တရားနဲ့သာ မွေ့လျော်နေလေ့ ရှိပါတယ်။

အရုဏ်ဆွမ်းစား ခဏနားပြီး အချိန်အားဖြင့် နံနက် ၇ နာရီလောက်မှာ ယောဂီတစ်ဦးချင်းကို ညက တရားအား ထုတ်မှုအခြေအနေကို မေးမြန်းတတ် ပါတယ်။ လိမ်၍မရ၊ ညာ၍မရ၊ သံယောင်လိုက်ပြီး ဖြီးဖြန်းလျှောက်ထား၍မရ။ ညကပင် ဆရာတော်ကြီးက ကြိုသိနေပေပြီ။ ဒါကြောင့် အားမထုတ်ဘဲ အားထုတ်သယောင်ယောင် လိမ်ညာလျှောက်ထားပါက ပရိသတ်အလယ်မှာ အော်ငေါက်ခံရပြီး အရှက်ကွဲတတ်ပါတယ်။

သမ္ဗုဒ္ဓေဂါထာတော် အဖွင့်ကျမ်းကို ပြုစုသူ ဝေပုလ္လာရာမဆရာတော် ကြီးက မိမိရဲ့အတွေ့အကြုံကို ဒီလိုမှတ်တမ်းတင်ထားပါတယ်။

'တစ်ခုသော နေ့တစ်နေ့၏ ညဘက်တွင် ကျွန်ုပ် ကျမ်းစာရေးသူနှင့်

ပေါင်းတည် ဝက်ပုတ်မှ ဦးဘိုးထင်ဆိုသူသည် ကမ္မဋ္ဌာန်းဇရပ်တစ်ခုထဲတွင် အတူတူရှိနေကြ၏။ ထုံးစံအတိုင်းပင် ညဥ့်သန်းခေါင်အချိန်လောက်တွင် ဆရာတော်ကြီးသည် တောင်ဝှေးတစ်ချောင်းနှင့် ရိုက်ပုတ်၍ ကမ္မဋ္ဌာန်းကျောင်း ဇရပ်မှန်သမျှတို့ကို လိုက်နှိုးနေ၏။ ကျွန်ုပ်နှင့် ဦးဘိုးထင်တို့ အိပ်စက်နေသော ကမ္မဋ္ဌာန်းဇရပ်ကိုလည်း တောင်ဝှေးနှင့် ငါးချက်ခန့်ရိုက်၏။

'ဟေ့. . ဟေ့. . ထ. . ထ. . ဒီအချိန်မှ တရားမလုပ်လျှင် မင်းတို့ ဘယ်အချိန်ကျမှ တရားအားထုတ်ကြမှာလဲ။ ထ. . ထ. . အိပ်မနေကြနဲ့ကွ။ ထိနမိဒ္ဓကို အနိုင်မပေးကြနဲ့။ ထပြီးတရားအားထုတ်ကြ' ဟု အသံ ကျယ်ကျယ်နှင့် ရိုက်နှိုးသွား၏။ ကျွန်ုပ်လည်း ကပျာကသီထ၍ မျက်နှာသစ်ပြီး ကမ္မဋ္ဌာန်းတရားကို စတင်အားထုတ်တော့၏။ ဦးဖိုးထင်ကား အိပ်ရာထဲမှာပင် အိပ်မြဲအိပ်နေ၏။ အိပ်ရာထဲမှ မထဘဲနှင့် ဆရာတော်ကြီး ကြားလောက်အောင် ဩကာသ. . ဩကာသ အစချီပြီး များမကြာမီ အိပ်မောကျ၍ ဟောက်သံများပင် ထွက်လာတော့၏။ အတော်ခပ်ဝေးဝေးဇရပ်များ၊ ကမ္မဋ္ဌာန်းကျောင်းများသို့ ဆရာတော်ကြီး လိုက်လံနှိုးဆော်နေသည်ကို အသံသဲ့သဲ့ကြားသိနေရပြီးနောက် ဆရာတော်ကြီး သူ့ ကျောင်းပေါ်သို့ ပြန်တက်ကြွသွားတော့၏။

ကျွန်ုပ်လည်း တရားအလုပ်ကို ဆက်လက်၍ အားထုတ်နေတော့၏။ မကြာလိုက်ပါ၊ မကြာဆို. . နာရီဝက်ခန့်မျှပင် ရှိလိမ့်ဦးမည်ထင်ပါသည်။ ညမှောင်ကြီးမည်းကြီးထဲတွင် မထင်မှတ်ဘဲ ဇရပ်ပေါ်သို့ ဆရာတော်ကြီး တက်ရောက်လာကာ လက်ထဲမှာရှိသော တောင်ဝှေးဖြင့် ဦးဘိုးထင်အား 'ကဲ. . အိပ်ဦးကွာ၊ အိပ်ဦးကွာ' ဆိုပြီး လေးချက်ခန့် ခပ်ပြင်းပြင်း ရိုက်တော့၏။ ပြီးလျှင် ကမ္မဋ္ဌာန်းဇရပ်ပေါ်မှ ရုတ်တရက် ပြန်ကြွသွားတော့၏။ ကျွန်ုပ်လည်း အံ့အားသင့်လျက် ကျန်ရစ်ခဲ့ကာ အရိုက်ခံရသော ဦးဘိုးထင်မှာမူ. . 'တပည့်တော် မအိပ်တော့ပါဘုရား။ တပည့်တော် မလိမ်တော့ပါဘုရား' ဟု အော်ဟစ်ညည်းညူနေတော့၏။

(သမ္ဗုဒ္ဓေအဖွင့်ကျမ်း၊ စာ-၂၇)

ဒီအကြောင်းကို နောက်တစ်နေ့နံနက်မှာ ဆရာတော်ကြီးကိုယ်တိုင် ပြန်ပြောခဲ့ပါတယ်။

'ငါကတော့ ကျောင်းတွေ၊ ဇရပ်တွေလည်းပြီးနှိုးလိုက် ရတာ၊ ဘိုးထင်လည်းနိုးပြီ။ ဘုရားရှိခိုးသံတောင် ကြားနေရပြီပေါ့ကွာ။ ငါ ကျောင်းပေါ်ပြန်

တက်ပြီး တရားဆင်ခြင်ရင်း ဘိုးထင်တစ်ယောက် တရားထူး, တရားမြတ် ရပါစေလို့ ငါက စိတ်လွှတ်နေတာကွ။ လား. . လား. . ဒီကောင် က ဘယ် ဟုတ် လို့လဲကွ၊ အိပ်လိုက်တာမှ ဟောက်တောင် နေသေး။ သက်သက် ငါ့ကို ညာနေတာကွ'

ဆရာတော်ကြီးဟာ ဒိဗ္ဗစက္ခုအဘိညာဉ်နဲ့ ပြည့်စုံကြောင်း ထင်ရှားလှပါ တယ်။ ဆရာတော်ကြီးရဲ့ ကြည်ညိုဖွယ် စွမ်းရည်ထူးများကား အံ့ဩမကုန် နိုင်ပါပေ။ တစ်နေ့ နေ့လယ်ပိုင်းမှာ ရွှေဥမင်ဆရာတော်ကြီးနဲ့ အရှင်ဝေပုလ္လတို့ စကားထိုင်ပြောနေစဉ်မှာ ဆွမ်းချက်အဖွဲ့၊ ကျွေးမွေးဧည့်ခံရေးအဖွဲ့ ခေါင်းဆောင် ဒေါ်သုတရောက်လာပါတယ်။ ဆရာတော်ကြီးက . . .

'နင့်လာရင်းကိစ္စ ငါ့ကိုလျှောက်'

'ဆရာတော်ကြီးဘုရား. . . ဆွမ်းစားကျောင်းမှာ ဆီရော၊ ဆန်ရော ကုန်နေပါတယ်ဘုရား။ တခြား ငရုပ်၊ ကြသွန်၊ ပဲလည်း မရှိတော့ပါဘုရား'

'မနက်ဖြန်တစ်ရက်စာလောက် ရှိနေသေးလား'

'တစ်ရက်စာလောက်တော့ ကြံဖန်ခြစ်ခြုတ်ပြီး ကျွေးမွေးရင် ရနိုင်ပါသေး တယ်'

'အေး. . တစ်ရက်စာရရင် ပြီးတာပဲ။ အခု ငါလာခဲ့ မယ်၊ နင်သွားတော့'

ဒီလိုနဲ့ ဆရာတော်ကြီးဟာ တပည့်အရှင်ဝေပုလ္လကိုခေါ်ပြီး ဆွမ်းချက် ဆောင်သို့ ရောက်လာပါတယ်။ ဆွမ်းချက်ဆောင်မှာ ဆန်ထည့်တဲ့ ရာဝင် အိုးကြီး ၁၀ လုံး၊ ဆီထည့်တဲ့ ရာဝင်အိုးကြီးတစ်လုံး၊ ငရုတ်, ကြသွန်, ပဲ စသည် ထည့်စရာတွေ သူ့နေရာနှင့်သူ ရှိနေပါတယ်။ ဆရာတော်ကြီးဟာ ဆန်အိုး၊ ဆီအိုး၊ တခြားအိုးတွေကို တောင်ဝှေးနဲ့ လိုက်ရိုက်ပြီး 'ငါ့ကျောင်းမှာ သံဃာများ၊ တရားအားထုတ်သူများ၊ ဧည့်သည်များ စားသုံးရန်အတွက် ဆီ၊ ဆန်၊ ဆား၊ ငရုတ်၊ ကြက်သွန်၊ အာလူး၊ ပဲအမျိုးမျိုးတွေ လာကြဟေ့' လို့ အသံထွက်အမိန့်ရှိပြီး ကျောင်းကို ပြန်လာခဲ့ပါတယ်။ အရှင်ဝေပုလ္လဟာ ငယ်သေးတော့၊ ခေတ်ပညာတတ် ဆယ်တန်းအောင်ထားသူလည်း ဖြစ်လေ တော့ သိပ်ပွဲရှုထောင့်ကနေ သုံးသပ်ဝေဖန်နေမိပါသတဲ့။

တောင်ဝှေးနှင့် လိုက်ရိုက်ပြီး နှုတ်ကလာခဲ့ကြဟေ့ ပြောရုံနှင့် မဖြစ်နိုင်၊ ယုတ္တိမရှိဟု စဉ်းစားမိ၏။ သို့ပေမယ့် ဆရာတော်ကြီးကိုယ်တိုင် ဆောင်ရွက်ပုံကို ကျွန်ုပ်ကိုယ်တိုင် မြင်တွေ့ရသောကြောင့် ဆင်ခြင်မတက်ရပါ။ သတိထားပြီး

သာ စောင့်ကြည့်ရပါဦးမည်ဟုသာ တွေးတောနေမိ၏။

တစ်ညအိပ်ပြီး၍ နံနက်အရုဏ်ဆွမ်းစားသောအခါ ဆရာတော်ကြီးက ဆွမ်းစားနေရင်းဖြင့်ပင် ဒေါ်သုတအား အသံခပ်ကျယ်ကျယ်ဖြင့် အမိန့်ရှိလာသည်ကို ကြားသိလိုက်ရ၏။

'ဟဲ့. . သုတ. . ယနေ့နံနက် ၉ နာရီမှာ လှည်းခြောက်စီး ကျောင်းကို ရောက်လာလိမ့်မယ်။ ဆန်အိတ်က ၁၀ အိတ်၊ ဆီပုံးက ၄ ပုံး၊ ကုလားပဲက ၂ အိတ်၊ အာလူးတွေက ၂ အိတ်၊ ကြက်သွန် ၂ အိတ်အပြင် ဘူးသီး၊ ဖရုံသီးတွေ ပါလာလိမ့်ဦးမယ်။ ဒီတော့ လှည်းသမား ၁၂ ယောက်အတွက် ပါ ပိုပြီးချက်ထား၊ ကြားလား'ဟု အမိန့်ရှိလာ၏။

ကျွန်ုပ် စာရေးသူသည် ကိုယ့်နားကိုယ် မယုံနိုင်သလို ဖြစ်နေမိ၏။ အတော်ပင် အံ့ဩမိ၏။ ဘယ့်နှယ့်လဲ၊ ဘယ်လိုလဲ . . မြန်လှချည်လား။ မနေ့ညနေကမှ ရာဝင်အိုးတွေ တောင်ဝှေးနဲ့ လိုက်ခေါက်နေတာတွေ့တာပဲ။ ဒီနေ့မနက် ၉ နာရီ ဆီ၊ ဆန်၊ မီးဖိုချောင်သုံးပစ္စည်းတွေ ရောက်လာမယ် ဆိုတော့. . . စဉ်းစားတွေးတောရင်း သတိထားပြီး စောင့်ကြည့်ခဲ့ရာ နံနက် ရှစ်နာရီခွဲလောက်ခန့် ရောက်သော် တောင်အောက်ဘက်မှ လှည်း မောင်းသံ၊ နွားငေါက်သံတို့ကို ကြားလာရတော့၏။

(သမ္ဗုဒ္ဓေအဖွင့်ကျမ်း၊ စာ-၃၁)

နံနက် ၉ နာရီ ၁၀ မိနစ်မှာ လှည်း ၆ စီး၊ လူ ၁၂ ယောက်နှင့် ဆီ၊ ဆန် စသည်တို့ တကယ်ရောက်လာသည်ကို အရှင်ဝေပုလ္လ မျက်မြင်ကြုံတွေ့ရ ပေပြီ။ ရွှေဥမင်ဆရာတော်ဘုရားကြီး၏ မနောမယိဒ္ဓိပညာအစွမ်းကို အံ့မခန်း ကြုံတွေ့လိုက်ရခြင်းပါပဲ။ ဆရာတော်ကြီးကတော့ ရယ်ကာမော ကာဖြင့်. .

'ဒါက ဘာဟုတ်သေးလို့လဲ ဝေပုလ္လရာ. . ဒီကိစ္စမျိုးက အလွယ်လေးပါ ကွာ။ ကျင့်ကြံအားထုတ်ရင် ရနိုင်တာပဲကွ' လို့ အမိန့်ရှိပါတယ်။ ဒါက မဟာမြိုင်တောကြီးထဲမှာ သမ္ဗုဒ္ဓေအဆင့်မြင့်ကျင့်စဉ်ကို (၇)နှစ် ကျင့်ကြံ အားထုတ်အောင်မြင်ခဲ့တဲ့ အကျိုးကျေးဇူးရလဒ်ဖြစ်ကြောင်း ဆရာတော်ကြီး က ရှင်းပြပါတယ်။

အရှင်ဝေပုလ္လာက ရွှေဥမင်တောရဆရာတော်ကြီးထံမှာ ထွက်ရပ်ပေါက် ပုဂ္ဂိုလ်ထူး ရှင်ဥတ္တမကျော်နှင့်လည်း ဆုံတွေ့ခွင့်ရခဲ့ပါတယ်။ ရှင်ဥတ္တမကျော် ကို (၁၉၆၈) ခုနှစ်မှာ ဖူးတွေ့ခွင့်ရခဲ့ပါတယ်။ ရှင်ဥတ္တမကျော်ဆရာတော်ဟာ

ရွှေဥမင်ဆရာတော်ဘုရားကြီးထံတော်သို့ ကြွတော်မူလာချိန် ဝါတွင်းသုံးလ ဝတ်ကြီးဝတ်ငယ် ပြုစုခွင့်ရပါတယ်။ ကျေးဇူးရှင်ရွှေဥမင်ဆရာတော်ကြီးဟာ တပည့်ဖြစ်သူ အရှင်ဝေပုလ္လကို သူတော်ကောင်းကြီးတွေနှင့် ရင်းနှီးအောင်၊ ပညာရအောင် ဝတ်ပြုခွင့်ရရန်အတွက် စီစဉ်ပေးခဲ့ခြင်းဖြစ်ပါတယ်။

'မင်းတို့မသိကြလို့ကွ၊ ဒီရှင်ဥတ္တမကျော်ရဲ့ အသက်က ၇၀၀(ခုနစ်ရာ) လောက်ရှိပြီကွ။ရှင်ဥတ္တမကျော်ဆရာတော်ရဲ့ လက်က အမွေးအမှင်တွေ၊ ခြေထောက်က အမွေးအမှင်တွေဟာ တစ်ပေလောက်ရှည်တယ်ကွ။ ရင်ဘတ်မှာလည်း တစ်ပေရှည်တဲ့ အမွေးအမှင်တွေ ပေါက်နေတယ်။ အနောက်ရိုးမ ခရိုင် ရိုးမဘက်မှာ သီတင်းသုံးတယ်။ ဆရာတော်ကြီး ရှင်ဥတ္တမကျော်ဟာလည်း ဒိဗ္ဗစက္ခု၊ ဒိဗ္ဗသောတ၊ မနောသိဒ္ဓိ ပြီးစီးအောင်မြင်နေတဲ့ ဆရာတော်ကြီးကွ။ ဒီဆရာတော်ကြီးလည်း သမ္ဗုဒ္ဓေဂါထာတော်ကို အတိတိက္ခလမ်းစဉ်အားဖြင့် နေ့စဉ် သုံးထောင်ရအောင် ကျင့်ဆောင်အောင်မြင်ခဲ့တဲ့ ပုဂ္ဂိုလ်ထူးကြီးဖြစ်တယ်ကွ' (၄င်း၊စာ-၃၄) စသည်ဖြင့် ရှင်းရှင်းလင်းလင်း ခိုင်ခိုင်မာမာ မိန့်ကြားတော်မူပါတယ်။

ကျေးဇူးရှင် ရွှေဥမင်ဆရာတော်ကြီးဟာ တပည့်ကို ပညာပေးရာမှာလည်း အံ့သြဖွယ်ရာ၊ ကြည်ညိုဖွယ်ရာတွေနဲ့ ပြည့်လျှမ်းလို့နေပါတော့တယ်။

ကျေးဇူးရှင် ရွှေဥမင်တောရဆရာတော်ကြီးဟာ တပည့်တွေကို ပြောဆိုဆုံးမရာမှာ ပွင့်ပွင့်လင်းလင်း ရှိလှပါတယ်။ အမှားလုပ်မိ၊ အပြစ်ရှိတဲ့ တပည့်တွေကို ဆူပူကြိမ်းမောင်းရာမှာ ကေသရာဇာခြင်္သေ့မင်း ဟိန်းဟောက်သကဲ့သို့ ရှိတယ်လို့ ဝေပုလ္လာရာမဆရာတော်ကြီးက ပြန်ပြောပြ ပါတယ်။ ဆရာတော်ကြီး ဟိန်းဟောက် အော်ငေါက်လိုက်ပြီဆိုရင် ဆရာတော်ကြီးရဲ့ တစ်ပတ်လည်ကိုက်တစ်ရာပတ်ဝန်းကျင်မှာ ဆွမ်း၊ ထမင်းစားနေတဲ့ ကျောင်းသား၊ ယောဂီ၊ သီလရှင်များ ထမင်းလုတ်၊ ဆွမ်းလုပ် ပြုတ်ကျတဲ့အထိ အာဏာစက်ပြင်းလှတယ်၊ (ဝါ) သြဇာညောင်းလှတယ် လို့ဆိုပါတယ်။ ဝေပုလ္လာရာမ ဆရာတော်ကြီးရဲ့တစ်သက်တာမှာ ရွှေဥမင်တောရ ဆရာတော်ကြီးလောက် အသံသြဇာနဲ့ ပြည့်စုံတဲ့ ဆရာတော်ကြီးမျိုးကို မတွေ့ခဲ့ဖူးပါတဲ့။

ကျေးဇူးရှင် ရွှေဥမင်တောရဆရာတော်ကြီးရဲ့ သမထ ဝိပဿနာဆိုင်ရာ သြဝါဒကထာမှာ 'နိဗ္ဗာန်ကို တစ်ယောက်တည်းသွားချင်ရင် ဝိပဿနာ တရားကို အစမှအဆုံးတိုင် သူ့ လမ်းစဉ်နှင့်သူ အားထုတ်ကွ၊ ရောက်နိုင်ပါတယ်။

သို့သော် ဆရာ,တပည့်တွေ ပါရမီရှင်တွေနဲ့ ပျော်ပျော်ရွှင်ရွှင် ချမ်းချမ်းသာသာ နိဗ္ဗာန်ကိုသွားချင်ရင် သမထတရားကို အခြေခံကျကျ ရှေးဦးစွာ အားထုတ်ရသေးတယ်ကွ။ ဆိုပါစို့ကွာ . . အခြေခံဖြစ်တဲ့ သမထတရားကို ပဋိဘာဂနိမိတ် အပ္ပနာ သမာဓိရအောင် အားထုတ်ရမည်။ ပြီးမှ ဝိပဿနာတရားကို ဆက်အားထုတ်ရမယ်။ ဒါမှ ချမ်းချမ်းသာသာနဲ့ နိဗ္ဗာန် ရောက်နိုင်တယ်' လို့ဖြစ်ပါတယ်။

ကျေးဇူးရှင် ရှင်ဥတ္တမကျော်ဆရာတော်ကြီးလည်း 'တို့သွားမယ့်လမ်းက တစ်ယောက်တည်း၊ တစ်ကိုယ်တည်း နိဗ္ဗာန်သွားတဲ့ လမ်းမဟုတ်ဘူး။ ဆရာတပည့်တွေ ညီညီညာညာ စုစုစည်းစည်း ပျော်ပျော်ရွှင်ရွှင် အားပါးတရ သာသနာတော်မြတ်ကြီးကို ပြုစုပြီးမှ ပြည့်စုံဖူလုံစွာနဲ့ နိဗ္ဗာန်သွားမယ့်လမ်းလို့ မှတ်ရမယ်'လို့ ဩဝါဒပေးတော်မူခဲ့ပါတယ်။

(ဘဝဖြစ်စဉ်၊ စာ-၁၃၂)

ဒီလို ကျေးဇူးရှင်ကြီးများရဲ့ ဩဝါဒကို ဦးထိပ်မှာပန်၊ နှလုံးသားမှာတည်ပြီး ထွဲ လှံ့လ ကြီးမားစွာ အားထုတ်ခဲ့ရတဲ့အတွက် ဝေပုလ္လာရာမဆရာတော်ဟာ 'ဆရာခြေရာ'ကို နင်းပြီး သာသနာပြုလမ်းကြောင်းပေါ်မှာ ထင်ရှားစွာ၊ အောင်မြင်စွာ လျှောက်လှမ်းနိုင်ခဲ့ခြင်း ဖြစ်ပါတယ်။ ရွှေဥမင်ဆရာတော်ဘုရားကြီးရဲ့ ပညာအမွေ၊ သာသနာ့အမွေကို ဆက်ခံနေစဉ်မှာပဲ . . .

'ဝေပုလ္လကြီး. . ငါတော့ထွက်တော့မယ်။ ငါ့ရဲ့ဈာပနကို ဂရုတစိုက် စီစဉ်ပေးပါ။ ငါ့ရုပ်အလောင်းကြီးကို ကျွန်းခေါင်းကြီးထဲထည့်၊ ပြီးလျှင် သံကို စေ့နေအောင်ရိုက်၊ သံချောင်း, သံမှိုတစ်ခုနှင့် တစ်ခုကြား လက်တစ်လုံးခြား၊ ဒါမှမဟုတ် တစ်လက်မစီခြားပြီးရိုက်၊ ငါ့အလောင်းကို ဓားနဲ့မခွဲနဲ့၊ မလှီး မဖြတ်နဲ့၊ ဆေးမထိုးနဲ့၊ မှန်ခေါင်းမသုံးနဲ့၊ ကျွန်းခေါင်း ခပ်ထူထူကိုသုံး၊ ခေါင်းသွင်းပြီးမှ အုတ်ဂူသွင်း။ ဒါ . . . ပုဂ္ဂိုလ်ထူးပုဂ္ဂိုလ်မြတ်များ ထုံကူးသည်လို့ မင်းမှတ်ထားပါ။ အုတ်ဂူသွင်းပြီးမှ ကိစ္စအောင်ပြီ၊ အားလုံးပြီးစီးပြီလို့ မင်းမှတ်ထားပါ။ အုတ်ဂူထဲ မရောက်မချင်း သံဃာတွေအားလုံး၊ လူဒကာတွေအားလုံး သတိရှိရှိ၊ ဝီရိယရှိရှိ ငါ့အခေါင်းကို ဝိုင်းပြီးစောင့်ကြ။ ငါ့ရဲ့ အရေးအကြီးဆုံး ထုံကူးမှုအတွက် တိတိကျကျ ပြတ်ပြတ်သားသား ဆောင်ရွက်ပေးနိုင်မယ့် တပည့်ကောင်း လိုအပ်တဲ့အတွက် မင်းကိုငါ လှမ်းခေါ်ခဲ့ရတာ။ ဒါကြောင့် ရန်ကုန် ရွှေသိမ်ဓမ္မသိဂီကျောင်းကနေ မင်းရွှေဥမင်ဥတောရကို ရောက်လာရတာ။

မင်းကိုယ်တိုင် သာသနာပြုနိုင်အောင်လည်း ငါ လေ့ကျင့်ပေးခဲ့ပြီးပြီ။ ငါ့ရဲ့ နောက်ဆုံး ကိစ္စထုံကူးခြင်းအောင်မြင်ဖို့ ဝေပုလ္လကြီးဟာ အဓိကပဲ'

ရွှေဥမင်ဆရာတော်ကြီးဟာ မိမိပျံလွန်တော်မူမည့်နေ့ကို သိရှိကြိုတင် ပြင်ဆင်ပြီးဖြစ်ပါတယ်။ ကျေးဇူးရှင် ရွှေဥမင်ဆရာတော်ဘုရားကြီးဟာ (၁၉၇၂) ခုနှစ် (၁၃၂၄ ခုနှစ်၊ တန်ဆောင်မုန်းလဆန်း ၇ ရက်) နေ့မှာ လည်ချောင်းကင်ဆာရောဂါနဲ့ ပျံလွန်တော်မူခဲ့ပါတယ်။

ပျံလွန်တော်မူပြီး ဆရာတော်ကြီးရဲ့ ထူးခြားချက်များကို ဝေပုလ္လာရာမ ဆရာတော်က 'ဘဝဖြစ်စဉ်' စာအုပ်ကြီးမှာ ဒီလို မှတ်တမ်းတင်ပူဇော်ခဲ့ပါ တယ်။

(၁) ပျံလွန်တော်မူပြီး ဆရာတော်ကြီး၏ ရုပ်ကလာပ်ကို ဘာဆေးမှမထိုးဘဲ၊ မည်သို့မျှမပြုပြင်ဘဲ ခြောက်လတိတိ ထားရှိအပူဇော်ခံခဲ့ပါတယ်။

(၂) ထိုသို့ ခြောက်လတိတိထားသော်လည်း ဆရာတော်ကြီး၏ အလောင်း တော်မှ အပုပ်နံ့ထွက်ခြင်းမရှိ။ ကျွန်ုပ်ကိုယ်တိုင် ဆရာတော်ကြီး၏ အခေါင်း ကိုမှီ၍ ဆွမ်းသွပ်ရေစက်ချခဲ့ပါသည်။ လူပရိတ်သတ်လည်း နေ့စဉ် ဆရာ တော်ကြီးရဲ့ အခေါင်းမှာကပ်ပြီး နေကြထိုင်ကြ၊ စကားပြောကြ၊ ကွမ်းစား, ဆေးသောက်ကြပေမယ့် ဘာအနံ့မှ နံခြင်း၊ အပုပ်နံ့ ထွက်ခြင်းမရှိပါ။

(၃) ဆရာတော်ကြီးရုပ်ကလာပ်ထားရာ စံကျောင်းအား ဆင်များ၊ မြွေများ၊ တောတိရစ္ဆာန်များ လာရောက်၍ ကန်တော့ကြသည်ကို အများပင် တွေ့မြင် ကြရ၏။

(၄) ထိုသို့ ရုပ်ကလာပ်တော်အား ခြောက်လတိတိထားပြီးလျှင် အကောင်းစား ကျွန်းသားအခေါင်း၏ အံအဖုံးကိုပိတ်၍ အပေါ်မှ သံချောင်းများဖြင့် တစ်လက်မခြား ရိုက်၍ ပိတ်ထားခဲ့ပါသည်။ ၄င်းနောက် ဈာပနအခမ်းအနား နေ့တွင် ပင့်သံဃာစုစုပေါင်း ၇၂ ပါးခြံရံ၍ နောက်ဆုံးဂါရဝပြုသော အားဖြင့် အမျိုးသမီးများ၊ သီလရှင်များ၊ ယောဂီမများအား အခေါင်းကိုမ,၍ ရွက်စေ ခဲ့ပါသည်။

(ဘဝဖြစ်စဉ်၊ စာ- ၈၀)

အဲဒီမှာ အမျိုးသမီးတစ်ယောက်က ဆရာတော်ကြီးရဲ့အခေါင်းကို တစ်ယောက်တည်းမ,ပြ၊ ရွက်ပြလေရာ ဈာပန ပွဲလာရောက်တဲ့ ပရိသတ်ကြီး က . . .

'ဆရာတော်ဝေပုလ္လဘုရား. . . ဆရာတော်ကြီး၏ အခေါင်းက ပေါ့ပေါ့ ကြီးဘုရား။ မိန်းကလေးတစ်ယောက်တည်းကပင် အသာလေးမ, နိုင်ပါတယ် ဘုရား။ အထဲမှာ ဆရာတော်ကြီး မရှိတော့ဘူးနဲ့ တူပါတယ်ဘုရား။ တပည့် တော်တို့ အခုပဲ ဖွင့်ကြည့်ပါရစေဘုရား' လို့ တစ်ယောက်တစ်ပေါက် အော်ဟစ် လျှောက်ထားကြပါတယ်။

'ဟေ့. . . ဘယ်သူမှ မဖွင့်ရဘူး၊ မဖွင့်ကောင်းဘူး။ ခေါင်းထဲမှာ ဆရာ တော်ကြီးရုပ်ကလာပ် ရှိသည်ဖြစ်စေ၊ မရှိသည်ဖြစ်စေ နင်တို့ အလုပ်မဟုတ် ဘူး။ ငါ့အမိန့်မရဘဲ ဘယ်သူမှမဖွင့်ရဘူး။ ဒီအတိုင်းပဲ အုတ်ဂူသွင်းရမယ်'

လို့ ဆရာတော်အရှင်ဝေပုလ္လက အော်ပြောလိုက်ပါတယ်။ လက်ထဲမှာ လည်း ဟန်ဆောင်ပန်ဆောင် ငှက်ကြီးတောင်ဓားတစ်လက်ကို ကိုင်ထားရ တယ်လို့ ဆိုပါတယ်။

(အမှန်စင်စစ် ကျွန်ုပ်ဝေပုလ္လအရှင်သည် အခေါင်းထဲမှာ ဆရာတော်ကြီး ရုပ်ကလာပ် မရှိကြောင်းကို ခပ်စောစောကပင် သိထားပြီးဖြစ်ပါသည်။)

(ငင်း၊ စာ-၈၀)

ထိုစျာပနနေ့တွင် ကျွန်ုပ်ဝေပုလ္လအရှင်သည် ကောင်းမြတ်သောနက္ခတ်၊ ခတ်၊ အချိန်၊ နေ့ကောင်းရက်သာရွေးပြီး တနင်္ဂနွေနေ့ မွန်းတည့် ၁၂ နာရီ တိတိတွင် စျာပနကိစ္စ၊ အုတ်ဂူသွင်းသောကိစ္စကို အပြီးဆောင်ရွက်ပါသည်။ ၄င်းနေ့ ခပ်စောစောကပင် ကိုယ့်အထဲမှ စိတ်ချရသော ပန်းရံဆရာကိုခေါ် ထားပြီး ဘိလပ်မြေ၊ သဲ၊ ထုံးတို့ဖြင့် အရံသင့် မဆလာစပ်ထားစေပြီး ဂူကို ပိတ်မည့် အုတ်ခဲများကိုလည်း အရံသင့်ထားပြီးဖြစ်ပါသည်။ ဆရာတော် ၏အခေါင်း အုတ်ဂူထဲ ရောက်သည်နှင့် တစ်ပြိုင်နက် ပရိသတ်များကို အပြင် သို့ ထွက်စေပြီး ချက်ချင်းပင် အုတ်ဂူကို ပိတ်ရပါတော့သည်။

အုတ်ဂူပိတ်ပြီးနောက် ယုံကြည်စိတ်ချရသော ရဟန်းသံဃာ ကိုးပါးကို အင်္ဂတေခြောက်သည်အထိ စောင့်ကြပ်ပြီး ညဘက်အိပ်စေပါသည်။ အားလုံး စိတ်ချရပါမှ အင်္ဂတေလည်းခြောက်သွားပြီဆိုပါမှ ကိစ္စပြီးစီးပါတော့၏'

(ငင်း၊ စာ-၈၁)

လူသာမန်တို့ ဉာဏ်မမီနိုင်တဲ့ သာသနာပြုဆရာတော်ကြီး ရွှေဥမင် တောရဆရာတော်ကြီးရဲ့ထွက်စခန်းဟာ ဝေပုလ္လာရာမဆရာတော်ရဲ့ ဦးဆောင် မှုနဲ့ အောင်မြင်သွားခဲ့ပါပြီ။ ရွှေဥမင်ဆရာတော်ကြီးဟာ အရှင်ဝေပုလ္လအပေါ်

မျှော်လင့်ချက်လည်းကြီးတယ်၊ သံယောဇဉ်လည်းကြီး၊ ယုံကြည် စိတ်ချမှု လည်းကြီးပါတယ်။ ဒါကြောင့် ရွှေဥမင်တောရကျောင်းတိုက်တစ်ခုလုံးနဲ့ ပတ်သက်တဲ့ စာချုပ်စာတမ်းများနဲ့ သော့တွဲများအားလုံးကို ဝေပုလ္လာရာမ ဆရာတော်ကိုပဲ ကြိုတင်အပ်နှံခဲ့ပြီးဖြစ်ပါတယ်။ အရှင်ဝေပုလ္လရဲ့ဆန္ဒကတော့ ငယ်ငယ်ရွယ်ရွယ်နဲ့ ကျောင်းမထိုင်ချင်၊ ဥစ္စာစောင့်မဖြစ်ချင်လို့ ဘဝဖြစ်စဉ် စာအုပ်မှာ ဖော်ပြထားပါတယ်။ ဒါကြောင့် မိမိထက် ဝါ၊ သိက္ခာကြီးတဲ့ ဦးဥတ္တရခေါ် ဦးရန်ကုန်ကိုသာ ရွှေဥမင်တောရနဲ့ ပတ်သက်သမျှအားလုံးကို လွှဲအပ်ပေးခဲ့ပါတယ်။

ဝေပုလ္လာရာမဆရာတော်မှာ ကျေးဇူးရှင် ရွှေဥမင်တောရဆရာတော်ကြီးရဲ့ အကျင့်ပဋိပတ်လမ်းစဉ်အတိုင်း ကျင့်ကြံအားထုတ်စရာတွေ အများကြီး ရှိနေ သေးတယ် မဟုတ်ပါလား။ သာသနာပြုလမ်းကြောင်းပေါ်မှာ တစ်မျှော် တစ်ခေါ်ကြီး ဆက်လျှောက်ရဦးမည် မဟုတ်ပါလား။

ယခုအခါ ကျေးဇူးရှင် ရွှေဥမင်ဆရာတော်ဘုရားကြီးပျံ လွန်တော်မူအပြီး နှစ်ပေါင်းသုံးဆယ်ကျော် ကြာမြင့်လာသော အချိန်အခါတွင်ကား ဝေပုလ္လ အရှင်သည် ဆရာတော်ကြီး မြင်တွေ့လိုသည့်အတိုင်း သာသနာပြုပုဂ္ဂိုလ် အကျော် ဖြစ်တော်မူခဲ့ပေပြီ။ သာသနာတော်မြတ်ကြီးအားလည်းကောင်း၊ တပည့် ဒကာဝေနေယျအပေါင်းတို့အားလည်းကောင်း၊ ကြီးပွားစည်ပင်အောင် စွမ်း ဆောင်ခဲ့၊ စွမ်းဆောင်ဆဲ ရှိနေပါတယ်။ (၂၀၀၁) ခုနှစ်မှာ နိုင်ငံတော် အစိုးရက ချီးမြှင့်ဆက်ကပ်တဲ့ 'မဟာသဒ္ဓမ္မဇောတိကဓဇ' သာသနာပြု ဘွဲ့တံဆိပ်တော်ကိုလည်း အလှူခံရရှိပြီးခဲ့လေပြီ။ သာသနာပြုခရီးကား မပြီးဆုံးသေး။

ကျေးဇူးရှင် ရွှေဥမင်ဆရာတော်ဘုရားကြီး ညွှန်ပြခဲ့သော လမ်းစဉ်အတိုင်း ဆရာ့ခြေရာနင်းလျက် တစ်ဘဝသာသနာခရီးကို ဆက်၍၊ ဆက်၍ လျှောက် လှမ်းဆဲရှိပါသည်တကား။

**ညွှန်း/**

- ၁၃၆၀ ပြည့်နှစ်ထုတ် သမ္ဗုဒ္ဓေဂါထာတော်အဖွင့်ကျမ်း
- ၂၀၀၅ ဇူလိုင်လထုတ် ဘဝဖြစ်စဉ်နှင့် ထေရုပ္ပတ္တိကထာ။





မဟာမြိုင်ဆရာတော်ဘုရားကြီး

# မဟာမြိုင်ဘုန်းဘုရားကြီး

**မဟာမြိုင်ဆရာတော်ကြီးရဲ့ ဇယ်ဘဝ**

**မဟာမြိုင်ရောက်မင်းသားလေး**

မဟာမြိုင်တောကြီးမှာ သီတင်းသုံးတော်မူလျက်ရှိသော ကျေးဇူးတော်ရှင် မဟာဗောဓိမြိုင်ဆရာတော်ကြီးကို သွားရောက်ဖူးမြော်ကြရင်း တောကြမ်းလှပါတယ်ဆိုတဲ့ မဟာမြိုင်တောကြီးဆီ ကျွန်တော်တို့ ရောက်ဖူးခဲ့ပြီဖြစ်ပါတယ်။ မဟာမြိုင်တောကြီးအကြောင်း နဘယ်မဂ္ဂဇင်းမှာ ကျွန်တော် ရေးသင့်သလောက် ရေးခဲ့ပြီးပါပြီ။ မဟာမြိုင်တောကြီးအတွင်း လာရောက်အားထုတ်တဲ့ လူပုဂ္ဂိုလ်၊ ရဟန်းပုဂ္ဂိုလ်တွေထဲမှာ အထမြောက်အောင်မြင်သူ အင်မတန်နည်းပြီး 'တောရှုံး' သွားသူတွေသာ အများစုဖြစ်တယ်လို့ မှတ်သားခဲ့ရဖူးပါတယ်။ မဟာမြိုင်တောကြီးမှာ ရှေးကာလ (ဗြိတိသျှတို့ မြန်မာပြည် သိမ်းပြီးကာစ)က အားထုတ်အောင်မြင်တော်မူခဲ့တဲ့ ဆရာတော်ကြီးတစ်ပါးအကြောင်း မှတ်တမ်းတင်ပူဇော်ချင်ပါတယ်။

မဟာမြိုင်တောကြီးမှာ အောင်မြင်တော်မူခဲ့သမို့ 'မဟာမြိုင်ဆရာတော်၊ မဟာမြိုင်ဘုန်းဘုရားကြီး' အဖြစ် တစ်ခေတ်တစ်ခါက လျှမ်းလျှမ်းတောက်ကျော်ကြားခဲ့တဲ့ ဆရာတော်ကြီးအကြောင်းပါ။ ဆရာတော်ကြီးဟာ ပဋ္ဌမသင်္ဂါယနာတင် မင်းတုန်းမင်းနဲ့ ကနောင်မင်းသားကြီးတို့ရဲ့ မြေးတော်ဖြစ်တယ်ဆိုတာတစ်ခုတည်းနဲ့ အလွန်စိတ်ဝင်စားဖို့ ကောင်းနေပါပြီ။ အင်္ဂလိပ်စစ်တပ်

က မင်းမျိုးမင်းနွယ်၊ မင်းသား၊ မင်းသွေးမှန်သမျှ ကျူပင်ခုတ် ကျူငုတ်မကျန် ရှင်းလင်းနေချိန်မှာကတည်းက ဆရာတော်လောင်းလျာဟာ လူမမယ်ကလေး ဘဝနဲ့ မဟာမြိုင်တောကြီးထဲ ရောက်နေခဲ့တာပါ။

'သူပုန်မင်းသားရဲ့သားကို ဝှက်ထားသလား'

မဟာမြိုင်တောစပ်က အိမ်တွေ၊ ရွာတွေ မွှေလှန်ရှာပြီး မဟာမြိုင် ဆရာတော်လောင်းလျာ သားတော်လေးကို အင်္ဂလိပ်စစ်တပ်က ပိုက်စိပ်တိုက် လိုက်ရှာခဲ့တာပါ။ မဟာမြိုင်ဆရာတော်လောင်းလျာ သားတော်လေးရဲ့ကံကြမ္မာက အလွန်ထူးဆန်းပါတယ်။ ကလေးအရွယ် လူမမယ်ဘဝနဲ့ တောတောင်တွေထဲ ပုန်းလျှိုးပြီးနေခဲ့ရတာပါ။

ရွှေနန်းတော်ဖွားဖြစ်ပေမယ့် နန်းတော်ကြီးမှာ ကြာကြာ မနေလိုက်ရပါဘူး။ ဆရာတော်လောင်းလျာဟာ မင်းတုန်းမင်းတရားကြီးရဲ့ညီ အိမ်ရှေ့စံ ကနောင်မင်းရဲ့သားတော် ထိပ်တင်မှတ်နဲ့ ကြင်ယာတော်ရှင်ဆင့်တို့မှ (၁၂၃၈) ခု တပေါင်းလဆန်း (၁) ရက် အင်္ဂါနေ့မှာ ဓနသိဋ္ဌိနက္ခတ် ဒုတိယပါဒ် မွန်းတည့်မတ်သောအခါ မင်္ဂလာတွင် စန်းယှဉ်လျက် ဘုန်းအင်ပါရမီ ပြည့်စုံညီစွာ ဖွားတော်မူခဲ့ပါတယ်။ အဆင်းလှတဲ့သားဖြစ်လို့ 'ထိပ်တင်လှ' လို့ ငယ်မည် တွင်ခဲ့ပါတယ်။

'သောင်းထိုက်လျှံလူ ကျွန်းဇမ္ဗူ၌ ပြိုင်သူမဝံ့ နေနန်းညွန့်၏ အဓွန့်နွယ် စည် မြေးတော်မည်သား. . '

သားတော်လေး ထိပ်တင်လှရဲ့ ငယ်ဘဝဟာ ရွှေနန်းတော်ကြီးမှာ မှက်၊ ခြင်၊ ယင် သန်း ဘေးဘရမ်းမရှိ ချမ်းသာအတိ ပြီးခဲ့ပါတယ်။ မယ်တော်၊ ဆွေတော်၊ မျိုးတော်၊ အချောတော်၊ အထိန်းတော်တွေ ဝိုင်းဝန်းယုယကြနဲ့ သုခဓိတဂုဏ်နဲ့ ပြည့်စုံခဲ့ပါတယ်။ သားတော်လေး ရက်တစ်ရာပြည့်ချိန်မှာ ဘိုးတော်ဘုရားကိုယ်တိုင် မြပုခက်တင် မင်္ဂလာဆင်ယင်ပြီး 'ထိပ်တင်လှ'လို့ နာမသမ္ဘုတိ (နာမည်ပေးမင်္ဂလာ) ပြုတော်မူခဲ့ပါတယ်။ ခမည်းတော် ထိပ်တင်မှတ်လည်း သားတော်လေးကို အကြောင်းပြုပြီး ရွှေနန်းတော်ကြီးမှာ အင်မတန် မျက်နှာပွင့်ခဲ့ပါတယ်။

ဒါပေမဲ့ 'ပုထုဇဉ်မှန် လောကဓံ' လို့ ဆိုထားတဲ့အတိုင်း မင်းသားလေးရဲ့ ပျော်ရွှင်ဖွယ် စည်းစိမ်ခံစားနေရက်များဟာ တိုတောင်းလွန်းခဲ့ပါတယ်။ မင်းသားလေး ကိုးနှစ်ထဲအဝင် (၁၂၄၇) မှာ သီပေါဘုရင် ပါတော်မူဖို့ အကြောင်းဖန်လာခဲ့ပါပြီ။ အင်္ဂလိပ်စစ်တပ်တွေက ဧရာဝတီမြစ်ကြောင်းအတိုင်း စစ် သင်္ဘော

ကြီးတွေနဲ့ မန္တလေးနန်းတော်ကြီးဆီ စစ်ချီလို့ လာခဲ့ပါပြီ။ ရွှေနန်းတော်ကြီး တစ်ခုလုံး အုံးအုံးကျွက်ကျွက်ဖြစ်နေချိန်မှာ ခမည်းတော် ထိပ်တင်မှတ်က ကနောင်မင်းသားကြီးရဲ့သားပီပီ ဇာတိမာန်ချီလျက် . . .

'ဒီ မိစ္ဆာကောင်တွေကို အင်းဝက ခံတိုက်ပါရစေ' လို့ သီပေါမင်းကို လျှောက်ထားပါတယ်။

သီပေါမင်းက . . .

'တိုက်ချင်းတိုက်ရင် ရွှေဘိုက ခံတိုက်၊ ရွှေဘိုမှာ အောင်မြေနင်းပြီးမှ ပြန်တိုက်' လို့ အမိန့်တော်ချမှတ်ပါသတဲ့။

ရွှေဘိုဆိုတာ ကုန်းဘောင်ဆက်ကိုတည်ထောင်သူ အလောင်းမင်းတရားကြီးကစပြီး ဘိုးတော်မင်းတုန်းမင်းကြီးအထိ မင်းအဆက်ဆက် အောင်ပန္နက်ရှိရာ မဟာအောင်မြေ မဟုတ်ပါလား။

ထိပ်တင်မှတ်လည်း သီပေါမင်းမိန့်တဲ့အတိုင်းတိုက်မည်ဟု ဝန်ခံလေလျှင် 'ကြိုက်ရာစစ်သေနာပတိကို ရွေးယူစေ' လို့ သီပေါမင်းက အခွင့်ပြုတော်မူပါတယ်။ ထိပ်တင်မှတ် ရွေးယူတဲ့ စစ်သေနာပတိလေးဦးကား ဝန်သိုစော်ဘွားဦးအောင်မြတ်၊ ဗိုလ်ရှမ်း၊ ဗိုလ်ဥတ္တမနှင့် ဗိုလ်လရောင် (ဗိုလ်ချုပ်အောင်ဆန်းရဲ့အဘိုး) ဖြစ်တယ်လို့ သိရပါတယ်။

[ဒေါ်မြင့်မြင့်ဝင်း၏ မဟာမြိုင်ဘုန်းဘုရား
၁၉၉၈ မတ် လထုတ် ကလျာမဂ္ဂဇင်းရှု။]

ထိပ်တင်မှတ်ဟာ အထိန်းတော်နှစ်ယောက်ကို ခေါ်ယူပြီး -

'ငါကိုယ်တော် ရွှေဘိုဘက်သို့ ထွက်တော်မူမည်၊ သားတော်လေးကို တစ်ပါတည်း ခေါ်သွားလို့ မဖြစ်သေးဘူး၊ စစ်ရေးစစ်ရာကိစ္စဖြစ်တယ်၊ အထိန်းတော်များက သားတော်လေးကို ဘေးကင်းအောင် လျှို့ဝှက်စွာ စောင့်ရှောက်ရစ်ကြပါ။ အခြေအနေကြည့်ပြီး ငါ၏တပ်စခန်းရှိရာသို့ မကြာခင် လိုက်လာခဲ့ကြပေတော့'လို့ဆိုပြီး သားတော်လေးကို တစ်ဝကြီး နမ်းရှုံ့နှုတ်ဆက်ကာ စစ်ထွက်တော်မူပါတယ်။

အဲဒီအချိန် နန်းတွင်းရေး ဗရုတ်ဗရက်တွေကြောင့် မယ်တော်ကိုလည်း ရှာမတွေ့၊ ဘယ်ဆီရောက်နေသည် မသိပြီ။ ယခင်က ဝိုင်းအုံယုယကြတဲ့ ဆွေတော်၊ မျိုးတော်များလည်း ဘယ်စခန်း၊ ဘယ်လမ်းရောက်နေသည် မသိရ။ မင်းသားလေးဟာ အထိန်းတော်ကြီးနှစ်ယောက်ခေါ်ဆောင်ရာ မြို့ပြင်မှာ မထင်မရှား ပြေးလွှားပုန်းခိုလို့ နေရစဉ်မှာ . . .

'ဒို့ဘုရင် ဒို့အရှင်ကို ကုလားဖမ်းသွားပြီ။ အရှင်နှစ်ပါး မရှိတော့ဘူး မင်းသားလေးရဲ့။ တစ်ခါတော့ ခက်ကြပါပေါ့လား'

အထိန်းတော်ကြီးတွေ ငိုယိုပြောပြတော့မှ မင်းသားလေး ရိပ်စားမိတော့တယ်။ ဟုတ်ပါရဲ့၊ ရွှေနန်းတော်ကြီးဆီ မျှော်ကြည့်လိုက်တော့လည်း မီးခိုးတွေ တလူလူ အူထွက်လို့၊ ဩော်. .

'ခမည်းတော်ဆီ ပို့ပေးပါ။ ခမည်းတော် ခမည်းတော်' လို့သာ မင်းသားလေး တမ်းတပူဆာလေတော့တယ်။

အထိန်းတော်ကြီးနှစ်ယောက်လည်း မြစ်အနောက်ဘက် ကမ်းကိုကူးကာ ခမည်းတော်ရှိမည်ထင်တဲ့ ရွှေဘိုအရပ်ဆီ ဦးတည်ကာ လိုက်လာခဲ့ကြပါတယ်။ မင်းသားလေးကို ထမ်းလို့ပိုးလို့ ချီလို့ ခြေကျင်တစ်မျိုး လှည်းကြုံနဲ့တစ်သွယ် ခရီးဆက်ရင်း တော်လှန်ရေးမင်းသားကြီး ထိပ်တင်မှတ်ရဲ့ သတင်းကို စုံစမ်းကြတယ်။

တစ်ဆင့်စကား တစ်ဆင့်နားနဲ့ လူသတင်း လူချင်းဆောင်ပြီး လိုက်ကြရာ ဒီပဲယင်းကန်တော်ကြီးမှာ တပ်စခန်းချနေတဲ့ ခမည်းတော်ထိပ်တင်မှတ် စံတော်မူရာသို့ ရောက်ခဲ့ ကြပါတော့တယ်။ ထိပ်တင်မှတ်လည်း သားတော်လေးကို ဆွဲပွေ့ယူငင် ရင်ခွင်မှာထား အားပေးစကားတွေနဲ့ . . .

'သားတော်ရယ် အကြောင်းမလှလို့ ခဏမျှထားခဲ့ရတာကို ဝမ်းနည်း မနေပါတော့နဲ့။ ယခု ပြန်တွေ့ကြပြီမဟုတ်လား။ သားတော် တပ်ဦးကနေ စောင့်ကြည့်ပေတော့။ ဒီ ဗြိတိသျှ ကုလားဖြူကောင်တွေကို ခမည်းတော် ဘယ်လိုတိုက်မယ်ဆိုတာ . . .'

ခမည်းတော်ရဲ့ ရင်ခွင်ကြား အမောဖြေလို့မှ မဆုံးမီ ဝုန်းဒိုင်းဆိုတဲ့ ပေါက်ကွဲသံကြီးတွေက မင်းသားလေးတို့ တပ်စခန်းဆီ ချက်ချင်းပဲ ဆိုက်ရောက်လာခဲ့ပြီ။ အမြောက်ဆန်၊ ကျည်ဆန်တွေကြား တပ်စခန်းတစ်ခုလုံး ရုန်းရင်း ဆန်ခတ် လှုပ်လှုပ်ရှားရှား. . ။

'အရှင့်သား. . သားတော်လေးကို ထားရစ်တော်မူခဲ့ပါ။ အရှင့်သားသာ လွတ်အောင်ရှောင်ပါတော့၊ ရန်သူ့အားက ကြီးလှပါဘိ။ ဟိုမှာ ကုလားဖြူတွေ အလုံးအရင်းနဲ့ ချီလာနေ ပြီ။ သားတော်ကို ထားခဲ့ပါတော့'

ကိုယ်ရံတော်တွေက ဝိုင်းဝန်းဖြောင်းဖျ၊ အဲဒီတုန်း ခမည်းတော်တို့ စစ်ကြောင်းထဲက ဆရာတော်တစ်ပါးပေါ်ထွက်လာ၊ သားတော်လေးလက်ကို အတင်းဆွဲနေစဉ်မှာပဲ ခမည်းတော်ဟာ ဆောင်ဓားတဝင့်ဝင့်နဲ့ တပ်ကို ကွပ်ကဲ

လျက်က . . .

'ကဲ- အရှင်ဘုရား သားတော်ကို စောင့်ရှောက်ရစ်ပါတော့'လို့ မှာကြားဦးတင်လျက်က ဗုံးဆန်ကျည်ဆန်တွေကြား၊ မီးခိုးလုံး၊ ဖုံလုံးကြီးတွေကြား လွှားခနဲခုန်ပေါက်ပျောက်ကွယ် သွားပါပေါ့။ ဩော် - ခမည်းတော်ရယ်။ အခုပဲတွေ့ . . အခုပဲ ခွဲခဲ့ရပါပြီကော။

အင်မတန်နုနယ်တဲ့ မင်းသားလေးဟာ စစ်ခရီးလမ်း သွေးမြေလမ်းပေါ် ဆရာတော်ကို အမှီပြုပြီး ရှေ့ဆက်ခဲ့ရပါတယ်။

'မင်းသားလေး'

'ဘုရား'

'အရှင့်သားလေး'

'ဘုရား'

'ကိုယ်တော်လေး'

'ဘုရား'

ဆရာတော်က အမျိုးမျိုးခေါ် အဖုံဖုံချော့ပြီး လွတ်မည် ထင်ရာလမ်းမှန်း၍သာ ပြေးခဲ့ကြရတယ်။ ဆရာ်တော် ပြေးသလောက် မင်းသားလေးဘယ်ပြေးနိုင်ပါ့မလဲ။ ဆရာတော်ကပဲ ချီလိုက် ပိုးလိုက် ထမ်းလိုက်နဲ့ ပန်းဟိုက်နေအောင် ခေါ်ခဲ့ရတယ်။

'ငရဲကြီးပါမယ် ဘုရား'

'ဒါ အသက်ကယ်တာ၊ ဇီဝိတဒါနခေါ်တယ်။ ငရဲမကြီးဘူး၊ ကုသိုလ်ရတယ် မင်းသားလေး'

ဒီလိုနဲ့ အမြောက်သံ၊ ဗုံးသံတွေနဲ့ဝေးတဲ့နေရာ ရောက်လာခဲ့ကြပါတယ်။

'ရှေ့မှာ ရွာ. .'

ရွာရောက်တော့ အကျိုးအကြောင်းပြောပြ၊ ဆရာတော်မို့လို့လည်း ရွာကလေးစားကြပါတယ်။ ဆရာတော်တောင်းတဲ့ အကူအညီကို ဘယ်သူကမှ မငြင်းဘူး။ လှည်းနွားပင် စီစဉ်ပေးလိုက်လို့ ခရီးဆက်ရတာ အဆင်ပြေသွားတယ်။ ရောက်ရာကျောင်းဇရပ်များမှာ ခဏမျှတည်းခို၊ ဆရာတော်က

'နန်းညွန့်နန်းလျာ မင်းသားလေးပါလာတယ်' က အစချီ ပြီး ရွှေနန်းတော်ကြီးကို ကုလားဖြူတွေ ဝင်စီးပုံ၊ ယခုထွက်ပြေးခဲ့ရပုံ၊ အချို့မင်းသားများ ခုခံတော်လှန်နေကြပုံတွေ စီကာပတ်ကုံး ပြောပြတယ်။ ရွှေမြို့တော်ကြီးနဲ့ အလွန်အလှမ်းဝေးတဲ့ တောတောင်တွေကြားနေရပေမယ့် အခု စစ်သတင်း

တွေ၊ ကုလားဖြူစစ်တပ်က ဒီတော ဒီတောင်တွေအထဲ လိုက်လံတိုက်ခိုက်နေပုံတွေကို ရွာသူရွာသားတွေ ကြားဖူး ကြုံဖူးနေပြီဖြစ်ပါတယ်။ အင်္ဂလိပ်စစ်တပ်က ဘယ်လိုပင် ချေမှုန်းပစေ၊ တစ်ချိန်မှာ မြန်မာဘုရင်ပဲ ထီးနန်းပြန်စံရမယ်လို့ သူတို့ ယုံကြည်နေပါတယ်။ ဒါကြောင့်လည်း မင်းသားလေးကို ပြုစုလိုက်ကြတာ၊ မင်းသားလေးကို ကြည့်ပြီး ငိုသူငို၊ အံကြိတ်သူ ကြိတ်၊ လက်သီးလက်မောင်းတန်းသူက တန်းနဲ့. . အဲဒီ မျိုးချစ်စိတ်တွေကပဲ ဆရာတော်နဲ့ မင်းသားလေး ရှေ့ဆက်သွားဖို့ လမ်းပြခဲ့ကြပါတယ်။

ဒီလိုနဲ့ ဝက်ပုပ်ကြီးရွာကိုကျော်ခဲ့ပြီး နှစ်မိုင်လောက်ဝေးကွာသော အောင်သမနာတောမှာ ဖက်ရွက်မိုးကျောင်းလေးနဲ့ ပုန်းလျှိုးနေတဲ့ ဘုန်းတော်ကြီး ဦးဉာဏကျောင်းသို့ ရောက်ခဲ့ကြပါတယ်။ ရပ်ရွာမသာယာ စစ်မက်ဆူပူလို့ ဘုန်းတော်ကြီး တောထဲဝင်ခဲ့တာဖြစ်ပါတယ်။

'ဒီလို သွားနေလို့ ဖြစ်ပါ့မလား'

ဘုန်းတော်ကြီး ဦးဉာဏက မိန့်တယ်။

'မှန်ပါဘုရား. . မင်းသားလေးကို အရှင်ဘုရားထံမှာ အပ်နှံခဲ့ချင်ပါတယ်'

'နေခဲ့ပေါ့၊ တပည့်တော်ကျောင်းမှာ သာဆင့်ဆိုတဲ့ ကျောင်းသားလေး ရှိနေတာပဲ။ မင်းသားလေး အဖော်ရတာပေါ့'

ဒီလိုနဲ့ မင်းသားလေးဟာ သာဆင့်ကို အဖော်ပြုပြီး ကျန်ခဲ့လေတော့တယ်။ သာဆင့်နဲ့က အဖော်ရတယ်ဆိုရုံပဲ။ နည်းနည်းမှ မပျော်၊ ဆွေတော်၊ မျိုးတော်၊ ခမည်းတော်ကို ရော်ရမ်းမျှော်မှန်း လွမ်းလို့သာနေရတော့တယ်။ အရွယ်နဲ့ မလိုက်အောင် လောင်မြိုက်နေတဲ့ သောကမီးတွေကြား မြင်းခွာသံတွေနဲ့အတူ ဘွားခနဲ ရောက်လာတာက ခမည်းတော်၊ ဗိုလ်ရန်ကြီးအောင်၊ ဗိုလ်ဇော်ဂျီ၊ ဗိုလ်ပြုံးဆိုတဲ့ တော်လှန်ရေးဗိုလ်တွေလည်းပါသေးရဲ့။

ခမည်းတော်ဟာ ရွှေနန်းတော်ထဲက မင်းသား ထိပ်တင်မှတ် မဟုတ်တော့ပြီ။ ရွှေရောင်သမ်းနေတဲ့ အသားအရေတွေပေါ်က မြရောင် အကြောအမျှင်လေးတွေ ကွယ်ပျောက်သွားခဲ့ပြီး တစ်ကိုယ်လုံး ကြေးနီရောင်သမ်းလို့ ကြမ်းကြမ်းတမ်းတမ်း ဘ၀တစ်ခုလုံး မမှတ်မိတော့လောက်အောင် ကြမ်းကြမ်းတမ်းတမ်း။ ဒါပေမဲ့ ခမည်းတော်ရဲ့နှုတ်ဆက်စကားတွေက အလွမ်းနဲ့ နူးညံ့သိမ်မွေ့လွန်းလှတယ်။

'အားမငယ်ပါနဲ့ သားတော်'

သားတော်လေးကို ဖက်ပွေ့ပြီး နှစ်သိမ့်တယ်။

ဖိဖိ ငါ ဘုရားသားတော်” ဆိုပြီး အပေါ်မှဖိထားတာကို စိတ်မရောက်တော့ဘဲ

“ဗုဒ္ဓံသရဏံ ဂစ္ဆာမိ၊ ဓမ္မံသရဏံ ဂစ္ဆာမိ၊ သံဃံသရဏံ ဂစ္ဆာမိ”ဟု ဘုရားအာရုံပြုပြီး ထပ်ကာထပ်ကာ ရွတ်ဆိုတော့မှ နည်းနည်းလေး ဖိထားတာကို ဖွပေးသလိုဖြစ်လာလျက် အဆို ရပ်လိုက်၊ ဖိလာသလို ဖြစ်လိုက်နှင့် တစ်နာရီခန့် ကြာသွားလေသည်။ နောက်တော့ -

“အဖိခံရတာ ငါလဲမဟုတ်ဘူး၊ ရုပ်နဲ့နာမ်သာဖြစ်တယ်၊ နင့်ဟာနင် ဖိချင်သလိုဖိ”ဟု ပြောလိုက်သည်နှင့် တပြိုင်နက် ဖိတာတွေ ချက်ချင်း ပျောက်သွားပြီး ပေါ့သွားလေသည်။ “ဘာကြောင့် လုပ်နေကြတာလဲ၊ ကြောက်ပြီး ညဘက်မှာ တစ်ပါးတည်း မနေရဲဖြစ်ကာ တစ်ကျောင်းတည်း သီလရှင်နဲ့ နှစ်ပါးအိပ်အောင်လို့လား၊ ကြောက်ပြီး မနေရဲလို့ နှစ်ပါးအိပ်တောင် သန့်ရှင်းကြလို့ သမာဓိ မပျက်တောင် ဝိနည်းတော်အရ အာပတ်သင့်မည်။ ဘယ်တော့မှ သီလ သမာဓိအပျက်မခံ၊ အသက်သာ အသေခံမယ်၊ မမှန်ကန်တဲ့ စိတ်ထားနဲ့တော့ ရဟန်း ဘဝမနေပါ၊ တို့သည် သံသရာလည်နေတဲ့အထဲ ကံကောင်းအကြောင်းသင့်လို့ ဘုရားသာသနာတော်နှင့်ကြုံတုန်း ဒီစလူမြောင်တောင်မှာ သာသနာပြုမယ်ဟူသော စိတ်ထားဖြင့်နေကြသည်၊ သူများ အပြောကောင်းလို့၊ စားဝတ်နေရေးကြပ်တည်းလို့ မင်းဘေးစိုးဘေးကြောက်လို့ သာသနာ့ဘောင်ဝင်ရောက်သည် မဟုတ်ကြပါ၊ အသင်တို့ကို တို့ပြုပြီးသမျှ ဒါန၊ သီလ၊ ဘာဝနာ ကုသိုလ်များကို အမျှပေးဝေမှာပါပဲ၊ အသင်တို့လဲ တို့ရဲ့ပါရမီကို ကူညီဖြည့်စွမ်းနိုင်သော တန်ခိုးရှိလျှင် လောကီ၊ လောကုတ္တရာ ပွားများနိုင်အောင် ပါရမီ ဖြည့်ကြပါ” ဟု ပြောလိုက်ပါသည်။

ထိုသို့ မေတ္တာရပ်အမျှပေးဝေပြီး မကြာခင်မှာပဲ ည ၉ နာရီခန့်အချိန်၌ “ရှိုး” ဆိုသောအသံကြီး ကြားရပြီး အပြင်ဘက်တွင် စလူမြောင်တစ်တောင်လုံး သုံးမိနစ်ခန့်အလင်းရောင်ကြီး လင်းထိန်လျက် ပျောက်ကွယ်သွားပါသည်။ နောက်တစ်နေ့ သီလရှင်ကိုပြောပြရာ သီလရှင်ကလည်း သူလည်း “ရှိုး” ဆိုသော အသံကြီးကြားလိုက်ရကြောင်း ပြောသဖြင့် နောက်ကိုအသံကြားလျှင် အပြင်ကိုထွက်ကြည့်ဖို့ မှာကြား ထားလိုက်ရာ နောက်လည်း မကြာခဏဆိုသလို ဖြစ်ပြီး။ ဖြစ်တိုင်း သီလရှင်ထွက်ကြည့်ရာ သီလရှင်ပါ ထိုအလင်းရောင်ကြီးကို မြင်ရလေသည်။ နောက်တစ်နေ့တွင် သီလရှင်က-

“ဦးပဥ္ဇင်း၊ ဘာတွေများ ဖြစ်လာပါလိမ့်” ဟုပြောရာ ဆရာတော်က

“တို့နှစ်ပါး သီလသမာဓိမပျက်ဘဲ တရားတွေပွားများနေတော့ သာသနာ

စောင့်နတ်တွေက ကိလေသာအမှောင်က ကင်းလွတ်ပြီး နိဗ္ဗာန်တည်းဟူသော အလင်းရောင်သို့ရောက်မည်”လို့ အတိတ်ပြတာနဲ့တူပါတယ်၊ တရားကိုသာ ကြိုးစား အားထုတ်ပေါ့၊ တရားကျင့်တဲ့သူကို တရားကလည်း စောင့်ပါတယ်၊ နတ်ကောင်းနတ်မြတ်တွေကလည်း စောင့်ပါတယ်၊ ဒါကြောင့် နတ်ကောင်း နတ်မြတ်တွေက တို့ရဲ့ လောကီရေး၊ လောကုတ္တရာရေးတွေမှာ ကူညီမှာပါ၊ တို့ သူများအသက်အသားလဲ မစားကြတဲ့အတွက် မကောင်းသူ မကောင်း သားတွေကလည်း မမုန်းနိုင်ပါဘူး” ဟု နှစ်သိမ့်အားပေးစကား အမိန့်ရှိ လိုက်ပါသည်။

တစ်ခါတွင်လည်း-

ဆရာတော်ကို မကောင်းမိစ္ဆာတွေက အမျိုးမျိုးခြောက် လှန့်၍မရသဖြင့် သီလရှင်ကို တစ်လှည့် သီလ သမာဓိစမ်းသလားတော့ မသိပေ။ ဆရာတော် နှင့် သီလရှင်တို့သည် တစ်ကျောင်းစီ နေကြသည့်အတွက် တစ်ဦးနှင့်တစ်ဦး အရေးကြီး ထူးခြားသောအကြောင်းကိစ္စရှိလျှင် ကြမ်းပြင်ကို တုတ်ဖြင့် တဒုန်း ဒုန်းမြည်အောင်ထုပြီး အသံပေးရန် ပြောထားကြလေသည်။ တစ်နေ့- ဝါတွင်း တော်သလင်းလဆန်း ၈ ရက်နေ့တွင် နံနက်အရုဏ် ၃ နာရီခွဲခန့် သီလရှင်က အရုဏ်ဆွမ်းချက်ရန် မီးမွေးဖို့ ရေနံဆီမီးတိုင် ထွန်းသည့်အခါ အချိန်မဟုတ်၊ ပိတုန်းတစ်ကောင်သည် အပြင်မှဝင်လာပြီး သီလရှင်၏ မျက်နှာကို ထိုးတော့ မယောင် တဝီဝီဖြင့် ရစ်ဝဲနေသဖြင့် သီလရှင်၏မျက်နှာကို ထိုးတော့ မယောင် ဖြင့် ပိတုန်းကိုရမ်းပြီးမောင်းရာ နောက်ထပ် နှစ်ကောင်ထပ်ပြီး ဝင်လာကာ မျက်နှာ ရှေ့ထိုးတော့မလို ရစ်ဝဲနေပြန်ရာ သီလရှင်လည်း မီးမွှေးမရဖြစ်၍ စိတ်တိုတိုနှင့် အဝတ်ဖြင့်ရိုက်လိုက်သောအခါ တစ်ကောင်မှာ ဇရပ်နံရံမှန်ပြီး အောက်သို့ကျသွားလေသည်။ အဲဒီတော့မှ ကျန်တဲ့ နှစ်ကောင်လည်း ထွက်ခွာသွားလေတော့သည်။

သို့နှင့်သီလရှင်သည် အရုဏ်ဆွမ်းတော်ကပ်ပြီး ထလိုက်သောအခါ အကောင်းပကတိမှ မူးလဲကျသွားတော့သည်။ သီလရှင်က တုတ်ဖြင့် ကြမ်းကို ထု၍ အသံပေးသဖြင့် ဆရာတော်ကြားသိပြီး ဇရပ်သို့သွား၍ သီလရှင်ကို အောက်မှခေါ် ကြည့်ရာ ခေါ်၍မရတော့ပါ။ အရုဏ်ကလည်း မတတ်သေး။ မိုးမှောင်ကလည်းကျ။ ထွန်းသွားသော မီးပုံမှ မီးခွက်လည်း လေတိုက်၍ ငြိမ်း သွားသဖြင့် ဇရပ်အောက်မှ အသံနားထောင် ကြည့်ရာ သီလရှင်၏ အသက်ရှူ သံပြင်းပြင်းကို ကြားရတော့ “ညက မိုးကလဲရွာ၊ လေကလဲတိုက်နဲ့ သီလရှင်

ဇရပ်ပေါ် မြွေတက်နေလို့မြွေကိုက်တာများလား” ဟုတွေးပြီး ဇရပ်အပေါက်တွေ ပိတ်ထားသဖြင့် တက်လို့မရ၊ ခေါ်လို့လည်းမရ ဖြစ်နေတော့သည်။

နောက်မှသတိရပြီး ကြောင်ဝင်ပေါက်မှ တံခါးမင်းတုံးရှိရာမှန်းပြီး တုတ်ရှည်ရှည်နှင့်ထိုးရာ မင်းတုံးကျသွားပြီး တံခါးပွင့်လာပါသည်။ ဇရပ်ပေါ်တက်ပြီး မီးဖိုမှ မီးစဖြင့်ရမ်း၍ မီးခွက်ထွန်းပြီး ကြည့်တော့မှာ သီလရှင် လဲကျနေပြီး ခေါ်မရ ဖြစ်နေသည်ကို တွေ့ရလေသည်။

ဆရာတော်လည်း သီလရှင်ကို တစ်ပါးတည်းထားခဲ့ပြီး သရက်နှစ်ပင်တောရဆရာတော်နှင့် ဒကာမကြီးကိုသွားပင့် ပြီး ရောက်လာမှ လူမှန်း နည်းနည်း သိလာလို့ မေးတော့မှ “မူးတယ်၊ မူးတယ်”လို့ပြောကာ သတိလစ်သွားပြန်လေသည်။ မိုးလင်း၍ ဥပုသ်သည် ဒကာမကြီးတွေလာသည့်အခါ ဝိုင်းဝန်းနှိပ်ပေးမှ သက်သာသွားလေသည်။ တစ်ခါတရံ သီလရှင် ဇရပ်ပေါ် မြွေပွေးတွေ တက်နေ၍ ဆရာတော်က ဖမ်းပြီး တောနက်ရာသို့ သွား၍ လွှတ်ရလေသည်။

ယခုကဲ့သို့ ဆင်းရဲအမျိုးမျိုး ဒုက္ခအဖုံဖုံ အနှောင့်အယှက် မျိုးစုံအောင်တွေ့ရသော်လည်း အစွဲအလမ်း ဥပါဒါန်တွေ မထားကြဘဲ မိမိတို့၏လုပ်ငန်းဖြစ်သော တရားဘာဝနာများကိုသာ ဆက်လက်ပွားများနေလေသည်။

နောက်ပိုင်း ဆရာတော်၏ သီလ၊ သမာဓိ၊ ဘာဝနာ စွမ်းအားများကြောင့်သာသနာစောင့်နတ်တွေက ဝိုင်းဝန်း စောင့်ရှောက်ဟန်တူပါ၏။

၃ ဝါအရတွင် မူလကမ္မဋ္ဌာန်းကျောင်းလေးမှ ၁၅၀၀၀ ကျပ်ခန့်ကုန်သောကျောင်းအကြီး ဖြစ်လာလေသည်။

၆ ဝါအရတွင် ၁၃၀၀၀ ကျပ်ခန့်ကုန်ကျသော ဓမ္မာရုံ ဖြစ်လာသည်။

၉ ဝါအရတွင် စလူမြောင်တောရအနီး ခ-မ-ရ(၆) စစ် တပ်လာပြီးတပ်စွဲသဖြင့် တပ်ရင်းမှူး ဗိုလ်မှူးလှမြင့်၊ တပ်ခွဲမှူး ဗိုလ်မှူးအုံးမြင့်၊ ဗိုလ်မှူးဗိုလ်ကြီးတို့က ကျောင်းကိုတပ်ဦးကျောင်းဟု သတ်မှတ်ပြီး ပစ္စည်း လေးပါးဒါယကာခံယူကာ လျှပ်စစ်မီး၊ ရေ စသည်တို့ဖြင့် ပြည့်စုံစွာ ဆောင်ရွက်လျက်ကိုးကွယ်ဆည်းကပ်ကြလေသည်။

**စိပ်ပုတီး**

ဆရာတော်သည် နေ့စဉ်နံနက်ပိုင်း မျက်နှာသစ်သည့်အခါတွင် မျက်နှာသစ်ရေခွက်၌ ဉာလက်ကိုနှစ်ပြီး ရေကို လက်ဖြင့် ဆုပ်နယ်သကဲ့သို့ပြုကာ

"အသင်နေမင်းကြီး ကျေးဇူးတင်ပါ၏၊ အသင်နေမင်း ကြီးထွက်ပေါ် ပေး၍သာ အလင်းရောင်ရပြီး ကမ္ဘာသူကမ္ဘာသားများ သွားလာလှုပ်ရှား လုပ်ကိုင်နိုင်ပါ၏။ ရဟန်းတော်များလည်း သာသနာပြုနိုင်ပါ၏၊ အသင် လမင်းကြီးကိုလည်း ကျေးဇူးတင်ပါ၏၊ အသင်လမင်းရဲ့ အလင်းရောင်ကို ကြည့်မြင်ရသည်မှာ စိတ်ကိုချမ်းမြေ့စေပါ၏။ ညဥ့်အခါ အလင်းရောင်လည်း ရပါ၏။ အသင်နေမင်းကြီးကဲ့သို့ ထွန်းလင်းတောက်ပပါစေ၊ လမင်းကြီးကဲ့သို့ အေးမြကြည်လင်ပါစေ"ဟု အာရုံပြုလျက် စိတ်ပါပါဖြင့် အရပ်ဆယ်မျက်နှာကို လက်ညှိုး ညွှန်ကာ -

"အပြင်မှ တိုက်လာသော လေသည်လည်း ရုပ်တရား၊ မိမိခန္ဓာကိုယ် အတွင်း အဇ္ဈတ္တများရှိသောလေသည်လည်း ရုပ်တရား၊ သိမှုသဘော တရား လေးသည် နာမ်တရား"ဟူ၍-

"ဤမျက်နှာသစ်ရေ အေးသကဲ့သို့ အားလုံး ကမ္ဘာသူ ကမ္ဘာသား သတ္တဝါ အများလည်း အေးမြချမ်းသာကြပါစေ" ဟု မေတ္တာပို့ပြီး-

"အကျွန်ုပ်သည် ဤမှန်ကန်သော ကာယကံ၊ ဝစီကံ၊ မနောကံ၊ သစ္စာ မေတ္တာဘို့ကြောင့် သူတစ်ပါးအား လောကီရေးရာတို့၌လည်းကောင်း၊ လောကုတ္တရာရေးရာတို့၌လည်းကောင်း ပြောဆိုသည့်အခါ မှန်ကန်စွာ ပြောနိုင်ဟောနိုင်ရပါ လို၏"ဟု ဆုတောင်းပြီးမှ မျက်နှာသစ်လေ့ရှိပါသည်။

ဆရာတော်ပုတီးစိပ်သည့်အခါမှာလည်း လက်နှစ်ဖက်ဖြင့်ကိုင်၍ စိပ်လေ့ရှိမရှိပါ။ ရပ်လျက်သော်လည်းကောင်း၊ ထိုင်လျက်သော်လည်းကောင်း ပုတီးစိပ်သည့်အခါတိုင်း ဘယ်ဘက်လက်ကို ကြာရိယာပုတ်အားလျော်စွာ သင့်သလိုထားပြီး ညာဘက်လက်ဖြင့် ပုတီးစိပ်လေ့ရှိပါသည်။ ပုတီးစိပ်ခါနီး ရှေးဦးစွာ ပုဗ္ဗကကိစ္စ အနေအားဖြင့် အရှေ့၊ အနောက်၊ တောင်၊ မြောက် ထောင့်အရပ် အထက်အောက်ဖြစ်သော အရပ်ဆယ် မျက်နှာရှိ အရပ်ဒေသ အားလျော်စွာ ရှိကြတဲ့သတ္တဝါများကို စိတ်အာရုံညွှတ်လျက် စိတ်မနောဖြင့် မှန်းဆပြီး ထိုထိုသတ္တဝါတို့၏ သဏ္ဌာန် မျက်စိထဲ ပေါ်လာအောင်ကြည့်ပြီး လက်ညှိုးညွှန်ကာ အရှေ့အရပ်ဆိုလျှင် "အရှေ့အရပ်မှာ နေကြတဲ့ လူမင်း၊ နတ်မင်း၊ ဗြဟ္မာမင်းနှင့်တကွ အားလုံးသော သတ္တဝါ အနန္တတို့ ကျန်းမာ ချမ်းသာကြပါစေ၊ ကျွန်ုပ်၏မှန်ကန်သော ကာယကံ၊ ဝစီကံ၊ မနောကံသစ္စာ ကြောင့် ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာကြပါစေ" ဟု စူးစူးစိုက်စိုက် မေတ္တာ ပြုပြီး ပစ္စည်းဝတ္ထုတစ်ခုခုကို ပို့လွှတ်သကဲ့သို့ မေတ္တာအလုံးဓာတ်ကို ပို့ပါသည်။

ဤကဲ့သို့ အရပ်ဆယ်မျက်နှာရှိ သတ္တဝါအနန္တတို့အား မေတ္တာခါတ် ပို့လွှတ်ပြီးမှ ပုတီးစိပ်လေ့ရှိပါသည်။

ပုတီးစိပ်သည့်အခါမှာလည်း ဗုဒ္ဓေါမေ သရဏံ အညံ နတ္ထိ၊ နာမရူပ် အနိစ္စံ၊ ဒုက္ခံ၊ အနတ္တာ စသည်ဖြင့် ရတနာသုံးပါးတို့၏ ဂုဏ်တော်တို့ကို အာရုံပြု၍ စိပ်သောအခါတွင် ဗုဒ္ဓဂုဏ်တော်ကို စိတ်မနောဖြင့် မြင်အောင် ကြည့်ပြီး ထိုပုံတော်၏အပေါ်မှာ ဂုဏ်တော်တွေလွှမ်းခြုံလျက် ပုတီးတစ်လုံးချ ပါ သည်။ ထိုပုံတော်မှ အာရုံမှာ မထင်ပေါ်သေးလျှင် ပုတီးလုံးကို ချလေ့မရှိပါ။ တစ်နည်းဆိုလျှင် "စိပ်ပုတီး" ဟူသော ဝေါဟာရနှင့်အညီ စိပ်ပုတီးမှ "စိပ်" ဟူသောသံတူနှင့်အညီ မိမိရဲ့ စိတ်ကို ပုတီးပေါ်မှာ တည်အောင်ထားပြီးမှ စိပ်ပုတီးကို စိပ်လေ့ရှိပါသည်။ ပုတီးစိတ်နေစဉ် အာရုံတစ်ပါးရောက်သွား၍ မှားသွားသည်ဟု ထင်မှတ်သံသယဖြစ်ခဲ့သော် အစမှပြန်စိပ်ပါသည်။ ဤ နည်းတူ ဓမ္မ-သံဃတို့၏ ဂုဏ်ကိုအာရုံပြု၍စိပ်သောအခါမှာလည်း ဆိုင်ရာ အာရုံများ စိတ်မနောတွင်ပေါ်အောင်၊ မြင်အောင်ကြည့်ပြီးမှ ဂုဏ်တော်များနှင့် လွှမ်းခြုံပြီး စိပ်လေ့ရှိပါသည်။

ဤသို့ ပုတီးစိပ်ခြင်းဖြင့် တစ်နည်းဆိုရလျှင် ဗုဒ္ဓါနုဿတိ ဘာဝနာပွားပြီး စိတ်တည်ငြိမ်မှု "သမာဓိ"ရလာသောအခါ အာနာပါနဿတိဘက်သို့ ကူးပြောင်း၍ ထွက်လေဝင်လေ၌ အသက်ရှူခြင်းဆိုသော ဝင်လေကိုလည်း အသိကပ်၊ ထွက်လေကိုလည်း အသိကပ်ကာ ဝင်တိုင်းထွက်တိုင်း အသိမလွှတ် စေဘဲ ဝင်တိုင်းသိ၊ ထွက်တိုင်းသိဖြစ်စေပြီး၊ ခဏိက သမာဓိ ဖြစ်လာသော အခါ ဝင်လေထွက်လေတို့၏ အထိခံနှာသီးဖျားသည် ရုပ်တရား။ ဝင်လေထွက် လေတို့လည်း ဝါယောရုပ် တရား။ ဝင်မှုထွက်မှုကို သိသိနေတဲ့ အသိက နာမ်တရားပဲ ဟု ရုပ်နာမ်ပိုင်းခြားသိတဲ့ နာမရူပ,ပရိစ္ဆေဒဉာဏ်၊ ဝင်ခြင်း ထွက် ခြင်း သိခြင်းစသော သဘောတရားတို့သည် အလိုအလျောက်ဖြစ်ပေါ်လာ ခြင်းမဟုတ်၊ ဆိုင်ရာဆိုင်ရာအကြောင်း တရားများကြောင့်ဖြစ်ပေါ်လာခြင်းဟု ရုပ်နာမ်တို့ဖြစ်ပေါ်လာခြင်းရဲ့ အကြောင်းတရားကိုသိတဲ့ ပစ္စယပရိဂ္ဂဟဉာဏ် ဝင်ခြင်း၊ ထွက်ခြင်း၊ သိခြင်းစသော အားလုံးသော သဘောတရားတို့သည် အစဉ်အမြဲထာဝရတည်မနေကြဘဲ သူ့သဘော၊ သူ့တာဝန်ပြီးဆုံးသည်နှင့် ချုပ်ပျောက်ပျက်စီးမမြဲခြင်း အနိစ္စ စသောအားဖြင့် ရှုဆင်ခြင်ခြင်း၊ သမ္မသနဉာဏ် စသည့် အသိဉာဏ်လေးတွေ ဖြစ်ပေါ်လာသည်။

တစ်ခါသော် ဆရာတော်သည် တောအတွင်းသို့ အညောင်းပြေ

လမ်းလျှောက်ကြွသွားပြီးချေ၊ သမင်စသော တောကောင်သတ္တဝါတို့၏ ခြေရာလမ်းကြောင်းအတိုင်းကြွကာ မိမိကိုယ်ကို မိမိလမ်းလျှောက်ရင်း သမာဓိရအောင်ပွားများလျက် သမင်ငယ်၊ ယုန်ငယ်တို့မြက်စားနေစဉ် သူတို့ အနားသွားကြည့်ရာ တိရစ္ဆာန်ငယ်တို့သည် ကြောက်လန့်ပြီးထွက်ပြေးမသွားကြဘဲ အနီးကပ်ခံသည်ကို တွေ့ရပါသည်။ လက်နှင့်ကိုင်သောအခါတွင်မူ အကိုင်မခံသေးသည်ကို တွေ့ရ၍ "ငါ့ရဲ့မေတ္တာ၊ သမာဓိစွမ်းအား လိုသေး၍ ဖြစ်မှာပဲ"ဟု ဆုံးဖြတ်ပြီး မေတ္တာစာတ်နှင့် သမာဓိစွမ်းအား ပိုမိုများပြားလာ အောင် ဆက်လက်ပွားများ အားထုတ်ပါသည်။

တစ်နေ့တွင် ဆရာတော်ကို ဖူးမြော်ရန်လာရောက်ကြသော ဒကာ၊ ဒကာမအချို့တွင် လူကိုမူးအောင် စိတ်တွေဝေအောင် စသည်ဖြင့်ပြုလုပ်သော ပြိတ္တာများ လူကိုမှီခိုကပ်ပြီး ပါလာတတ်ပါသည်။ အချို့ပြိတ္တာများသည် လူ၏ဦးခေါင်းပေါ်၌ပေါက်သော ဆံပင်ရှိသန်းများကို မှီခိုပြီး-

ဆံပင်ရင်းရှိ သွေးပေါက်များမှတဆင့် ဦးနှောက်တွင်း ဆင်းကာ လူကို စိတ်ဖောက်ပြန် စိတ်လေလွင့်အောင် ပြုလုပ်တတ်သော ပြိတ္တာများလည်း ရှိတတ်သည်။ အကယ်၍ ထို ပြိတ္တာများ စလူမြောင်တောရအတွင်းသို့ ပါလာခဲ့သော် ဖယ်ရှားလို၍ ဆရာတော်သည် အဓိဋ္ဌာန်တင်ထားသောသက်န်းကို ဖြန့်ပြီး ကျောင်းသားနှစ်ယောက်အား တစ်ဖက်စီကိုင်စေလျက် ဒကာ၊ ဒကာမများ၏ ခေါင်းများကိုထိစေကာ ပိုက်စိပ်တိုက်ခိုင်းရာ ပြိတ္တာ ပါလာသောသူတို့သည် သက်န်းဖြင့် တိုက်ရန်ပြင်ဆင်စဉ်ကပင် ခန္ဓာကိုယ် နတ်ပူးသလို တုန်လာပြီး အနားရောက်လာလျှင် ထွက်သွားလေသည်။ အမျိုးသမီးနှစ်ယောက်ကို တွယ်ကပ်နေသော ပြိတ္တာနှစ်ကောင်မှာမူ ထွက်ခွာမသွားဘဲ ဘုရားလည်း ဦးမတိုက်၊ ဆရာတော်ကိုလည်း ဦးမချနှင့် ဖြစ်နေသည့်အတွက် ဆရာတော်က"ဘာဖြစ်လို့ ဦးမတိုက်သလဲ"ဟု မေးမြန်းရာ "သူတို့ကို မေတ္တာ သီးသန့်မပို့လို့"ဟု ပြောသဖြင့် သူတို့ကို မေတ္တာသီးသန့်ပို့ပေးရာ သည်တော့မှ ဦးတိုက်ပါတော့သည်။ ဆရာတော်က ထွက်ခွာသွားရန် မေတ္တာရပ်ခံသောအခါ ပူးကပ်သော ဒကာမများကိုပါ ခေါ်သွားသဖြင့် ဆရာတော်က လူကိုခေါ်မသွားရန်၊ သင်တို့ ဘာသာသင်တို့ ထွက်ခွာသွားကြရန် ပြောတော့မှ ထွက်ခွာသွားလေသည်။

အားလုံးသော ဒကာ၊ ဒကာမများ အမှီအဝဲကင်းစိတ် သန့်ရှင်းကြည်လင်လာသောအခါ ဆရာတော်သည် ငါးပါးသီလချီးမြှင့်မေတ္တာပို့ သစ္စာဆိုပြီး

ဩဝါဒစကားပြောကြားကာ အမျှဝေလေသည်။

**ဆရာတော်၏ သစ္စာ**

စလူမြောင်တောင်၌ ယခင်ကသီတင်းသုံးခဲ့ကြသော ဆရာတော်များ တောင်ကုန်းပေါ်တွင် ရေတွင်းတူးခဲ့ဖူးရာ ရေမထွက်သဖြင့် အောက်အနိမ့် ချိုင့်ဝှမ်းထဲ၌ တူးရလေသည်။ ယခု ဆရာတော်သည် ဆွမ်းစားဇရပ်အနီး တောင်ကုန်းပေါ်မှာပဲ တူးလိုသဖြင့် သစ္စာတရားကို အားကိုးပြုလျက် -

"ငါတို့သည် ရဟန်းဘဝ တစ်ဝါရခဲ့ပါပြီ၊ ယနေ့အထိ သီလမပျက်ခဲ့ပါ၊ သစ္စာမဖောက်ပြန်ခဲ့ဖူးပါ၊ သက်ရှိသတ္တဝါတို့၏အသားကို မစားဘဲ သက်သတ်လွတ်ဟင်းလျာကိုသာ ဘုဉ်းပေး၍ တရားကျင့်ကြံအားထုတ်ခဲ့ပါသည်။ ယခုလည်း ဗုဒ္ဓရဲ့တရားတော်များကို ကျင့်ဆဲ၊ နောင်လည်း ကျင့်လတ္တံ့ဟု ငါတို့စလူမြောင်တောင်တောရ၌ နေသင့်ထိုင်သင့်ပါက တောင်ပေါ်အစွန်းဆွမ်းစားဇရပ်အနီးမှာ ရေထွက်ပါစေသတည်း"ဟု သစ္စာဓိဋ္ဌာန်ပြု၍ ရေတွင်းတူးရာ ခြောက်တောင်ခန့်ဖြင့် ရေထွက်ပြီး ရေတွင်းကို အောင်မြင်စွာ တူးဖော်နိုင်ခဲ့ပါသည်။

ဆရာတော်သုံးဝါအရတွင် တစ်နေ့သ၌ -

ဆရာတော် သုံးပင်နှစ်ပင် ကမ္မဋ္ဌာန်းကျောင်းလေး၌ သီတင်းသုံးစဉ် နေ့အချိန်နှင့် ညဉ့်အချိန်များတွင် တစ်ခါတရံ အပုပ်နံ့တွေ မကြာမကြာ နံလေသည်။ ဆရာတော်၏စိတ်ထဲ၌ "ဤတောတောင်၌ နေကြသော မကျွတ်မလွတ်ကြသေးတဲ့ ပြိတ္တာများ ကျွတ်လွတ်လိုသည့်အတွက် အမျှဝေမှုကို သာဓုခေါ်ချင်၍ သတိပေးတာများလား" ဟု ယူဆပြီး မိမိပြုခဲ့၊ အားထုတ်ခဲ့သမျှ ဒါန၊ သီလ၊ ဘာဝနာကုသိုလ်တို့ကို အမျှပေးဝေလေသည်။ ထိုအခါ (လေမသင့်သဖြင့်) အပုပ်နံ့များ ပျောက်သွားသဖြင့် ဆရာတော်၏စိတ်ထဲတွင် "အမယ် ဟုတ်သား၊ သူတို့တွေ သာဓုခေါ်ချင်လို့ သတိပေးတာပဲ၊ အခု ငါ အမျှဝေတော့ အပုပ်နံ့ပျောက်သွားပြီ" လို့ ထင်မှတ်ပြီး တရားနှလုံးသွင်းစဉ်၊ ပုတီးစိပ်စဉ် အပုပ်နံ့ နံတိုင်းနံ့တိုင်း အမျှဝေလေသည်။

တစ်နေ့တွင် သီလရှင်ဇရပ်မှာ ဆီကုန်သွားသဖြင့် မိမိကျောင်း၌ထားသော ဆီအိုးထဲမှ ဆီထည့်ပေးရန် ဆီပုလင်းကို ပေးလိုက်၍ ဆီထည့်ရန်ဆီအိုးကို ဖွင့်လိုက်တော့မှ ဆီအိုးကို ဖုံးထားသော အဝတ်အဖုံးကို ကြွက်က ကိုက်ဖောက်ပြီး ဆီးအိုးထဲဝင်ရာ ဆီထဲသို့ လိမ့်ကျကာ ပြန်မတက်နိုင်၍ သေနေသော

ကြွက်သေကောင်ပုပ်နှစ်ကောင် ဆီပေါ်ပေါ်နေသည်ကို တွေ့ရသည်။ အဲဒီတော့မှ ယခင်အပုပ်အနံ့များသည် ပြိတ္တာများ သတိပေးတာ မဟုတ်၊ ကြွက်သေပုပ်များက လေသင့်တဲ့အခါ နံ့သောအပုပ်နံ့မှန်း သိရတော့သည်။

တစ်ခါကလည်း -

သီလရှင်ဒေါ်သုမနစာရီသည် ဆွမ်းစားရင်း ဆွမ်းထဲမှ ဘာပါသွားမှန်း မသိ။ လည်ချောင်းထဲမှာ ကန့်လန့်တင်နေပြီး ၃ ရက်ဆွမ်းမစားနိုင်။ ရေမသောက်နိုင် ဖြစ်နေသည့်အတွက် ဆေးရုံသွား ဓာတ်မှန်ရိုက် လည်ချောင်းကို ခွဲရတော့မလို အခြေအနေဖြစ်နေရာ ဆေးရုံမသွားခင် ဆရာတော်ကိုယ်တိုင် သောက်ရေအိုးမှရေခပ်ပြီး တိုင်တည်လျက် သစ္စာရေကို သောက်စေရာ ရေသောက်ပြီးသည်နှင့် တစ်ပြိုင်နက် သီလရှင်၏လည်ချောင်းထဲမှ အရှည် တစ်လက်မခန့်နှင့် ဓာတ်မီးခြစ် စပရိန်သံချောင်းခန့် လုံးပတ်ရှိသော သံချောင်းငယ်ထွက်လာပြီး ဆေးရုံမသွားရဘဲ ပျောက်ကင်းသွားလေသည်။ ဆရာတော်သည် သစ္စာကို အခါခပ်သိမ်းတိုင်လေ့မရှိဘဲ မလွှဲသာ အခက်ကြုံမှသာ တိုင်တည်လေ့ရှိကြောင်း သိရသည်။

## မိမိတို့အတွက် သူတစ်ပါး အကုသိုလ် မဖြစ်စေလို

၁၃၃၀ ပြည့်နှစ်၊ တန်ဆောင်မုန်းလတွင် သီလရှင် ဒေါ်သုမနစာရီလည်း စလူမြောင်တောရသို့ ရွှေ့ပြောင်းလာခဲ့ပါသည်။ တောရသည် တိမ်မြုပ်ရွာနှင့် တစ်မိုင်ခန့်ဝေးပြီး တောချုံများကွယ်နေသဖြင့် ရွာကိုလည်းမမြင်ရပါ။ တောရကျောင်းကလည်း ရွာကိုမမြင်ရသည့်အတွက် အလယ်ကုန်းသူကြီး တစ်ပိုင်မှ ရွာသားများ လုပ်အားပေး ရှင်းလင်းပေးသဖြင့် ရွာနှင့်ကျောင်း မြင်လောက်အောင် အသင့်အတင့် တောရှင်းသွားလေသည်။ အနည်းအပါး ကျန်သည့် တောချုံများကို သီလရှင်ကိုယ်တိုင် အားလပ်ချိန်၌ရှင်းလင်းပြီး သေခြင်းသဘောတရား အစိုးမရ ကွေးသောလက်မဆန့်ခင်မှာပဲ သေနိုင်လေတော့ မိမိရဲ့ တရားဘာဝနာကိုပဲ အရေးတကြီးအလေး ထား၍ အားထုတ်နေလေသည်။

ယခင် လူ့ဘဝက ဇနီးမောင်နှံနှစ်ဦးတို့သည် ရဟန်းဘဝ၊ သီလရှင်ဘဝဖြင့် တောထဲမှာ အတူတကွနေထိုင်ကြသည်ကို အချို့ပုဂ္ဂိုလ်များသည် "တောကလဲ ယခင်ကကျတ်တော၊ နာမည်ကြီးတောဖြစ်သဖြင့် နေ့အခါမှာသာ တစ်ကျောင်းစီ နေကြပြီး ညဥ့်အခါမှာတော့ ဘယ်နည်းနှင့်မှ သီလရှင်တစ်ပါးတည်း နေရဲမှာမဟုတ်ဘူး၊ ဘုန်းကြီးက သီလရှင်ဇရပ်သို့ဖြစ်ဖြစ်၊ ဒါမှမဟုတ်

သီလရှင်က ဘုန်းကြီးကျောင်းမှာဖြစ်ဖြစ် အိပ်ကြမှာပဲ” ဟူသော သံသယဖြင့် ညအချိန်မတော် လာရောက်လေ့လာ စူးစမ်းကြလေသည်။

ဆရာတော်များကတော့ ထိုပုဂ္ဂိုလ်များအပေါ် မည်သို့မျှ သဘောအာယာတမထားရှိကြဘဲ “တို့ တရားအောင်မြင်အောင် ပါရမီဖြည့်ကြတာပဲ” လို့ ခံယူချက်ထားပြီး သံသယကင်းအောင် အထူးသတိထားနေကြလေသည်။ မိမိတို့ကြောင့် သူတစ်ပါး သံသယဖြစ်ပြီး မဟုတ်မမှန် ပြောဆိုမိခြင်းဖြင့် အကုသိုလ် မဖြစ်စေလို့သည့်အတွက် မိုးစင်စင်လင်းမှ သီလရှင်ဇရပ်သို့သွား၍ အရုဏ်ဆွမ်း ဘုဉ်းတော်မူသည်။ ပို့လျှင်လည်း မိုးလင်းမှပင် ပို့စေပါသည်။ အရုဏ်တက်သော်လည်း မိုးမလင်းမီ သွားရောက်ဆွမ်းစားပါက စားနေစဉ် တစ်စုံတစ်ဦးက တွေ့မြင်သွားသော် အကုသိုလ်ပွား သံသယများဖြစ်မည် စိုးသောကြောင့် ဖြစ်လေသည်။ ဆရာတော်သည် အသက်သာ အသေခံမည်၊ သံသယတော့ မဖြစ်မခံလိုပါ။

တစ်ခါကလည်း -

စလူမြောင်တောရရောက်၍ နှစ်ဝါမြောက်တွင် မြောင်ရွာက သားရှင်ပြု အလှူတစ်ခု၌ ချင်းကုန်းရွာက ဦးတင်အေးပိုင် ဆင်ပေဆင်မိုက်ကြီးငှား၍ ရှင်လျှောင်းလှည့်လေသည်။ ညနေတွင် ဆင်ဦးစီးက ဆင်ကို သူ့စားကျက်ရောက်အောင် မပို့ဘဲ ရွာနားတွင်လွှတ်လိုက်ရာ ဆင်က စလူမြောင်တောင် ခြေမှာ ငှက်ပျောပင်များရှိ၍ ညအချိန်၌ တောရကျောင်းနား အနိမ့်လျှိုထဲရှိ ငှက်ပျောပင်များကို လာရောက်ဖျက်ဆီး စားသောက်လေသည်။ ဆရာတော်ကလည်း ထိုဆင်ကြီးအကြောင်း သိထားသဖြင့် ကမ္မဋ္ဌာန်းကျောင်းလေးနားမရောက်ခင် ကြိုတင်၍ တောင်ပေါ်မှလှမ်းပြီး ခဲနှင့်ပေါက် ခြောက်လှန့်လျက် နှုတ်မှလည်း အသံပေး၍ ခြောက်လှန့်မောင်းသော်လည်း ဆင်ကြီးမသွားသည့်အပြင် အနီးရှိသရက်ပင်မှ သရက်ကိုင်းကို နှာမောင်းဖြင့်ချိုးပြီး ခုခံရန်အတွက် စုပုံထားလေသည်။

ဒီတော့မှ ဆရာတော်က “နင့်ကိုလဲ ငါမပစ်ဘူး၊ နင်လဲ ငါ့ကို မပစ်နဲ့”ဟု ပြောမှ ပြန်လည်ခုခံခြင်းမပြုဘဲ ငှက်ပျောပင်များကို ဆက်လက်စားနေလေသည်။ ထိုဆင်ကြီးသည် ည ၁၂ နာရီ လောက်ရောက်သောအခါ ကမ္မဋ္ဌာန်းကျောင်း ခေါင်းရင်းအနားရှိ ငှက်ပျောပင်များကို လာရောက်စားပါတော့သည်။ ဆရာတော်က ကြောက်လန့်တကြားအော်ပြီး မောင်းနေသောအသံကို သီလရှင်ကကြားတော့ “ဦးဇင်းကလဲ ဒါလောက်တောင် ဘာပြုလို့အော်ပြီး မောင်းနေ

ရတာလဲ” ဟုတောင် လှမ်းပြောပါသေးသည်။

ဆရာတော်က “ငါ့ကျောင်းက ငှက်ပျောပင်တွေ ကုန်သွားရင် သီလရှင် ဇရပ်နားက ငှက်ပျောပင်တွေ သွားစားလိမ့်မယ်၊ သီလရှင်ဇရပ်မှာလည်းပဲ၊ ဆန်၊ ဆီ၊ သစ်သီး၊ သစ်ရွက်တွေရှိတော့ ဇရပ်ကိုဖျက်ဆီးပြီး စားလိမ့်မည်ဟု တွေးတော စိုးရိမ်ပြီး သီလရှင်ကိုလည်း “ဆင်ဦးစီးသွားခေါ်မယ်၊ ဦးဇင်းကျောင်း ပေါ်ကို ခဏရွှေ့နေနှင့်” ဟု မှာကြားပြီး ည ၁၂ နာရီ ကျော်လောက် ဓာတ်မီးကလည်းမရှိတော့ မီးခွက်မီးပုံးနှင့် တိမ်မြုပ်ရွာမှ ဆင်ဦးစီးကို သွားခေါ် ရတော့သည်။

ဆင်ဦးစီးနှင့် ရွာမှမောင်ကြင်ထွန်းဆိုသော ဒါယကာ တစ်ယောက် လိုက် လာ ပြီး ကျောင်းနားရောက်တော့ သီလရှင်ကို အသံပြုတဲ့အခါ သူ့ဇရပ်ကလေး ပေါ်မှ ပြန်လည်အသံပြုသဖြင့် “ဆင်က ခေါင်းရင်းရောက်နေပြီ၊ သီလရှင် တော့ သေတော့မှာပဲ၊ ကျောင်းပေါ်လဲ ရွှေ့မနေဘူး၊ ဘာလုပ်နေတာလဲ” ဟု ပြောသောအခါ “ပုတီးစိပ်နေတယ်” ဟု ပြန်လည်ပြောပါသည်။ သီလရှင်ရဲ့ ဂုဏ်သတ္တိကို အားလုံးက အံ့ဩရပါသည်။ ဆင်ဦးစီးက သူ့ဆင်ကို စားကျက် ရောက်အောင် မောင်းပို့လိုက်တော့မှပဲ ဆင်ရဲ့ရန်မှအေးရလေသည်။

မနက်ရောက်တော့ သီလရှင်က “ဦးဇင်းက စိုးရိမ်လို့ ကျောင်းပေါ်ခဏ ရွှေ့နေလို့ ပြောတာမှန်း သိပါတယ်ဘုရား၊ ဒါပေမယ့် ဆင်သမားနဲ့ ရွာကလူတွေ လိုက်လာရင် ဆင်ကြောက်လို့ ကျောင်းပေါ်ခဏတက်နေတာကို တစ်မျိုးအထင် လွဲသွားရင် ဆင်နင်းသေတာထက် ကြောက်စရာကောင်းတာပေါ့ ဘုရား၊ အသက်သာအသေခံမယ်၊ သူများရဲ့ သံသယအဖြစ်မခံနိုင်ပါဘူး။ မိမိအတွက် သူတစ်ပါးလည်း အကုသိုလ် မဖြစ်စေချင်ပါဘူး ဘုရား” ဟု ဆရာတော်ကို ပြန်လည် လျှောက်ထားလေသည်။ အာဂ သီလရှင်ပါပေ။

ဆရာတော် တောရဆောက်တည်ရာတွင် ဆရာတော်ကလည်း ဆွမ်းခံ မထွက်၊ သီလရှင်ကလည်း ဆွမ်းဆန်အလှူခံမထွက်ပါ။ သီလရှင်က ဆန်၊ ဆီ စသည် ပြည့်စုံအောင် စီမံပြီး ဆွမ်းချက်ကပ်ပါသည်။ ဆီအိုး၌ ကြွက်များ ပုပ်နေသည့်အတွက် ဆီပုပ်များကို တောထဲသွား၍ သွန်ပစ်ရန်အတွက် မ,ချီရာ တွင် တစ်ဦးတည်း မနိုင်သည့်အတွက် ဆရာတော်နှင့် သီလရှင်တို့နှစ်ပါး မ,၍ ယူသောအခါ၌လည်း ဆီအိုးမှာဆီများ ပေကျံနေသဖြင့် ချော်ပြီးယူမရဖြစ်နေ ရာ သီလရှင်က “ခုနေတုန်း လူတစ်ဦးဦးလာ၍ မြင်သွားရင်တော့ ဘုန်းကြီးနဲ့ သီလရှင် နှစ်ပါးတည်းကျောင်းပေါ်မှာ ဘာတွေလုပ်နေပါလိမ့်လို့ အကြောင်း

မသိဘဲနဲ့ အထင်မှားသွားရင် မကောင်းဘူး။ မိမိတို့ကြောင့် သူတစ်ပါး အကုသိုလ် အပြစ်ရသွားမယ်။ ကိုင်း ဦးဇင်းဟာ ဦးဇင်း ဖြစ်သလိုသာ ဖြစ်တဲ့ နည်းနဲ့ သွန်ပစ်တော့" လို့ လျှောက်ထားပြီး သူဇရပ်သူ ပြန်သွားလေသည်။ (ထိုဆီပုပ်သည် နောင်တွင် သစ္စာပြုသဖြင့် ကောင်းသွားပါသည်။) ဆရာတော် နှင့် သီလရှင်တို့သည် လူဝတ်ကြောင်ဘဝက ဇနီးမောင်နှံဖြစ်ခဲ့ဖူးသော်လည်း မိမိတို့ကိုယ်တိုင် သန့်ရှင်းစွာနေပြီး အကုသိုလ်အဖြစ်မခံသလို မိမိတို့ကြောင့် သူတစ်ပါးကိုလည်း အကုသိုလ်မဖြစ်စေလိုသည့်အတွက် အသက်ပင်သေသေ သူတစ်ပါးသံသယဖြစ်မှုကို အထင်မခံဟူသော စိတ်သဘောဖြင့် ဒုကူလနဲ့ ပါရိက တို့လို ပါရမီဖြည့်ဖက်အနေဖြင့် သန့်ရှင်းစင်ကြယ်စွာ တရားဘာဝနာ ကို ပွားများ နေကြလေသည်။

## စလူမြောင်တောရ ရှင်ပြုမင်္ဂလာ

စလူမြောင်တောရ ပတ်ဝန်းကျင်ရှိကျေးရွာများမှ ဒကာ၊ ဒကာမများသည် တချို့မှာ ပစ္စည်းနေကြွယ်ဝသော်လည်း အချို့မှာမူ ခေါင်းပါးကြလေသည်။ တချို့လည်း မိမိသားများကို ရှင်ပြုမင်္ဂလာပြုသည့်အခါ မိမိကျေးရွာကျောင်း၌ပင် ပြုလုပ်ကြပြီး အချို့မှာအကြောင်းအမျိုးမျိုးကြောင့် မိမိကျေးရွာရှိ ဘုန်းတော်ကြီးများအား လျှောက်ထားခွင့်ပန်ပြီး စလူမြောင်တောရကျောင်းသို့ လာရောက်၍ ရှင်ပြုမင်္ဂလာပြုကြလေသည်။

အချို့မှာ မိမိတို့သားများ အရွယ်ရောက်နေပြီဖြစ်သော်လည်း ပစ္စည်းဥစ္စာ မပြည့်စုံသေးသဖြင့် ရှင်မပြုနိုင်ကြသေးပါ။ အချို့မှာ ပရိက္ခရာဖိုးမျှပင် မစွမ်းဆောင်နိုင်ကြပါ။ အချို့မှာတော့ ပြည့်စုံကြပါသည်။ ထိုအခါ ဆရာတော် က မပြည့်စုံ သူတွေကိုလည်း သာသနာတော်ကြီးနှင့် ကြုံတုန်း သာသနာ့ အမွေခံကုသိုလ်ထူးကို ရယူနိုင်ကြပါစေဟူသော မေတ္တာစေတနာဖြင့် တတ်နိုင် သူနှင့် မတတ်နိုင်သူများအားလုံး စိတ်တူကြည်ဖြူစွာ ပေါင်းစေပြီး စုပေါင်း အလှူပွဲကို သကြ်န်တွင်းအခါ နှစ်တိုင်းပြုလုပ်ပေးလေသည်။ ဒကာ၊ ဒကာများ၊ စုပေါင်းကုသိုလ်ပြုလုပ်စေခြင်းဖြင့် အလှူကုသိုလ်ထမြောက် အောင်မြင်ခြင်း၊ စည်းလုံးညီညွတ်မှုစိတ်ဓာတ်များကြောင့် ဆရာတော်အား အထူးကျေးဇူးတင် ရှိကြပေသည်။ တောရ၌ ရှင်ပြုရခြင်းသည် ဆရာတော်၏လမ်းညွှန်မှု၊ စီမံမှုဖြင့် အဓိကအားဖြင့် မိမိတို့၏အလှူဒါန အပေါ်မှာ စိတ်တည်ငြိမ်စွာ အာရုံပြုနိုင် ပြီး စိတ်ချမ်းသာမှုကို ရရှိလေသည်။

ဆရာတော်သည် ဒကာ၊ ဒကာမများ အကျိုးများတိုးပွားစေရန် ရည်ရွယ်၍ တောရအလှူ၌ အောက်ပါအတိုင်း စည်းကမ်းသတ်မှတ်ချက်များ ထားရှိပေးလေသည်။

၁။ သက်ရှိသတ္တဝါတို့၏ အသားအသွေးမပါ သက်သတ်လွတ်ဟင်းလျာ ကျွေးရမည်။

၂။ အသံချဲ့စက်၊ တီးဝိုင်း၊ ဆိုင်းဝိုင်း မထည့်ရ။

၃။ ဆင်၊ မြင်းစသည်ဖြင့် ဂုဏ်ပကာသနဖက်၍ ရှင်လောင်းမလှည့်ရ။

၄။ အလှူရှင်များသည် အလှူရက်အတွင်း အရက်သေစာ မသောက်စားရ။

၅။ အလှူရှင်များသည် အလှူရက်အတွင်း (၈)ပါးသီလ ဆောက်တည်ရမည်။

၆။ သာမဏေလောင်းများကို အလှူမတိုင်မီ (၁၀)ရက်ကြိုတင်၍ ကျောင်းသို့ ပို့ထားရမည်။

၇။ ဒုလ္လဘရဟန်းနှင့် သာမဏေတို့သည် ဆွမ်းခံထွက်၍ သတ်မှတ်ချိန်၌ တရားထိုင်ကြရမည်။

၈။ ၇ ရက်ထက်ပို၍ ကျောင်းတွင်လက်မခံပါ။

ဆရာတော်ဘက်မှလည်း အပ်နှံသော ရဟန်းလောင်း၊ သာမဏေလောင်းများအား သင်သင့် သင်ထိုက်သော ရဟန်း သာမဏေတို့၏ ကျင့်ဝတ်များကို ပြည့်စုံစွာ သင်ကြားပေးလေသည်။

အဆိုပါစည်းကမ်းများအရ ရှင်ပြုသည့်အခါ အလှူရှင်များစိတ်ချမ်းသာမှု အပြည့်အဝရရှိသည့်ပြင် ကျွေးမွေးမှု၌ ငွေကြေးအကုန်အကျသက်သာပြီး အခြားဘက်၌ တိုး၍ လှူဒါန်းနိုင်လေသည်။ သက်သတ်လွတ်ဟင်းလျာ ကျွေးစေခြင်းသည် အကုန်အကျသက်သာမှုတစ်ခုတည်းကြောင့်သာ မဟုတ်ဘဲ ဆရာတော်ကိုယ်တိုင်ကလည်း လူဘဝနေစဉ်ကပင် နှစ်ပေါင်းများစွာ သတ္တဝါတို့၏ အသားဟင်းလျာကို ရှောင်ကြဉ်ခဲ့သည့်ပြင် ရဟန်းဘဝရောက်သော်လည်း ဆက်လက် ရှောင်ကြဉ်လျက်ရှိပြီး စလူမြောင်တောမှာလည်း တောရကျောင်း မဖြစ်ခင်ရှေးအခါက ကျတ်စသော မကောင်းမိစ္ဆာများ ခိုအောင်းရာဖြစ်ခဲ့ကာ ပတ်ဝန်းကျင်ကျေးရွာများမှ ကျတ်ကျွေးခြင်း၊ တောထုတ်ခြင်း၊ ရွာချခြင်း စသည့်တို့ကြောင့် တိရစ္ဆာန်တို့၏အရိုး၊ အမွေးသချိုင်းပမာ အမင်္ဂလာဌာနကြီး ဖြစ်ခဲ့ဖူးပါသည်။ ဆရာတော်ရောက်မှ မေတ္တာပို့ခြင်း၊ အမျှဝေခြင်းများပြုလုပ်ကာအခြားနီးစပ်ရာ ဂွေးပင်ချောင်းတော်သို့ သွားရောက်နေထိုင်ကြရန် မေတ္တာရပ်ခံထားခဲ့ခြင်းဖြစ်ပြီး ယခု တဖန် သားငါးကျွေးမွေးခြင်းဖြင့် သားငါး

တို့၏အသွေးအနံ့၊ အရိုး၊ အမွေးစသည်တို့ရှိလာခဲ့လျှင် "အညှီရှိရာ ယင်းအုံ"ဆို သလို ထိုမကောင်းမိစ္ဆာများကို ဖိတ်ကြားသလိုဖြစ်ပြီး ပြန်လည် ခိုအောင်း နေထိုင်လာနိုင်သည့်အတွက်ကြောင့်လည်း သားငါးစသော သက်ရှိသတ္တဝါ တို့၏ဟင်းလျာများကို မကျွေးစေခြင်းဖြစ်ပါသည်။ အလှူရှင်များသာမက အလှူလာ ဧည့်ပရိသတ်တို့လည်း အရက်သေစာသောက်စားပြီး မလာဝံ့ကြ သဖြင့်လည်း အလှူရှင်များနှင့်တကွ အားလုံးတို့၏ စိတ်ချမ်းသာမှု ရရှိစေနိုင်ပါ သည်။

## အရှင်မဟာကဿပလို

တစ်နေ့တွင် ဆရာတော်သည် သရက်နှစ်ပင်တောရ ဆရာတော်နှင့်အတူ အလှူတစ်ခုသို့တောလမ်းခရီးဖြင့် ကြွ သွားရာ သရက်နှစ်ပင်ဆရာတော်က "ဦးသီလာစာရရေ၊ တပည့်တော်တို့ တောရဆောက်တည်တရားပွားများပြီး နေကြသော်လည်း ဓုတင်လဲ တစ်ပါးမှမဆောင်ဖြစ်ကြသေးဘူး"ဟု အမိန့်ရှိ တော်မူရာ စလူမြောင်ဆရာတော်သည် မူလကပင် တရားပွားများခြင်း၌ သဒ္ဓါတရားထက်သန်သော ဆရာတော်ဖြစ်ရာ မိမိကိုနည်းလမ်းညွှန်ပြသတိ ပေးမည့် ပုဂ္ဂိုလ်ကို မျှော်လင့်တောင့်တနေချိန်တွင် ယခုလိုသရက်နှစ်ပင် တောရ ဆရာတော်ကအမိန့်ရှိလိုက်သောအခါ ဗုဒ္ဓရဲ့သားတော်ကြီး မိမိရဲ့ နောင်တော်ကြီး ဓုတင်အရာတေဒဂ်ရ အရှင်မဟာကဿပ မထေရ်မြတ်ကြီးသို့ ချက်ချင်း အာရုံရောက်သွားလျက် "မှန်လှပါဘုရား၊ တပည့်တော် ယခုနှစ်ဝါ တွင်း ကာလမှစပြီး တတ်နိုင်သမျှ ဓုတင်အကျင့်ကို ကျင့်ဆောင်ပါမည်ဘုရား" ဟု ဝမ်းမြောက်ဝမ်းသာ လျှောက်ထားဝန်ခံလိုက်လေတော့သည်။

ဦးသီလာစာရသည် မိမိတောရကျောင်းသို့ ပြန်ရောက်သောအခါ -

"ဘုရားတပည့်တော်သည် ဘုရားရှင်တို့၏ တရားစကားတော်များကို ယုံကြည်လေးစား မြတ်နိုးစွာ အားထုတ်ပါတော့မည်ဟူသော အဓိဋ္ဌာန်ဖြင့် လူ့ဘဝကာမဂုဏ်စည်းစိမ်တွေကို သုမေဓာသတို့သားကဲ့သို့ လက်လွှတ်ပေးကမ်း စွန့်ကြလှူဒါန်းပြီး နိဗ္ဗာန်မပါရမီဖြည့်ဆည်းမည်ဟု ရည်ရွယ်ကာ တောထွက် လာခဲ့သည်မှာ မှန်ကန်ပါ၏။ ဘုရားရှင်၏ သားတော်ကြီး ဓုတင်အရာတေဒဂ်ရ နောင်တော်ကြီး အရှင်မဟာကဿပ မထေရ်အား ရည်မှန်း၊ စိတ်မှာတမ်းတ လျက် ဆရာမှီး၍ နောင်တော်ကြီး ကျင့်ဆောင်သွားတော်မူသော ဓုတင်(၁၃)ပါး ကို အောင်မြင်အောင် ကျင့်ဆောင်ပါမည်ဘုရား။ ကျင့်နည်းများ မှန်ကန်အောင်

ရှေ့ဆောင်လမ်းပြ ဖေးမကူညီတော်မူပါဘုရား” ဟု အရှင်မဟာကဿပ မထေရ်မြတ်ကြီးအား စိတ်မှာတမ်းတနည်းလမ်းပြရန် လျှောက်ထားပြီးလျှင် “ဘုရားတပည့်တော်သည် အရှင်မဟာကဿပမထေရ်မြတ်ကြီးအား နည်းလမ်းပြရန် အဓိဋ္ဌာန်ဖြင့် လျှောက်ထားပြီး ကျင့်ဆောင်နိုင်ပါက နောင်တော် မထေရ်မြတ် အရှင်မဟာကဿပ၏ အလောင်းတော်မြတ်ရှိရာ အရပ်သို့ ဖူးမြော်ဖို့ရာ ဝေဘာရတောဝနာသို့ ချောမောလွယ်ကူချမ်းမြေ့စွာဖြင့် ပို့ဆောင် ပေး မည့်သူ လွယ်လင့်တကူ ပေါ်ပါစေသတည်း” ဟု သစ္စာဓိဋ္ဌာန် ပြုပြီးလျှင် ဓူတင်(၁၃)ပါးကို တစ်ပြိုင်နက်တည်း မဟုတ်သော်လည်း (၂)ပါး၊ (၃)ပါး စသည်အားဖြင့် တစ်လှည့်စီ (၁၃)ပါး ပြည့်အောင် ကျင့်ဆောင် အားထုတ်တော်မူလေသည်။

**တေရသဓူတင် အောင်မြင်လေပြီ**

ဤသို့ အရှင်မဟာကဿပမထေရ်မြတ်ကြီးအား စိတ်မနေဖြင့် ဆရာ မိုးကာ သစ္စာဓိဋ္ဌာန်ပြုပြီးဓူတင် (၁၃)ပါးကို ကျင့်ဆောင်လာခဲ့ရာ (၁၃)ပါး စလုံး အောင်မြင်ခြင်းသို့ ရောက်တော်မူခဲ့ပါသည်။ ဓူတင်အကျင့်ပြည့်စုံစွာ အောင်မြင်ပြီး နောက် နှစ်,နှစ်မြောက်ရောက်သောအခါမှာလည်း အရှင် မဟာကဿပမထေရ်မြတ်ကြီး ပရိနိဗ္ဗာန်စံရာ ကဿပအလောင်းတော်မြတ်ရှိ ရာဒေသ ဝေဘာရတောင်ဌာနသို့ ပို့ ဆောင်ပေးမည့်သူ ပေါ်မလာသေးသဖြင့်

“ငါကသာ ဓူတင်(၁၃)ပါး ပြည့်စုံအောင်မြင်ပြီဟု ထင်မှတ်နေတာ၊ ငါ့ရဲ့ ကျင့်စဉ်တွေက မမှန်ကန်လို့ပဲလား၊ မပြည့်စုံသေးလို့လား၊ ခုအထိ အရှင် မဟာကဿပအလောင်းတော်မြတ်ရှိရာသို့ ပို့ဆောင်ပေးမည့်သူ မပေါ်သေးပါ လား”ဟု တွေးတောနေစဉ်မှာပင် (၄)နှစ်မြောက်သော ၁၃၅၃-ခုနှစ်၊ တပေါင်း လတွင် ဗိုလ်မှူးအုံးမြင့်၊ ဒေါ်အေးအေးကြင်မိသားစုတို့ က အရှင်မဟာကဿပ အလောင်းတော်မြတ်ရှိရာ ဝေဘာရတောင်သို့ကြွရောက်ရန် လာရောက် ပင့်ဆောင်ပါတော့သည်။ ထိုအခါ ဆရာတော်မှာ မိမိရဲ့ဓူတင်အကျင့်အဓိဋ္ဌာန် ချက် ပြည့်စုံခြင်း၊ အရှင်မဟာကဿပ အလောင်းတော်မြတ်အား ဖူးမြော်ဖို့ရန် အခွင့်ကြုံလာခြင်းတို့ကြောင့် အတိုင်းမသိဝမ်းမြောက်မိပြီး ယခုပင် မထေရ် မြတ်၏ အလောင်းတော်ကို ဖူးမြော်နေရသလို ခန္ဓာကိုယ် ရှပ်ခါတ်ပေါ့ပါး ဖျတ်လတ် မနေခါတ်ကြည်လင်စွာဖြင့် ဖူးမြော်သွားဖို့ရာ ပြင်ဆင်ပါတော့ သည်။

၁၃၅၃-ခုနှစ်၊ တပေါင်းလဆန်း(၁၁)ရက်နေ့တွင် ဆရာတော် ဘဒ္ဒန္တသေဠ အပါအဝင် စလူမြောင်တောရဆရာတော် ဗိုလ်မှူးအုံးမြင့်၊ ဗိုလ်မှူးကတော် ဒေါ်အေးအေးကြင်မိသားစု၊ ဦးလေး၊ အဒေါ်များဖြစ်ကြသော ဦးချွန်းယုံ၊ ဒေါ်ခင်ကျော့၊ သမီး မကြူကြူ၊ တူမ မထွေးရီ၊ မစန်းစန်းအေးတို့နှင့် သွားကြရာ တပေါင်းလဆန်း (၁၄)ရက်နေ့၊ ညနေ ၅ နာရီခန့်တွင် အလောင်းတော်စံရာ ဝေဘာရတောင်တော်သာသို့ ရောက်ပါသည်။ ရောက်၍ မကြာမြင့်မီမှာပင် စလူမြောင်ဆရာတော်သည် နေမဝင်မီအချိန်ရခိုင်အများနှင့် သွားလျှင် မိမိ၏ အဓိဋ္ဌာန်ပြုရာတွင် အနှောင့်အယှက်ဖြစ်မည်စိုး၍ တစ်ပါးတည်းပင် မျှော်မှန်း တမ်းတ အားခဲ့ထားခဲ့ရသော နောင်တော်မြတ်စံရာ လိုဏ်ဂူတော်သို့ သွားရောက်ဖူးမြော်ကာ ဂူဝမှာအာရုံပြုလျက် -

"နောင်တော်မြတ် အရှင်မဟာကဿပ မထေရ်မြတ်ဘုရား၊ ဘုရား တပည့်တော် သီလာစာရသည် ရဟန်း (၁၀) ဝါအရမှာ နောင်တော်ကြီး အရှင် မဟာကဿပမထေရ်မြတ်ကို စံထား၍ ဆရာတစ်ပါးအဖြစ် အာရုံယူပြီး ကူညီ ဖေးမ နည်းလမ်းပြတော်မူပါဘုရား" ဟု တပည့်ခံလျက် သီလကို လုံခြုံစွာဖြင့် ဓူတင်(၁၃)ပါးကို ကျင့်ဆောင်ခဲ့ပါသည်။ ဓူတင်ဆောင် အောင်မြင်ခြင်း သစ္စာ မိဋ္ဌာန်အရ တပည့်တော်သည် နောင်တော်ကြီးအား ဖူးမြော်ရန်ရောက်ရှိလာပါ ပြီ ဘုရား"ဟု ရိုသေစွာလျှောက်ထားလျက် ဓူတင် (၁၃)ပါးအား ရည်မှန်းကာ ငွေသား (၁၃)ကို ဂူဝရှိသဲပြင်တွင် မြှုပ်နှံ၍ လှူဒါန်းပြီး -

"ဘုရားတပည့်တော် လျှောက်ထားခဲ့သော မှန်ကန်သော သစ္စာစကား ကြောင့် နောင်တော်ကြီး၏ အလောင်း တော်အစစ်အမှန်ကို ဧကန်ပင် ဖူးတွေ့ရ ပါလို၏ဘုရား" ဟု သစ္စာပြုလိုက်သောအခါ ဆရာတော်၏စိတ်မနောမှာ ပီတိ ဇောဖြာလျက် အခါခါပင်ဖူးမဝ၊ ကြည်နူးလို့မဆုံး ပီတိအပြုံးတွေ တဝေဝေဖြင့် ငါသော် သေကသေပျော်လှပေါ့ဟု စိတ်တွင် ထင်မှတ်လိုက်ပါတော့သည်။ မပြန်ခင်အချိန်တွင် ထပ်ကာပင်ဖူးမဝဖြစ်ခဲ့ရပါတော့သည်။

ကဿပထေရ်အရှင် စံတော်မူရာ ဝေဘာရတောင်ကုန်းပေါ်၌ နှစ်စဉ် ပြုလုပ်သော ဆွမ်းဆန်စိမ်းလောင်းလှူပွဲနှင့် ကြုံ၍ပင့်သဖြင့် အလှူခံပြီး ရရှိ သော ဆန်များကို ထိုတောင်ပေါ် ၌သီတင်းသုံးသော သံဃာတော်များအား လှူဒါန်းခဲ့ပြီး နောင်တော်ကြီး အရှင်မဟာကဿပ၏ တန်ခိုးတော်ဖြင့် ဘေးရန် ကင်းကွာအေးချမ်းစွာ ရောက်ရှိဖူးမြော်ရသလို ခရီးလမ်းကြမ်းသော်လည်း ဘေးကင်းစွာ တပေါင်းလပြည့်နေ့တွင် ကဿပအရှင် စံရာမှ ပြန်ခဲ့ပါသည်။

ထို့နောက်တွင်ကား ဆရာတော်၏ စလူမြောင်တောရ ကျောင်းကလေးမှာ လူသူပရိသတ်တို့ဖြင့် ပျားပန်းခပ်စည်ကားခဲ့ပါတော့သည်။ ရံဖန်ရံခါ ပရိသတ်တစ်သောင်းလောက်ထိ စည်ကားများပြားခဲ့ကြောင်း သိရပါသည်။

ဆရာတော်သည် ဒကာ၊ ဒကာမများအပေါ် မေတ္တာ ကရုဏာတရားများရှေ့ထား၍ လာရောက်ကြသော ပရိသတ်တို့အား တစ်နေ့လျှင် (၄)ကြိမ်၊ (၅)ကြိမ်ထက်မနည်း အဖူးမြော်ခံ မေတ္တာဓာတ်ပို့ကာ မိမိ၏ ပင်ပန်းမှု တရားဘာဝနာပွားများခြင်း ပျက်ကွက်မှုတို့ကို မစာနမထားဘဲ ဩဝါဒပေး ဆိုဆုံးမခြင်းများပြုလုပ် ချီးမြှောက်ပေးနေရပါသည်။

ဆရာတော်သည် ရှေးဦးစွာ ငါးပါးသီလချီးမြှင့်ကာ ရတနာသုံးပါးတို့၏ ဂုဏ်တော်ကျေးဇူးတော်၊ ရုပ်နာမ်ခန္ဓာငါးပါး သဘောတရားတို့၏ ဖြစ်မှု၊ ပျက်မှု အနိစ္စသဘော လက္ခဏာ ရေးတရားများကို ဩဝါဒပေးဟောကြား တော်မူပြီး ဒကာ၊ ဒကာမများ ဘေးရန်ကင်းကွာ၍ ကောင်းကျိုးလိုရာဆန္ဒများ ပြည့်ဝစေရန် သစ္စာပြု၍ မေတ္တာဓာတ်များ ပို့လွှတ်ပေးလေသည်။ တစ်ခါသော် လူပရိသတ်များ ရောက်လာကြသည့်အခါ ဆရာတော်က "ဘာကိစ္စများရှိ၍ လာကြသလဲ"ဟု ပဋိသန္ထာရပြုပြီး မေးမြန်းသည်တွင် ဒကာ၊ ဒကာမများ မိမိတို့၏ အကြောင်းအားလျော်စွာသော အခက်အခဲများကို တင်ပြလျှောက်ထားပြီး -

"ဆရာတော်ဘုရား၊ တပည့်တော်မှာ အခက်အခဲလေးများရှိနေပါ၍ အောင်မြင်ကျော်လွှန်နိုင်ရန်အတွက် ဆရာတော်ဘုရားက မေတ္တာဓာတ်ဖြင့် တားဆီးကျော်လွှန်အောင် မြင်အောင် ပြုပေးတော်မူပါဘုရား" ဟု လျှောက်ထားရာ -

ဆရာတော် -

"ဒကာ၊ ဒကာမတို့ ဘုန်းဘုန်းဟာ ဗေဒင်လည်းမတွက်တတ်၊ ဓာတ်ရိုက်ဓာတ်ဆင်ယတြာတွင်လည်း နားမလည်၊ ဆေးဝါးမန္တရားအတတ်လည်း မသင်ဖူး၊ ရေမန်းဆီမန်းလည်း မကျွမ်းကျင်၊ ဘုန်းဘုန်းအနေနဲ့ကတော့ သစ္စာမေတ္တာဘာဝနာကိုသာ အားကိုးအားထားပွားများထားသည့်အတွက် သစ္စာပြုမေတ္တာပဲ ပို့ပေးစရာရှိပါတယ်"ဟု အမိန့်ရှိပြီး -

"ဘုန်းဘုန်းသည် တတ်သိနားလည်သည့် အရွယ်မှစ၍ ယနေ့ထိ မှန်ကန်သော ကာယကံ၊ ဝစီကံ၊ မနောကံ သစ္စာတရားနှင့် အများသတ္တဝါ ဝေနေယျတို့အပေါ် ကောင်းကျိုး ချမ်းသာကို လိုလားသော မေတ္တာဓာတ် အမြဲမပြတ်

ပွားများခဲ့ပါပြီ၊ ဤမှန်ကန်သော သစ္စာစကား၊ ခိုင်မြဲသော မေတ္တာဓာတ်တို့ကြောင့် ယခုလာရောက်ကြသည့် ဒကာ၊ ဒကာမတို့အသီး သီး ကိုယ်စီကိုယ်စီ စိတ်ဆင်းရဲနှင့် အခက်အခဲများရှိပါက (၇)ရက်အတွင်း အစစအရာရာ အခက်အခဲများ ပြေလည်ပြီး ကိုယ်စိတ်နှစ်ဖြာ ကျန်းမာချမ်းသာကြပါစေသတည်း"ဟု သစ္စာပြုမေတ္တာဓာတ်များ ပို့လွှတ်ပေးလိုက်ပါသည်။

ထိုသစ္စာစကားနှင့် မေတ္တာဓာတ်ခံယူသွားသော ဒကာ၊ ဒကာမတို့သည် အသီးသီး မိမိတို့၏ အခက်အခဲ ကိုယ်စိတ် ဆင်းရဲမှုတွေ ကင်းပျောက်သွားကြပါသည်။ ထိုသစ္စာစကား မေတ္တာဓာတ်တို့၏ အောင်မြင်မှုသတင်းကို တစ်ဆင့်စကား တဆင့်နားဖြင့် နေ့စဉ်လူပရိသတ်ဖြင့် မပြတ်ရှိနေပါသည်။

ဤသို့လျှင် ကျေးဇူးရှင် ဆရာတော်ဘုရားသည် သာသနာတော်မြတ်ကြီးအား သီးပွင့်ဝေဆာအောင် စွမ်းဆောင်တော်မူခဲ့ပါသည်။ တပည့်ဒကာဝေနေယျပရိသတ်တို့အား သာသနာ့အမွေကို အားပါးတရ ပေးဝေနိုင်ခဲ့ပါသည်။ စလူမြောင်တောရမှ မြတ်ဗုဒ္ဓအလင်းရောင်သည် ရိုးမတောင်ကြီးကို ကျော်ကာ ကမ္ဘာလောကအတွင်း ထွန်းလင်းတောက်ပခဲ့ပြီ ဖြစ်ပါသည်။

**'ဝန်ခံချက်'**

၁၉၉၄-ခုနှစ်ထုတ် ဘဒ္ဒန္တသေဋ္ဌိလ (သာသနာ့ဓဇ သိရိပဝရဓမ္မာစရိယ၊ ဒီဃဘာဏက) ရေးသားပြုစုသော ဆရာတော် ဘဒ္ဒန္တသီလာစာရ ထေရုပတ္တိ အကျဉ်းကို ထပ်ဆင့်ပူဇော်ပါသည်။

[၂၀၀၈ ခုနှစ် ဇွန်လနှင့် ဇူလိုင်လထုတ်
ဝိဇ္ဇာမဂ္ဂဇင်း အတွဲ(၁)၊ အမှတ်(၉)၊ အမှတ်(၁၀)]





ရခိုင်ပြည်နယ်၊ မင်းပြားမြို့နယ်မှ အရှင်အဂ္ဂဓမ္မ

# ရခိုင်ပြည်နယ်၊ မင်းပြားမြို့နယ်မှ
# အရှင်အာဂမမ္မ
## ၏ကမ်းတစ်ဖက်သို့ငြိမ်းအေးရာဆီ

[၁]

မကွေးသို့ တစ်ခေါက်ရောက်ခဲ့ပြန်ပြီ။

ယခင်နှစ်ကလည်း ဒီအချိန် မိုးဦး လေဦးမှာ မကွေးသို့ ရောက်ခဲ့သည်။ ပုပ္ပားအဓိဋ္ဌာန်ခရီးစဉ်တွင် မကွေးသို့ လှည့်ဝင်ခဲ့ခြင်းဖြစ်သည်။ မကွေးတက္ကသိုလ်မှာ ပညာသင်ကြားနေသော ကျွန်တော့်သားထံဝင်ပြီး အထုပ်အပိုးတွေချသည်။ ပြီးတော့ သားဆီက ဆိုင်ကယ်ငှားရသည်။ ကျွန်တော်က ဆိုင်ကယ်မစီးတတ်။ သို့သော် အတူပါလာသော ကိုမြတ်သူက ကျွမ်းကျွမ်းကျင်ကျင် စီးတတ်သည်။ ကိုမြတ်သူမှာ ကျွန်တော်နှင့်အတူ အဓိဋ္ဌာန်စခန်းအတော်များများကို ဖြတ်သန်းခဲ့သူ ဖြစ်သည်။

သား၏ ဆိုင်ကယ်ကလေးဖြင့် မကွေး မြသလွန်ဘုရားသို့ ဦးစွာရောက်ခဲ့ကြပြီး ဓမ္မပူဇာအားဖြင့် တဝကြီး ကန်တော့ခဲ့ကြသည်။ မြသလွန်ဘုရားပေါ်မှ လှမ်းမြင်ရသော ဧရာဝတီမြစ်ကမ်းတစ်လျှောက် ရှုခင်းများကလည်း သာယာပါပေ့သည်။ မကြာမီကမှ ဖွင့်လှစ်ခဲ့သော ဧရာဝတီမြစ်ကူးတံတားကြီးကလည်း ခန့်ခန့်ညားညား။ ဟိုဘက်ကမ်းမှ မင်းဘူးမြို့ကို ငေးရီရင်း ရှင်ပင်စက္ကိန်းတဲဘုရားစေတီကို လက်အုပ်ချီ ဖူးမြော်လိုက်မိသည်။

'ဆရာသွားချင်ရင် လိုက်ပို့မယ်လေ။ ဆိုက်ကယ်ရှိနေတာပဲ'

ကိုမြတ်သူက စကားစသည်။

ခရီးပန်းလာသည့်တိုင်အောင် ကျွန်တော်တို့မှာ လန်းလန်းဆန်းဆန်း ရှိနေဆဲ။

'ကောင်းသားပဲ. . . ငါလည်း ဘုရားဖူးချင်နေတာနဲ့ အတော်ပဲ'

ဤသို့ဖြင့် ကျွန်တော်တို့သည် ဧရာဝတီမြစ်ကူးတံတားကြီးကို ဖြတ်ကာ မင်းဘူးသို့ ရောက်သွားခဲ့သည်။

'ရွှေစက်တော်သို့'ဟူသော လမ်းညွှန်ဆိုင်းဘုတ်ကို တွေ့လိုက်ရသောအခါ 'ဆရာသွားချင်ရင် အားမနာနဲ့နော်။ ဆီထပ်ဖြည့်ပြီး ကျွန်တော် မြန်မြန်မောင်းပေးမယ်' ဟု ကိုမြတ်သူက အဖော်ညှိနေပြန်သည်။ သွားတာကတော့ သွားချင်နေသည်။ ရွှေစက်တော်မှာလည်း သုံးလေးကြိမ် အဓိဋ္ဌာန်ဝင်ခဲ့ဖူးသည်မဟုတ်လား။ သို့သော် ယခု အချိန်မရတော့။ ပုပ္ပားသို့ ဒီညရောက်အောင်သွားရမည်။ သို့ဖြင့် ရှင်ပင်စက္ကိန်းတဲဘုရားသို့သာ ဦးတည်လိုက်ရတော့၏။

ဘုရားကုန်းမြေ အခြေမှစ၍ သာသနာ့အလံတွေ တလူလူစိုက်ထူလွှင့်တင်ထားသည်။ လမ်းဘေးဝဲယာမှာ ရာဇမတ်ကွက်တွေ ကာရံထားသည်။ ငှက်ပျောရွက်ကြီးတွေ တဖားဖား၊ အုန်းညွန့်တွေ တဝေဝေနှင့် ပဒေသာပင်တွေ ပေါက်နေသလို ရှိတော့သည်။

'တစ်ခုခုတော့ ထူးနေပြီထင်ပါတယ် ဆရာရယ်'

တကယ်ပင် ထူးနေပါသည်။ ဘုရားကုန်းပေါ်သို့ ရောက်သောအခါ မနက်ဖြန် ဘုရားထီးတင်ပွဲရှိကြောင်း၊ ယနေ့ ကြိုတင်ပြင်ဆင်နေကြောင်း သိရသည်။

'ကဲ. . . ဘုရားဖူးချင်စိတ် တစ်ခုတည်းနဲ့ ဘုမသိ ဘမသိ လာခဲ့တာ၊ အခု ထီးတင်ပွဲနဲ့ တိုးနေပြီ။ ဒီဘုရားနဲ့ ငါတို့နဲ့ ဘယ်လောက် ပဋ္ဌာန်းဆက်ကြီးသလဲ'

ဘုရားကုန်းပေါ်မှာ တရုန်းရုန်းနှင့် သွားလာလှုပ်ရှား စည်ကားနေသည်။ ရင်ပြင်တော်မှာ သစ်လွင်သန့်ရှင်းနေသည်။ မဏ္ဍပ်ကြီးထဲမှာ မနက်ဖြန် တင်လှူမည့် ထီးတော်ကြီးကို အပူဇော်ခံထားရှိသည်။ ထီးတော်ကြီးကို ဖူးမြော်ပြီးနောက် ဘုရားစေတီ၏ အထက်ပစ္စယံသို့ တက်ခဲ့သည်။ အထက်ပစ္စယံ၏ အတွင်းလိုဏ်မုခ်ထဲ ဝင်ပြီး ကျွန်တော်တို့ တရားထိုင်ကြသည်။ ထီးတော်တင်ပွဲကြီး အောင်မြင်ပါစေကြောင်း ဆုတောင်းမေတ္တာ ပို့သ အမျှဝေခဲ့ကြပါသည်။

ကျွန်တော်တို့ မင်းဘူးက ပြန်လာတော့ ထမင်းဆာလှပြီ။ မကွေးမြသလွန်ဘုရားအနီးက ထမင်းသုပ်ဆိုင်ကလေးမှာ ဝမ်းဖြည့်နားနေစဉ်မှာ-

'ဆရာ. . . အချိန်ရသေးလား' လို့ ကိုမြတ်သူက စကားစပါတယ်။ တစ်နေရာရာကို သွားချင်နေမှန်း သိသာလှပါတယ်။ ကျွန်တော်က 'ပုပ္ပားကို ညဦးပိုင်းလောက် ရောက်ချင်တယ်။ အကျိုးရှိမယ့်နေရာဆိုရင် သွားပါ' လို့ တိုက်တွန်းလိုက်ပါတယ်။

'ဒီကနေ သိပ်မဝေးတော့ဘူး ဆရာရဲ့။ ဆင်တောင်တောရဆိုတာ ရှိတယ်။ မိုးကုတ်ဝိပဿနာရိပ်သာခွဲတစ်ခုပါပဲ။ ကျွန်တော် အဲဒီမှာ တစ်လကျော်လောက် တရားစခန်းဝင်ခဲ့ဖူးတယ်။ ဆရာတော် ဦးဆန်းလွင် (အရှင်အာဒိစ္စရံသီ) က ဆင်တောင်တောရဆရာတော်ကြီးရဲ့ ခွင့်ပြုချက်နဲ့ ဒီမှာ တရားပြဆရာ လုပ်သွားတုန်းကပေါ့။ ဆင်တောင်တောရက ယောဂီတွေအတွက် ဆွမ်းဖိုး အလှူငွေ သွားထည့်ချင်တယ်'

'ကောင်းသားပဲ၊ အခုပဲ သွားကြစို့'

နေပူကျဲကျဲအောက်တွင် ကုန်းဆင်းကုန်းတက်ကလေးများကို ကျော်ဖြတ်၍ ဆင်တောင်တောရသို့ ရောက်ခဲ့ပါသည်။ ရောဝတီမြစ်ကမ်းထိပ်တောင် ကုန်းမို့မို့လေးပေါ်က တောတန်းကလေးကြားမှာ ဆင်တောင်တောရသည် မွေ့လျော်ဖွယ်ကောင်းလှပါတော့သည်။

ကျွန်တော်တို့ ရောက်သွားချိန်တွင် ဦးပဥ္စင်းနှစ်ပါးကို အသင့်ဖူးတွေ့ရပါသည်။ အသားညိုညိုနှင့် ဦးပဥ္စင်းက-

'ဟာ. . . ကိုမြတ်သူပါလား။ အခုမှ ပေါ်လာတော့တယ်။ ဆရာတော်ကြီးကတော့ မိတ္ထီလာမှာ တရားသွားပြနေတယ်' ဟု ပဋိသန္ထာရ ပြုပါသည်။ ကိုမြတ်သူလည်း လာရင်းကိစ္စကို လျှောက်ထားပြီး ရေနွေးအိုး လာချသော ကပ္ပိယကြီးထံ အလှူငွေများ ပေးအပ်ပါသည်။

'အရှင်ဘုရားတို့ တရားအားထုတ်တဲ့ဘက်မှာ ထူးခြားတိုးတက်မှု ရှိပါသလားဘုရား' ဟု ကိုမြတ်သူက လျှောက်ထားလေသည်။ ထိုစဉ် မျက်မှန်နှင့် ဦးပဥ္စင်းသည် အနားမှာ ချထားသော သပိတ်ကို ကောက်လွယ်လျက် အခန်းထဲမှ ညင်သာစွာ ထွက်ကြွသွားတော်မူလေသည်။ ကျန်ခဲ့သော အသားညိုညို ဦးပဥ္စင်းက-

'ဦးပဥ္စင်းအနေနဲ့ကတော့ ပုံမှန်မျှသာပါပဲ။ အခုန ဦးပဥ္စင်းကတော့ ထူးခြားနေပြီလို့ ဆိုရမယ်။ တရားနဲ့ပတ်သက်ပြီး အတော်ပြည့်ပြည့်စုံစုံ ပြောပြနိုင်ပါတယ်' ဟု ရိုးသားစွာ ဝန်ခံရင်း သီတင်းသုံးဖော်အား မုဒိတာပွားလိုက်ပုံမှာ လွန်စွာကြည်ညိုစရာကောင်းလှပါတော့တယ်။

'တပည့်တော် အားထုတ်နေစဉ်က အဲဒီ ဦးပဥ္စင်းကို မတွေ့မိပါဘုရား။ အာဂန္တုပဲ ထင်ပါတယ်'

'ဟုတ်တယ် ဒကာကြီး. . . ဒီ ဦးပဥ္စင်း မန္တလေးက ကြွလာတာ သိပ်မကြာသေးဘူး။ ဇာတိကတော့ ရခိုင်ပြည်နယ်ကပါ။ တောထွက်ကိုယ်တော်ပဲ။ အတော်ကျင့်ခဲ့ပုံရပါတယ်။ တရားသားက အတော်ကောင်းနေပြီ ဒကာကြီး'

ဦးပဥ္စင်းက ထပ်မံညွှန်းဆိုနေလေရာ ကျွန်တော်တို့ စိတ်ဝင်စားသွားပါသည်။

'အခု ဒီဦးပဥ္စင်းက ဘယ်ကြွသွားတာလဲ ဘုရား'

'ဟိုး. . . မြစ်ကမ်းနဖူးမှာ သီးခြား တစ်ပါးစံကျောင်းတစ်ဆောင် ရှိတယ်။ ဒီကိုယ်တော်က အဲဒီမှာ တစ်ပါးတည်း သီတင်းသုံး အားထုတ်နေတာ'

'ဒါဖြင့် တပည့်တော်တို့ကို ခွင့်ပြုပါဘုရား။ အဲဒီဆရာတော်ဆီမှာ တရားနာချင်ပါတယ်'

ဆင်တောင်တောရအတွင်း ကုန်းဆင်းကုန်းတက်ကလေးများအတိုင်း နိမ့်ချည်မြင့်ချည်ဖြင့် အတန်ငယ်သွားမိသောအခါ တစ်ပါးစံကျောင်းကလေးသို့ ရောက်သွားခဲ့ပြီး အာဂန္တုရဟန်းတော်ကို အသင့်ပင် ဖူးတွေ့ခွင့်ရပါတော့သည်။ ရဟန်းတော်မှာ အသားညိုညို၊ ပိန်ပိန်ပါးပါးနှင့် ပကတိ တည်ကြည်အေးချမ်းသောအသွင်ကို ဆောင်ထားပါသည်။ ကျွန်တော်တို့သည် ရိုသေစွာ ဦးချကန်တော့လိုက်ပြီးနောက် ကျွန်တော်တို့ကိုယ်ကျွန်တော်တို့ မိတ်ဆက်လိုက်ပါသည်။

'ဩော်. . . ဒကာကြီး မောင်သွေးချွန်ကိုး။ ဒကာကြီးရေးတဲ့ တရားစာအုပ်တစ်အုပ် မန္တလေးက တရားစခန်းတစ်ခုမှာ ဖတ်ခဲ့ရပါသေးတယ်။ တရားဓမ္မကို စိတ်ဝင်စားတာ ကောင်းပါတယ် ဒကာကြီး'

ရဟန်းတော်က ရခိုင်သံဝဲဝဲဖြင့် အမိန့်ရှိပါသည်။

'အရှင်ဘုရား. . လူဝတ်ကြောင် အိုးအိမ်ထောင်ကို စွန့်ပြီး သာသနာ့ဘောင်ကို ကူးပြောင်းအားထုတ်ခဲ့ကြောင်း သိရပါတယ်ဘုရား။ ဘယ်လိုအကြောင်းတရားတွေကြောင့် တရားဓမ္မဘက် ရောက်ခဲ့တယ်ဆိုတာ အမိန့်ရှိပါဘုရား။ ဘဝထဲမှာ တရားဓမ္မ ရှာခဲ့ပုံကို သိချင်ပါတယ်ဘုရား'

ရဟန်းတော်က ကြွန္ဒြေရရဖြင့် ဘဝထဲက သံဝေဂသည် ဓမ္မလမ်းပေါ်သို့ ရောက်စေခဲ့ကြောင်း အမိန့်ရှိပါသည်။

'ဦးပဥ္စင်းက ဘဝမျိုးစုံ ကျင်လည်ခဲ့ဖူးပါတယ်။ ဝန်ထမ်းလည်း လုပ်ခဲ့

ဖူးတယ်။ စီးပွားရေးလုပ်တော့လည်း အဆင်ပြေတယ်။ ဆန်စက်ထောင်ထားတယ်။ လုပ်ငန်းရှင်ကလေးဆိုတော့ လူတန်းစားမျိုးစုံနဲ့ ဆက်ဆံရတယ်။ လူမှုဆက်ဆံရေးနယ်ပယ်မှာ အရက်က ပါလာတယ်။ တဖြည်းဖြည်းနဲ့ အရက်ကြိုက်တဲ့အဆင့်ကနေ အရက်စွဲတဲ့ဘဝ ရောက်သွားတယ်။ မိန်းမက ဆန်စက်ကို ဦးစီးပြီးလုပ်နိုင်တော့ စီးပွားရေးကတော့ မယုတ်လျော့ပါဘူး။ ဒါပေမဲ့ အရက်ကြောင့်ပဲ ကျန်းမာရေး ဆုတ်ယုတ်လာလိုက်တာ သေကောင်ပေါင်းလဲနဲ့ အိပ်ရာထဲ လဲတော့တာပဲ။ တကယ့်ကို သေလုမျောပါး ခံစားနေရချိန်မှာ အကြီးအကျယ် ထိတ်လန့်လာတယ်။

ငါ. . . ဒီအချိန်သေသွားရင် ဘာဖြစ်မလဲ။ စီးပွားရေးကောင်းသလောက် ကုသိုလ်ကောင်းမှုရယ်လို့ မယ်မယ်ရရ မလုပ်ရသေးပါဘူး။ အနေကောင်းခဲ့ပေမယ့် အသေမကောင်းနိုင်ပါလား။ ကောင်းရာသုဂတိကို မရောက်နိုင်မှန်းသိတော့ ထိတ်လန့်လာတယ်။ ဒါနဲ့ အရက်ဖြတ်တယ်။ ကွမ်း၊ ဆေးလိပ်တွေလည်း ဖြတ်တယ်။ အရက်၊ ကွမ်း၊ ဆေးလိပ် တစ်ခုခု ချဉ်ခြင်းတပ်လာရင် ရေနွေးကြမ်းလေးငုံငုံပြီး ထွေးပစ်လိုက်တယ်။ အရက်ဖြတ်ပြီးတာနဲ့ တရားအားထုတ်မှပဲ၊ ဝိပဿနာကျင့်မှပဲဆိုတဲ့အသိ ဝင်လာတယ်။ ကိုယ်က သေအံ့မူးမူးဆိုတော့ အသေကောင်းဖို့လိုတယ်။ ဝိပဿနာဆိုတာ သေနည်းသင်တန်းပဲမဟုတ်လား။ ဒါပေမဲ့ တရားထိုင်နည်းကအစ မသိဘူး။ ကြားဖူးနားဝပဲ ရှိခဲ့တာ။

အဲဒီတော့ ဦးပဥ္စင်းရဲ့ လက်ဦးဆရာက ဘယ်သူလဲဆိုတော့ ဦးပဥ္စင်းရဲ့အမေပဲ။ အမေက တရားထိုင်နည်း ပြပေးတယ်။ မွေးကျေးဇူး၊ ကျွေးကျေးဇူး အပြင် တရားပေးတဲ့ကျေးဇူးတွေ ဘယ်လိုဆပ်ဆပ် မကုန်နိုင်တော့ဘူး။ ဒါပေမဲ့ ဦးပဥ္စင်းမှာ တရားထိုင်လို့ မကောင်းခဲ့ဘူး။ ထိုင်ပြီးကျင့်တိုင်း ငါးမိနစ်ထက်ပိုထိုင်လို့ မရခဲ့ဘူး။ အတော်ဒုက္ခကြီးတယ်။ ဒါနဲ့ လမ်းလျှောက်ပြီး လုပ်ကြည့်တယ်။ စင်္ကြံကမ္မဋ္ဌာန်းလို့ ခေါ်မယ်ထင်တယ်။ နည်းစနစ်ရယ်လို့တော့ ဘာမှ အတိအကျ မသိပါဘူး။ ထိုင်မှတ်တာနဲ့စာရင် လမ်းလျှောက်ပြီး တရားမှတ်တာ ကောင်းနေသလိုပဲ။

ဒီလို လမ်းလျှောက်ပြီးမှတ်ရာမှာလည်း စိတ်လမ်းကြောင်းကို မတည့်သေးတော့ (ဝါ) စိတ်မငြိမ်သေးတော့ ခြေလှမ်းတွေက ဘေးချော်ထွက်နေတယ်။ ဒါကြောင့် ဒီကိုယ်ခန္ဓာကြီးကို ထိန်းကျောင်းတဲ့အနေနဲ့ တုတ်နှစ်ချောင်းကို ထောက်ပြီး လျှောက်တယ်။ ဆန်စက်ဝင်းထဲက ၇၅ ပေရှည်တဲ့ လမ်းကြောင်းအတိုင်း လျှောက်တယ်၊ ကျင့်တယ်။ အလေ့အကျင့် ရလာတော့ စိတ်တည်

ငြိမ်လာတယ်။ အာရုံတွေဆီ မသွားတော့ဘူး။ စိတ်ဟာ တခဲနက် စုစည်းမိလာတယ်။ ကျန်းမာရေးလည်း ကောင်းလာတယ်။ စိတ်တန်ခိုး၊ စိတ်သတ္တိဆိုတာကို သဘောပေါက်လာတယ်။ ဒါနဲ့ ရဟန်းပညာရှိ၊ လူပညာရှိတွေဆီမှာလည်း တရားရှုမှတ်နည်းကို မေးမြန်းလေ့လာရတယ်။ ကိုယ်တိုင်အားထုတ်ဖူးသူတွေ လမ်းညွှန်တာကတော့ 'ဘာလုပ်လုပ် သိနေရမယ်'တဲ့။ ဒါဟာ သတိပဋ္ဌာန် ဝိပဿနာတရားရဲ့ လိုရင်းအချုပ် ဖြစ်ပါတယ်။ ဘာလုပ်လုပ်ဆိုတော့ ကာယကံ၊ ဝစီကံ၊ မနောကံ အားလုံး ပါသွားတယ်။ စာလိုပြောတော့ သမ္မဇညပဗ္ဗပေါ့။

ဘာလုပ်လုပ် သိနေရမယ်ဆိုတော့ ဥပမာ- စားတာကအစ အသိနဲ့၊ အမှတ်နဲ့ စားရတယ်။ စားကောင်းသောက်ဖွယ်တွေအပေါ်မှာ လောဘစိတ်ဘယ်လိုဖြစ်လာတယ်ဆိုတာကအစ ဟင်းတွေ ထမင်းပန်းကန်ထဲ ကော်ခပ်ထည့်လိုက်ပုံ၊ နယ်ဖတ်ပြီး ပါးစပ်ထဲထည့်လိုက်ပုံ၊ အရသာအပေါ်မှာ သာယာသွားပုံ၊ သွားတွေက ဝါးနေပုံ၊ မျိုလိုက်ပုံ. . . တရားတွေချည်းပါလား။ လှုပ်ရှားမှုတစ်ခါလှုပ် တစ်ခါသိ။ ဒီတော့ ဦးပဥ္စင်း လူဝတ်နဲ့ ဒီလို စားရင်းလည်း မှတ်သိလာတာ။ ထမင်းတစ်ခါစားရင် တစ်နာရီ၊ နှစ်နာရီ အဲဒီလောက်အထိ ကြာသွားတတ်တယ်။ ဒါကြောင့် တစ်ယောက်တည်းပဲ စားတယ်။ အခန်းတံခါးပိတ်ပြီး စားတယ်။ ကိုယ်က သိအောင်မှတ်ပြီး စားနေတော့ သူများမြင်ရင် အရူးလို့ ထင်သွားမှာကိုး။ တခြားကိစ္စတွေမှာလည်း ဒီလိုပဲ. . . မှတ်သိပြီးတော့ လုပ်တယ်။

နေ့စဉ်နေ့တိုင်း အသိနဲ့၊ အမှတ်နဲ့နေတော့ ဘာစကားမှလည်း အထူးပြောစရာမလိုတော့ပါဘူး။ မိန်းမကလည်း လုပ်ငန်းတွေ သူ့ဟာသူ ဦးစီးလုပ်ကိုင်တတ်နေပြီပဲ။ ဘာမှ ဝင်ပြောစရာ မလိုတော့ဘူး။ သားသမီးတွေလည်း ရှိပါတယ်။ သူတို့အမေပဲ စီမံထိန်းကျောင်းပေါ့။ သားအကြီးက ကျော်ထွန်းဦး၊ သမီးအလတ်က ရွှေစင်ဦး၊ သမီးအငယ်က ရွှေစင်မွန်။ ဦးပဥ္စင်း လူဝတ်ကြောင်နဲ့ တရား စကျင့်တာ အသက် ၃၉ နှစ်က စကျင့်ခဲ့တာပါ။ ဦးပဥ္စင်း မွေးတာက ပေါက်တောမြို့နယ်၊ ကြီးတာက မင်းပြားမြို့နယ်မှာ။ လူနာမည်က သာထွန်းစံ၊ ကိုးတန်းအောင်တဲ့အထိ ပညာသင်ခဲ့ဖူးပါတယ်။ ဇနီးကတော့ ပြည်၊ ဖိုးကုန်းဘက်က. . .။

အဲဒီတော့ အသက် ၃၉ နှစ်က စပြီးကျင့်လာလိုက်တာ နှစ်နှစ်နဲ့ နှစ်ရက်ကြာပါတယ်။ လုံးဝ အပြင်မထွက်တော့ဘူး။ မြင်းရိုင်းတစ်ကောင်လို ထိန်းရ

ခက်တဲ့စိတ်ကို ပိုင်ပိုင်နိုင်နိုင် ထိန်းနိုင်ခဲ့ပြီ။ စိတ်ကို ထားလိုရာမှာ ထားလို့ ရတဲ့အဆင့်ကို ရောက်ခဲ့ပြီ။ အဲဒီမှာ ပြဿနာက လူ့ဝတ်နဲ့ မနေချင်တော့ တာပဲ။ သာသနာ့ဘောင် တက်ပြီး ရဟန်းဝတ်နဲ့ နေချင်လာတယ်။ ရဟန်း ဝတ်နိုင်ပါ့မလားလို့ ကိုယ့်ကိုယ်ကိုယ် ပြန်မေးကြည့်တော့ ပထမ နည်းနည်း တုန်လှုပ်ချင်တယ်။ ဒီလိုနဲ့ အားထုတ်ရင်း စိတ်ဓာတ်ခွန်အားတွေ ပုံမှန်မွေးဖွား လာတော့ မတုန်လှုပ်တော့ဘူး။ တစ်ခုပဲ. . . ရဟန်းများ ရှိသေစွာကျင့်သုံး အပ်တဲ့ ဝိနည်းနဲ့အညီ နေနိုင်ပါ့မလား။ တရားနဲ့နေရင် ဝိနည်းနဲ့အညီ နေနိုင် တယ်ဆိုတဲ့အဖြေ ထွက်လာတယ်။ ဒီတော့ ရဟန်းဝတ်ဖို့ သေချာသွားပြီ။ ဒီတော့ သက်ဆိုင်သူဆီမှာ ခွင့်တောင်းရတာပေါ့။

မိန်းမက ငယ်သေးတာပဲ။ ၃၄ နှစ်ပဲ ရှိသေးတယ်။ ဘယ်ခွင့်ပြုမလဲ။ အကြီးအကျယ် တားမြစ်တော့တာပေါ့။ ဒီကလည်း လူ့ဝတ်ကြောင်နဲ့ တစ်မိနစ်၊ တစ်စက္ကန့်မှ မနေချင်တော့ဘူး။ ဘယ်လိုမှ တားလို့မရမှန်းသိတော့ မိန်းမက တစ်ခု ခွင့်တောင်းတယ်။ ဘာလဲဆိုတော့ သူ့ကို ရဟန်းဒါယိကာမအဖြစ် ခွင့်ပြုပါတဲ့။ ဒါယိကာမကြီးရေ. . . သာဓု. . . သာဓု. . . သာဓု. . . အိမ်ထောင်သည်ဘဝတစ်လျှောက်လုံးမှာ သူ့ဘက်က ဘာချွတ်ယွင်းချက်မှ မရှိခဲ့ပါဘူး။

ဒီလိုနဲ့ အသက် (၄၁) နှစ်မှာ မြင့်မြတ်တဲ့ ရဟန်းဘဝ ရခဲ့ပါတယ်။ ဘွဲ့တော် ဦးအဂ္ဂဓမ္မပါ။ အားထုတ်တဲ့အပိုင်းမှာတော့ မဟာစည်ဆရာတော် ဘုရားကြီးရဲ့ အလုပ်ပေးတရားထဲက သမ္ပဇဉ္ဉပဗ္ဗပိုင်းကို ယူပါတယ်။ အမူအရာတိုင်းကို မှတ်နေ၊ သိနေရတာပါ။ စင်္ကြံလျှောက်တော့ ခြေထောက် ကြွတာ၊ ကြွတာနဲ့ သိတာ၊ ခြေလှမ်းမယ်ဆိုပြီး ဆွဲလိုက်တာ၊ ဆွဲတာနဲ့ သိတာ၊ ဆွဲပြီးတော့ လှမ်းလိုက်တာ၊ လှမ်းတာနဲ့ သိတာ၊ ပြီးတော့ မြေပေါ် ခြေထောက် ချလိုက်တာ၊ ချတာနဲ့ သိတာ၊ အဲဒီလို ကြွ, ဆွဲ, လှမ်း, ချ နောက်မှာ အသိက ကပ်ပါနေတယ်။ လှုပ်ရှားတုန်ခါမှု၊ နာကျင်မှု တစ်ခုခုရှိရင် အဲဒီနေရာ စိုက် ကြည့်တဲ့အကျင့် ရလာတယ်။ ဝေဒနာထင်ရှားရာ စိတ်ရောက်သွားတယ်'

ဆရာတော် ဦးအဂ္ဂဓမ္မသည် တည်ငြိမ်အေးဆေးစွာဖြင့် ဓမ္မအတွေ့အကြုံ များကို မိန့်ကြားနေပါသည်။ ကျွန်တော် တစ်ခွန်း၊ နှစ်ခွန်း ဖြတ်မေးသမျှ ကိုလည်း စိတ်ရှည်ရှည် ဖြေကြားပေးပါသည်။ အမှန်စင်စစ်တော့ ကျွန်တော် တို့သည် ညကလည်း မအိပ်ခဲ့ရ၊ မကွေးရောက်ပြီး တစ်မနက်လုံးလည်း ကျောမဆန့်ရ၊ အနားမယူရ။ မင်းဘူး ရှင်ပင်စက္ကိန်းတဲဘုရားကြီးကိုလည်း

သွားဖူးလိုက်သေးသည်။ အတော်ပင်ပန်းနေပေပြီ။ သို့သော် ဆရာတော် ဦးအဂ္ဂဓမ္မ၏ တရားများကြောင့် ငိုက်မျဉ်းခြင်းမရှိ၊ လန်းဆန်းနိုးကြား၍ပင် လာခဲ့သည်။

'ဦးပဥ္စင်းတို့ ရခိုင်ဒေသက မိုးသိပ်များတယ်။ ဦးပဥ္စင်းရဲ့ ရောဂါအခံနဲ့ မတည့်ဘူး။ ပူအိုက်ခြောက်သွေ့တဲ့ ဒေသတွေမှာ ဦးပဥ္စင်း တရားအားထုတ်လို့ ကောင်းတယ်။ ဒါကြောင့် မန္တလေးဘက်ရောက်၊ အဲဒီကနေ ယခု မကွေး ရောက်လာတာပေါ့လေ'

'ရခိုင်ကို မပြန်တော့ဘူးလား ဘုရား'

'ပြန်ရတော့မယ် ဒကာကြီး။ ဦးပဥ္စင်းကို သူတို့ တွေ့သွားပြီ။ လာပင့်နေကြပြီ။ ပြန်လာပါ့မယ်လို့လည်း ပြောလိုက်ပြီ'

ဆရာတော် ရခိုင်ပြန်ကြွမည်ဆိုတော့ ရုတ်တရက် ဟာတာတာဖြစ်သွားသည်။ နောက်ဖူးရဖို့ မလွယ်တော့၊ တရားထူးရှာပုံများကို နာကြားမှတ်သားချင်သေးသည်။ သည်နေ့အဖို့မှာ ကျွန်တော်တို့ ပုပ္ပားကို ကူးရဦးမည်။

'အရှင်ဘုရား. . . လိုအပ်တာရှိရင် အမိန့်ရှိပါဘုရား'

သဒ္ဓါတရား ထက်သန်စွာ လျှောက်ထားမိသည်။

'ဘာမှမလိုအောင် လုပ်ထားပြီးပါပြီ ဒကာကြီး၊ မလိုတော့ပါဘူး'

ဆရာတော်က ညင်သာစွာ မိန့်ကြားလိုက်သော်လည်း ကျွန်တော့်ရင်ထဲမှာ ဒိန်းခနဲ မြည်သွားသည်။ ကျွန်တော့်ရင်ထဲက တရားပွဲတင်သံအား တစ်ယောက်ယောက်ကို ပြောချင်နေသည်။ အထူးသဖြင့် မကွေးက ဓမ္မမိတ်ဆွေများကို ပြောခဲ့ချင်သည်။ ဆရာတော် ရခိုင်သို့ ပြန်မကြွမီ အချိန်မီ ဖူးလိုက်ကြစေချင်သည်။ တရားနာလိုက်ကြစေချင်သည်။ တရားတော်များကိုလည်း အသံဖမ်းမှတ်တမ်းတင် ထားစေချင်သည်။

'ဆရာ. . . အာရှရောင်းဝယ်ရေးက ဦးခင်မောင်သက်ကို ပြောခဲ့ပါလား'

'အေး. . . ဟုတ်တယ်၊ သိန်းလှ ရောင်းဝယ်ရေးက ဦးကျော်ကျော်လည်း ရှိတယ်။ သူတို့နှစ်ယောက်လုံးကို သတိရပါတယ်။ သူတို့က တရားသမားတွေပဲ။ ဒါပေမဲ့ အခု ပြောလိုက်ရင် တို့ ခရီးဆက်ခွင့်ရမှာ မဟုတ်ဘူး။ တားထားကြမှာ။ ပုပ္ပားကို ဒီည ရောက်အောင်သွားရမှာ။ ပုပ္ပားရောက်ပြီးမှ ဖုန်းဆက်ပြီးတော့ပဲဖြစ်ဖြစ် အကြောင်းကြားလိုက်တာပေါ့ကွာ'

ဤသို့ဖြင့် ကျွန်တော်နှင့် ကိုမြတ်သူသည် ဆရာတော်ကို ကြည်ညိုလှစွာ ကန်တော့ခဲ့၍ ပုပ္ပားသို့ ခရီးဆက်ခဲ့ကြပါတော့သည်။ ပုပ္ပားကအပြန် ရန်ကုန်

ပြန်ရောက်ပြီးမှ ကိုမြတ်သူက ဦးခင်မောင်သက်ထံ ဆရာတော့်သတင်းကို အကြောင်းကြားလိုက်ပါသည်။ ဦးခင်မောင်သက်လည်း လူကြီး၀,သလောက် တရားနှင့်ပတ်သက်လာလျှင် ပေါ့ပါးဖျတ်လတ်ပါပေသည်။ သိပ်မကြာခင်မှာ ဦးခင်မောင်သက်က ကျွန်တော်ထံ ဖုန်းဆက်ပါတော့သည်။

'ဆရာသွေး. . . ရခိုင်ဆရာတော် ဦးအဂ္ဂဓမ္မဆီက တရားနာရတာ ကျေးဇူးတင်တယ်။ ဖြစ်နိုင်ရင် ဆရာတော်ကို ရခိုင်ပြန်မကြွစေချင်တော့ဘူး။ မကွေးမှာပဲ သီတင်းသုံးစေချင်တော့တယ်။ ဆရာသွေးတို့ လာခဲ့ဦးလေ'

'ဟုတ်ကဲ့. . . ကြိုးစားပါ့မယ်'

သို့သော် ခရီးတစ်ခေါက် ထွက်ဖို့ဆိုတာ သိပ်မလွယ်လှပါ။ ကျွန်တော့်မှာ ၀င်ငွေနည်းသော စာရေးဆရာ၊ စာပေနှင့် တရားပဲ ရှိသည်။ တရားနှင့်စာပေ အတွက်ပဲ ခရီးထွက်နေရလေ့ရှိသည်။ ဆရာတော် ဦးအဂ္ဂဓမ္မ၏ တရားများကို ဆက်၍ နာကြားချင်နေသည်။ ခရီးတစ်ခုမှ ပြန်ရောက်ပြီးစအချိန်မှာ နောက်ထပ်ခရီးစဉ်တစ်ခုအတွက် အတော်ခက်နေသည်။ ဒီမှာ အလုပ်ကြွေးတွေ ဆပ်နေရသည်။

အချိန်၊ ငွေကြေး၊ မိသားစုဘ၀ ဘာမှ လုံလောက်ခြင်းမရှိပါတကား။

'ဘာမှမလိုအောင် လုပ်ထားပြီးပြီ ဒကာကြီး' ဟူသော ဆရာတော် ဦးအဂ္ဂဓမ္မ၏ တရားသံသည် နှလုံးခုန်သံနှင့်အတူ ပဲ့တင်နေလျက်. . .။

[၂]

၂၀၀၄ ခုနှစ် (၁၃၆၆ ခုနှစ်)။

၀ါမ၀င်မီ တစ်လခန့်အလိုတွင် ဆရာတော် ဦးအဂ္ဂဓမ္မသည် ရခိုင်ပြည်နယ်မှ မကွေးမြို့နယ်သို့ နောက်တစ်ကြိမ် ပြန်ကြွတော်မူလာသည်။ မကွေးမြို့မှ ဦးခင်မောင်သက်နှင့် ဓမ္မမိတ်ဆွေများ၏ ပင့်လျှောက်ချက်အရ တစ်လခန့် သီတင်းသုံးရန် ကြွတော်မူလာခြင်းဖြစ်သည်။ သည်တစ်ကြိမ်တွင် ယခင် သီတင်းသုံးခဲ့သော ဆင်တောင်တောရသို့ မကြွတော့။ ရှေးက သူတော်ကောင်းများ တရားအားထုတ်ခဲ့ဖူးသောနေရာ 'သပြေစမ်း' တောရမှာ သီတင်းသုံးပါသည်။ ဆရာတော်ကြွလာလျှင် ကြွလာချင်း ဦးခင်မောင်သက် ကျွန်တော့်ထံ ဖုန်းဆက်သည်။ သို့သော် ကျွန်တော့်မှာ စိတ်သွားတိုင်း ကိုယ်မပါနိုင်။ ညဉ့်နက်သန်းခေါင်တိုင်အောင် အလုပ်တာ၀န်တွေ ပိနေသည်။

'လောလောဆယ် ကျွန်တော် မလာနိုင်သေးပါဘူးဗျာ'

'ဒါဖြင့် ဆရာသွေး မေးလျှောက်ချင်တာလေးတွေ ကျွန်တော့်ကို ပြောဗျာ။ ကျွန်တော် တိပ်ခွေနဲ့ အသံဖမ်းထားမယ်။ ဆရာသွေးဆီ တိပ်ခွေပို့ပေးမယ်'

ဆရာတော် တရားအားထုတ်ပုံအဆင့်ဆင့်၊ အထူးသဖြင့် ကျေနပ်အားရ လောက်သော တရားအဆင့်သို့ ရောက်ရှိခဲ့ပုံကို ကျွန်တော် သိလိုလှပါတယ်။ ဆင်တောင်တောရတွင် ဆရာတော်ကို ဖူးခဲ့ရစဉ်က ဆရာတော်မိန့်ကြားခဲ့ သည်တို့ကို ကြားယောင်နေဆဲ။

'၂ နှစ်လောက် အားထုတ်ပြီးတဲ့အခါ စိတ်ကို ထားချင်တဲ့နေရာမှာ ထားလို့ရပြီ'

ဆရာတော်၏ ဝိပဿနာဉာဏ် ရင့်သန်လာသောအပိုင်းကို ကြားနာခဲ့ရ သည်။

'တရားထိုင်နေတုန်း တစ်ကြိမ်မှာ ကြက်မတစ်ကောင် ထိုင်ခွင်ထဲဝင်လာ ပြီး ဥ ဥချတယ်။ ပေါင်ကိုလည်း နှုတ်သီးနဲ့ပေါက်တယ်။ ဆိတ်တယ်။ ဒါပေမဲ့ တရားအမှတ် မပျက်ခဲ့ဘူး။ ကြက်မကိုလည်း မောင်းမထုတ်ခဲ့ဘူး'

စိတ်ဓာတ်၊ ရုပ်ဓာတ်တွေ အထူးပင် ခိုင်ခံ့အားကောင်းနေသောအပိုင်း ကိုလည်း ကြည်ညိုခွင့်ရခဲ့ပါသည်။ ထို့ကြောင့် ဆရာတော်၏ တရားအဆင့် မြင့်တက်လာပုံများကိုလည်း နာကြားချင်နေမိပါသည်။ နှစ်ရက်၊ သုံးရက် အတွင်းမှာပင် ကျွန်တော်၏ဆန္ဒ ပြည့်ဝသွားပါသည်။

'ဆရာသွေး. . . ဇွန်လ ၇ ရက်နေ့က ဆရာတော်ဆီ ရောက်တယ်။ ဆရာသွေးသိချင်နေတာတွေ ဆရာတော်က အဖြေပေးလိုက်ပါတယ်။ တိပ်ခွေ ကို အဝေးပြေးကားဂိတ်မှာ သွားယူပါ။ ကျွန်တော် ထည့်ပေးလိုက်ပြီ'

ဦးခင်မောင်သက် ဖုန်းဆက်ပြီးသည်နှင့် အောင်မင်္ဂလာအဝေးပြေးကား ဂိတ်မှာ တိပ်ခွေသွားယူပါသည်။ ကျွန်တော်၏ တပည့်ကလေး အိုက်မွန်းက သွားယူပေးခြင်း ဖြစ်ပါသည်။ တိပ်ခွေများ ရလျှင်ရချင်း ချက်ချင်းပင် ကက်ဆက်ထဲ ထည့်၍ တရားနာကြားခဲ့ပါသည်။ ဦးခင်မောင်သက်က နှစ်ကြိမ်၊ သုံးကြိမ် ဆက်တိုက်ပို့ပေးပါသည်။ အိုက်မွန်းပင် မညည်းမညူ သွားယူပေး သောတိပ်ခွေများကို နာကြားပြီး ဆရာတော်၏ တရားတော်များကို ရေးသား ပူဇော် ဖော်ပြလိုက်ပါသည်။ (ချွတ်ချော်မှု တစ်စုံတစ်ရာ ပါရှိခဲ့ပါသော် ကျွန် တော်၏တာဝန်သာ ဖြစ်ပါကြောင်း ကြိုတင်ဝန်ခံအပ်ပါသည်။)

ဦးခင်မောင်သက်က 'ဘုန်းဘုန်း'ဟူ၍ သုံးနှုန်းထားသည့်အတိုင်း ဆရာ တော် အရှင်အဂ္ဂမေ့ကလည်း 'ဘုန်းဘုန်း' ဟူ၍ပင် နာမ်စားသုံးထားပါသည်။

'ဘုန်းဘုန်းက ငါးဝါရတဲ့အထိ မည်သည့်တရားစခန်းမှ မဝင်ဖူးပါဘူး။ လူဝတ်နဲ့ကျင့်တဲ့ ၂ နှစ်ထည့်ပေါင်းရင် ၇ နှစ်လုံးလုံး တရားစခန်းမဝင်ဘဲ ကိုယ့်ဟာကိုယ် ကျင့်ခဲ့တာပါ။ လက်လှမ်းမီရာ တရားစာအုပ်တွေတော့ ဖတ်မှတ်လေ့လာခဲ့ပါတယ်။ အနာဂါမ်ဆရာသက်ကြီးစာအုပ် ဖတ်မိတော့ ဆရာသက်ကြီးနည်းအတိုင်း ၂ နာရီထိုင်၊ ၅ မိနစ်နားတဲ့နည်းကို ရအောင် ထိုင်ကြည့်ခဲ့ဖူးပါတယ်။ ချမ်းမြေ့ရိပ်သာဆရာတော်ရဲ့ ယောဂီလမ်းညွှန်စာအုပ်ထဲက နည်းနာအတိုင်းလည်း အားထုတ်ကြည့်ဖူးပါတယ်။ ဒီလို အားထုတ်တဲ့အခါ 'တရားအရသာကို တွေ့လာပါတယ်။ မြတ်စွာဘုရား ဟောတော်မူခဲ့သလို အရသာအားလုံးထဲမှာ တရားအရသာဟာ အသာလွန်ဆုံးပဲဆိုတာ ကိုယ်တွေ့ခံစားရတာပေါ့။

အထူးသဖြင့် ကိုယ့်စိတ်ကိုယ် မြင်ရတဲ့အခါ တော်တော်ကျေနပ်တယ်။ စိတ်ကို မမြင်နိုင်သူတွေကတော့ ဘယ်လက်ခံမလဲ။ အဲဒီတော့ ဘုန်းဘုန်းဟာ တရားဟောချင်နေတဲ့၊ တရားသဘော ပြောချင်နေတဲ့ စိတ်ကလေးကို ရှုတယ်၊ ငြိမ်အောင်ရှုတယ်။ စိတ်ဟာ မှန်သားပြင်လို ကြည်လင်နေတယ်။ ရုပ်ဟာ ဝါဂွမ်းလေးလို ပေါ့ပါးနေတယ်။ အလွန်ကြည်လင်နေတဲ့ စိတ်ကလေးဟာ လုံးလုံး လုံးလုံးနဲ့ တက်လာတယ်။ ဒီတော့ ဝမ်းသာတဲ့ခံစားမှု ဖြစ်လာတယ်။ ကာယပဿဒ္ဓိ၊ စိတ္တပဿဒ္ဓိတွေ ဖြစ်လာတယ်။ ကာယ၊ စိတ္တ နှစ်ခုလုံးဟာ နူးညံ့လာတယ်၊ ခံ့ညားလာတယ်၊ ပေါ့ပါးလာတယ်။ အဲဒီလို အဆင့်ဆင့် ဖြစ်ပေါ်လာတယ်။

နှစ်သက်စရာကောင်းတဲ့ ဒီအဆင့်မှာ ရပ်တန့်နေမယ်၊ ကျေနပ်နေမယ်ဆိုရင်လည်း အထက်မရောက်တော့ဘူး။ အားထုတ်ရမယ့်လမ်းစဉ်က ခန္ဓာကို ထိုးထွင်းပြီး ကြည့်ရမှာ။ ခန္ဓာကို ထိုးထွင်းသိလေ စိတ်ဟာ ပိုပြီး ကြည်လင်လာလေ၊ အို. . . အဲဒီမှာ မြင်ချင်တာတွေကို ရှင်းရှင်းလင်းလင်း တွေ့မြင်ရတော့တာပဲ။ ခန္ဓာရဲ့ သိမ်မွေ့မှုထဲ စူးစိုက်ကြည့်လေ ခန္ဓာဟာ ငြိမ်သွားလေ၊ ဒီလို ငြိမ်နေပါပြီဆိုမှ ခန္ဓာရဲ့တုန်ခါမှုကို သိရတာ။ ခန္ဓာမှာ တုန်ခါမှုတွေ စဉ်ဆက်မပြတ် ဖြစ်ပျက်နေတယ်။ ခန္ဓာထဲက အလွန်နက်ရှိုင်းတဲ့ တုန်ခါမှုအထိ သိသိလာတယ်။

ခန္ဓာကိုယ်မှာ တစ်စတစ်စနဲ့ တစ်ကိုယ်လုံးကို ကြည့်ရင်း အငြိမ်ဆုံးနေရာကို ရောက်တော့မယ်ဆိုရင် ထင်လာလိုက်၊ မြင်လာလိုက် ဖြစ်နေတယ်။ ရှေးအခါက ပင်လယ်၊ သမုဒ္ဒရာတွေကို လှေသင်္ဘောကြီးတွေနဲ့ ဖြတ်သန်း

သွားလာတဲ့အခါ ကမ်းရောက် မရောက် သိရအောင် ငှက်ကလေးတွေ ဆောင်ယူလာတတ်တယ်။ အဲဒီငှက်ကို ကမ်းကြည့်ငှက်လို့ ခေါ်တယ်။ ကမ်းကြည့်ငှက်က ရွက်တိုင်ပေါ်ကနေ ကမ်းကို ကြည့်တယ်။ ကမ်းကိုမြင်တော့ အဲဒီကမ်းဆီ ပျံမယ်ဆိုပြီး လွှဲအားယူရတယ်။ တောင်ပံခတ်ပြီး လွှဲအားယူရတာ။ အဲသည်လို ကမ်းကြည့်ငှက် လွှဲအားယူလိုက်ရသလိုပဲ အငြိမ်ဆုံးနေရာကိုရောက်ဖို့ ဉာဏ်ရဲ့ အရှိန်အား လိုလာတယ်။ အဲဒီအချိန်ကလေးမှာ ခန္ဓာကို ဉာဏ်နဲ့မြင်နေရပုံဟာ ထင်ရှားနေတယ်။ ထင်ရှားလိုက်၊ မြင်သွားလိုက်နဲ့။ ဒါ. . . အာရုံလှည့်စားနေတာ မဟုတ်ဘူး။ ဉာဏ်ပြောင်းလို့ အမြင်ပြောင်းသွားတာ။

အဲဒီအချိန်ကလေးဟာ သိပ်ပြီးတော့ အနုစိတ်တာပဲ။ ငြိမ်းလည်း ငြိမ်း၊ အေးလည်း အေးသွားပြီဆိုတော့ ဒီအခြေအနေကို ဒကာကြီးတစ်ယောက်က မဂ်ကျပြီလို့ ထင်သွားတယ်။ အမှန်က ဘဝင်ကျသွားတာ။ ဘဝင်ကျသွားတာကို မသိလိုက်ဘူးနော်။ သိပ်သိမ်မွေ့တယ်။ ခန္ဓာထဲကို မောဟက လှစ်ခနဲကျသွားတာ။ သမာဓိလွန်လို့ ဘဝင်ကျသွားတာ။ သမာဓိလွန်သွားမှတော့ သမာဓိက ချုပ်သွားပြီ။ ပဿဒ္ဓိလည်း ချုပ်သွားပြီ။ ဒီလို သမာဓိ ချုပ်,ချုပ်သွားတော့ ငြိမ်းအေးတာလေးကို သိလိုက်တယ်။ ငြိမ်းအေးတာကို ငြိမ်းအေးတယ်လို့ သိနေရင် ဝိပဿနာဉာဏ်ပဲရှိသေးတယ်။ မဂ်ဉာဏ်မဟုတ်သေးဘူး။ ဒါကြောင့် သိမ်မွေ့တယ်လို့ပြောတာ။ ငြိမ်းအေးနေတာကို မသိပြန်ရင်လည်း ဒါဟာ မောဟ။

အဲဒီတော့ စောစောက ဒကာကြီးလျှောက်တဲ့ဟာ သမာဓိချုပ်လို့ ငြိမ်းအေးသွားတာကို မဂ်ကျသွားပြီ ထင်လိုက်တာဟာ ခန္ဓာက ဝင်ဖျက်တာပဲ။ အလွန်လျင်မြန်တဲ့ အရှိန်အဟုန်နဲ့ ရုပ်သိမ်းတုန်းမှာ အားအရှိန်ပြတ်သွားတာ။ ထင်လိုက်၊ ရလိုက် ဖြစ်နေချိန်မှာ ခန္ဓာရဲ့တစ်နေရာက အင်နဲ့အားနဲ့ ဝင်ဖျက်တာ။ ဒီအချိန်မှာ ကျွမ်းပစ်လိုက်ရင်ပဲ ဟိုဘက်ကမ်းရောက်မယ် ထင်နေချိန်မှာ ဝင်ဖျက်ခံရတာ နှမြောစရာပဲ။ ကူးကား ကူး၏၊ မရောက်ဘူးဖြစ်သွားတာ။ တစ်၊ နှစ် ဆိုပြီး သွားရာမှာ တစ်မှာပဲ အရှိန်ပျက်ပြီး နှစ်ကို မရောက်လိုက်ဘူး။ အဲဒါ ဘဝင်ကျသွားတာဟာ မသိလိုက်တာပဲ။ ဒါကို ပြန်ဆင်ခြင်ပြီးမှ သိတယ်ဆိုရင် ဒါဟာ ဝိပဿနာဉာဏ်ပဲ ရှိပါသေးတယ်။ မဂ်ဉာဏ်မဟုတ်သေးပါဘူး။

အိပ်မက် မက်နေသလိုပေါ့။ အိပ်မက်ဆိုတာ မက်နေတုန်း မသိဘူးနော်။ မက်ပြီးမှ သိရတာ၊ သတိရတာ။ ဘဝင်က အလွန်နက်ရှိုင်းတဲ့အာရုံမှာ ဖြစ်နေ

တာ။ ကမ်းတစ်ဖက်သို့ ကူးမြောက်သွားတယ်ဆိုတာ အိပ်မက်ထက် အဆ ပေါင်းများစွာ နက်ရှိုင်းပါတယ်။ သိစိတ်လည်း မရှိဘူး။ မသိစိတ်ထဲ ရောက် နေတာလည်း မဟုတ်ဘူး။ သဘောပေါက်လျက် သိနိုင်ခဲ့တယ်။ အလွန်သိမ်မွေ့ နက်ရှိုင်းလွန်းလို့ ပြောရခက်ပါတယ်။ နက်နက်နဲနဲကြီး ငြိမ်သက်နေတဲ့အရာ ကို တွေးကြံမှန်းဆယူလို့ မရပါဘူး။ ပညာရှိတို့သာ သိပါတယ်။

ပညာရှိဟာ ပညာရှိကိုလည်း သိတယ်၊ ပညာမဲ့ကိုလည်း သိတယ်။

ပညာမဲ့ကတော့ ပညာရှိကို မသိနိုင်ဘူး၊ ပညာမဲ့ချင်း ပညာမဲ့နေတာ လည်း မသိနိုင်ဘူး။

ကောသလမင်းကြီးက မြတ်စွာဘုရားရှင်ကို မေးလျှောက်ဖူးပါတယ်။ အရှင်ဘုရားတဲ့. . . ပညာရှိဆိုတာကို ဘယ်လိုသိနိုင်ပါသလဲ ဘုရားတဲ့။ ဒီတော့ မြတ်စွာဘုရားက ဖြေတယ်။ ပညာရှိဆိုတာ အကြာကြီးပေါင်းသင်း ကြည့်မှ သိနိုင်တယ်။ ခဏနဲ့ မသိနိုင်ဘူး။ ပညာရှိကို သိဖို့ရာ ကိုယ်တိုင် ပညာရှိဖို့ လိုတယ်။ ပညာရှိအချင်းချင်းသာ ပညာရှိဖြစ်မှန်း သိကြတယ်။ ပညာရှိကို ပေါင်းသင်းပြီး ဂရုစိုက်ကြည့်မှလည်း သိနိုင်တယ်တဲ့။

ကမ်းတစ်ဖက်က တကယ့်ငြိမ်းအေးမှုကြောင့် ဆက်ပြောရရင် -

ကမ်းတစ်ဖက်ကို ပြေးဝင်သွားတာနဲ့ ငြိမ်းအေးမှုဆိုတာ ဖြစ်ပေါ်ပြီးတော့ ငြိမ်းတာကို တခြားအာရုံမရှိတဲ့အတွက် ထင်ထင်ရှားရှား သိပြီးတော့မှ ဘဝင် ကျသွားတာ။ ဘဝင်ကျပြီး သိစိတ်ပေါ်လာတဲ့အခါ ဘာဖြစ်သွားသလဲ။ ဟော. . . စောစောက ငြိမ်းသွားပါလား။ ဒါ. . . ဟုတ်ရဲ့လား။ မသိတာ လည်း မဟုတ်၊ သိလို့ကော ရရဲ့လား။

သိနေချိန် သိလို့ရတယ်ဆိုရင် အလွန်ငြိမ်းအေးတဲ့အာရုံ မဟုတ်ဘူး။ ဒီတော့ ကမ်းတစ်ဖက် ရောက် မရောက်ဆိုတာ အသိသာကြီး။ ဒါ. . . ကမ်း တစ်ဖက်သို့ ပထမတစ်ခေါက် ရောက်တာ။ အထက်ဆက်တက်ဖို့ ကြိုးစားလို့ ရောက်ရင် နှစ်ခါရောက်တာ၊ သုံးခါရောက်ရင် မည်သည့်အာရုံက တိုက်တိုက် ဒေါသကိလေသာ မရှိတော့ဘူး၊ ကာမရာဂ မရှိတော့ဘူး၊ အနာဂါမ် အဆင့် ရောက်သွားပြီ။

ပထမတစ်ခေါက် ရောက်လို့ ပထမအဆင့် အောင်စဉ်မှာပဲ ဒိဋ္ဌိနဲ့ ဝိစိ ကိစ္ဆာ ငြိမ်းသွားပြီ။ ဘယ်လိုငြိမ်းသလဲ။ ရုပ်၊ နာမ်မှာ ပညတ်နဲ့ ရောနေပြီးတော့ ပညတ်ကိုလွန်ပြီး ပရမတ်ကို မြင်လိုက်တယ်။ ဒီမှာ ရုပ်နဲ့နာမ်ကို ခွဲခြားပြီး မြင်တော့ သံသယရှင်းသွားပြီ။ မမြင်ရင် မရှင်းဘူး။ ရုပ်၊ နာမ်ကို မြင်တော့

အကြောင်းအကျိုးကို မြင်လာတယ်။ ဥပမာ- လက်လှုပ်ချင်တယ်ဆိုပါစို့။ လှုပ်ချင်တဲ့စိတ်ကလေးကို မြင်လိုက်ပြီ။ ယားလို့ကုတ်တဲ့အခါ ကုတ်ချင်တဲ့ စိတ်ကို သိတယ်၊ ကုတ်တာကို သိတယ်။ ကုတ်စိတ်က ကုတ်ရုပ်မဖြစ်ဘူး။ အကြောင်းအကျိုးပေါ်မှာ သံသယရှင်းသွားတာ။

ကိုယ့်ဟာကိုယ် ရှင်းသွားပြီ။ ဘယ်သူ့ဆီမှာမှ အဆုံးအဖြတ် ခံစရာမလို တော့ဘူး။ သူများက မဟုတ်ပါဘူးဆိုရင်လည်း ကိုယ်တိုင်မြင်ထားတာ။ ရှင်းနေအောင် မြင်ထားတာ။ တရား ရ, မရ မေးချင်၊ လျှောက်ချင်နေတာ လည်း ဝိစိကိစ္ဆာ မစင်သေးလို့။ ကိုယ့်ဟာကိုယ် သံသယဝင်နေတာ။ ကိုယ့် ဟာကိုယ် မရှင်းသေးတာ။ တကယ်ရရင် မေးစရာမလိုဘူး။ မေးချင်စိတ် မဖြစ်ဘူး။

ဒီနေရာမှာ ဉာတပရိညာ၊ စာဖတ်ပြီး သိတဲ့အသိနဲ့ ဒိဋ္ဌိ မကွာဘူး။ အားထုတ်ပြီး ကိုယ်တိုင်မြင်မှ သက္ကာယဒိဋ္ဌိကြမ်း ကွာတယ်။ အားထုတ်ရာမှာ လည်း စိတ်တည်ငြိမ်လာတဲ့အဆင့် (ဧကဂ္ဂတာ) ကျတဲ့အဆင့်ဟာ ပညာကို မရောက်သေးပါဘူး။ အရှုခံ အနိစ္စသည် ရှုဉာဏ်ကို ပြန်မသိရင် စိတ္တာ နုပဿနာ မရောက်သေးဘူး။ အားထုတ်စ အောက်ဉာဏ်တွေမှာတော့ အနုပဿနာလေးချက် (ကာယ၊ ဝေဒနာ၊ စိတ္တ၊ ဓမ္မ)နဲ့ သွားကြတာပဲ။ အထက် ဉာဏ်ရောက်တော့ အနိစ္စ၊ ဒုက္ခ၊ အနတ္တပဲ ရှိတော့တယ်။ အနုပဿနာတွေက ကျန်ခဲ့ပြီ။

တရားမြင့်လာရင် အထက်ဉာဏ်တွေမှာ အတူတူပါပဲ။ မူမကွဲပါဘူး။ ရတာချင်းလည်း တူပါတယ်။ အဲဒီမှာ 'နည်း'ရယ်လို့ မရှိတော့ပါဘူး။ ပူတာ၊ အေးတာ၊ နာတာ၊ ကျင်တာ မှတ်နေတဲ့အဆင့်ဟာ ဝိပဿနာအဆင့်ပဲ ရှိပါ သေးတယ်။ အထက်ဉာဏ်မှာ အနိစ္စလက္ခဏာ ထင်ရှားလာတဲ့အခါ ပူတာ၊ အေးတာ နှလုံးမသွင်းတော့ဘူး။

အဲဒီတော့ ကမ်းတစ်ဖက် ငြိမ်းအေးမှုဆီ ရောက်တယ်ဆိုတာ နှိုင်းယှဉ် စရာ မရှိလောက်အောင် တစ်သက်တာမှာ အလွန်ထူးခြားပါတယ်။ ဒီငြိမ်း အေးမှုရခဲ့ပုံကို ဘယ်လောက်ကြာကြာ မမေ့ဘူး။ ဘယ်အချိန်၊ ဘယ်နေရာ၊ ဘယ်ဣရိယာပုထ်နဲ့ ဖြစ်တယ်ဆိုတာ မမေ့ဘူး။ သိနေတယ်။ ရောက်ဖူးမှ သိတယ်။ ကိုယ် ရောက် မရောက် ကိုယ်ပဲ သိတယ်။ သူများ သုံးသပ်ပေးလို့ မရဘူး။ ဥပမာ- ကိုယ့်အိတ်ထဲမှာ ပိုက်ဆံ ၅ ကျပ်ပါတာ ဘေးလူမသိပါဘူး။ ဘေးလူက ၃ ကျပ်ပါပြောလို့လည်း လျော့နည်းမသွားဘူး။ ကိုယ့်မှာရှိတဲ့ ၅

ကျပ်ဟာ တစ်ဆယ်ဖိုးလည်း သုံးလို့မရပါဘူး။ ဒီလိုပဲ ကိုယ်ရထားတဲ့ ငြိမ်းအေးမှုဆိုတာ ဘေးပယောဂကြောင့်တော့ ယုတ်လျော့မသွားပါဘူး။

ဘုန်းဘုန်းမှာ ခန္ဓာဝန်ကျန်နေပါသေးတယ်။ ဒေါသ ရာဂ ကုန်အောင် လုပ်ရပါဦးမယ်။ တရားလမ်းကို ဆက်လျှောက်ရင်း လိုက်ပါချင်သူတွေကိုလည်း ဆွဲခေါ်၊ တွဲခေါ်ရပါဦးမယ်။

ဆရာတော် ဦးအဂ္ဂဓမ္မသည် မကွေးမြို့နယ်၊ သပြေစမ်းတောရမှာ တစ်လခန့် သီတင်းသုံးတော်မူခဲ့ပြီး ရခိုင်ပြည်နယ်၊ မင်းပြား၊ ကျိုင်းတောင်သို့ ပြန်ကြွသွားတော်မူပါသည်။ ဆရာတော်အား နောက်တစ်ကြိမ် ပြန်ဖူးခွင့်မရမီ ဆရာတော်၏ တရားအဆီအနှစ်တို့ကို ကြည်ညိုပွားများရင်း ကမ်းတစ်ဖက်၏ ငြိမ်းအေးရာဆီ ဦးတည်နေမိလျက်. . .။

၂၀၀၅ ခုနှစ်၊ ဖေဖော်ဝါရီလထုတ် ဂမ္ဘီရမဂ္ဂဇင်း



# ရှမ်းပြည်နယ် အရှေ့ပိုင်းမှ
# မိုင်းလင်းဆရာတော်
## ၏ထူးခြားသောဘဝဖြစ်စဉ်ထဲက ဓမ္မအနှစ်သာရများ

ရှမ်းပြည်နယ်အရှေ့ပိုင်းမှ ရှမ်းတိုင်းရင်းသား သာသနာပြု ဆရာတော် တစ်ပါးအကြောင်းကို ဖတ်မှတ်ကြည့်ညိုခွင့်ရခဲ့ပါတယ်။ ဆရာတော်၏ပုံတော် ကို ဖူးလိုက်ရာတွင် ရုတ်တရက်သော် ကျော်ကြားတော်မူလှသော မိုင်းဖုန်း ဆရာတော်နှင့် ခပ်ဆင်ဆင်ဖြစ်ပါတယ်။ မိုင်းဖုန်းဆရာတော်ကို လွန်ခဲ့သော ဆယ်နှစ်ကျော်ခန့်က မန္တလေး မဟာမြတ်မုနိဘုရားကြီးတွင်လည်းကောင်း၊ ရန်ကုန် ကျိုက်ဝိုင်းဘုရားအနီး ရှမ်းကျောင်းကြီးတွင်လည်းကောင် ကိုယ်တိုင် ဖူးမြင်ကြည်ညိုခဲ့ရဖူးပါတယ်။ မိုင်းဖုန်းဆရာတော်အကြောင်းကို ဆရာသိပေါ ကိုလတ် ရေးတာ အနည်းအကျဉ်းဖတ်ဖူးပါတယ်။ ဆရာတော်၏ ဘဝဖြစ်စဉ် နှင့် ထူးခြားကျင့်စဉ်များကိုကား ကျယ်ကျယ်ပြန့်ပြန့် သိခွင့်မရသေးပါ။ ယခု ပူဇော်ဖော်ပြလိုသော ဆရာတော်မှာ 'မိုင်းလင်းဆရာတော် (စဝ်ဝန်းမီး) ဘဒ္ဒန္တဝိမလ' ဖြစ်ပါတယ်။

ဆရာတော်လောင်းလျာဟာ ငယ်စဉ်ကပင် ဘာသာအယူဝါဒမျိုးစုံကို စူးစမ်းလေ့လာလိုတဲ့ ဝါသနာ ထက်သန်ခဲ့ပါတယ်။ ဘာသာအယူဝါဒတွေကို စာတွေ့လေ့လာရုံမျှမက ဘာသာဝင်အဖြစ် ထဲထဲဝင်ဝင် လေ့လာကျင့်သုံးခဲ့တဲ့ ဆရာတော်လောင်းလျာရဲ့ လူငယ်ဘဝဟာလည်း စိတ်ဝင်စားဖွယ် ကောင်းလှ ပါတယ်။ သာမန် မိရိုးဖလာ ဗုဒ္ဓဘာသာဝင်အဆင့်ကနေ တောကျင့်၊ တောင်

ကျင့်၊ ဂုဏ်ကျင့်တွေကို ဆွမ်းလွတ် အစာလွတ်ကျွတ်လွတ်အောင် ပြင်းထန်စွာ အားထုတ်ခဲ့ပုံတွေဟာ အားကျကြည်ညိုဖွယ် ဖြစ်ပါတယ်။ ဆရာတော် လောင်းလျာရဲ့ ဘဝမှာ အယူဝါဒများ၊ သံဝေဂများနဲ့ ပြည့်နှက်နေခဲ့ပါတယ်။

ဆရာတော်လောင်းလျာကို ၁၉၆၂-ခု၊ မြန်မာသက္ကရာဇ် ၁၃၂၄-ခု၊ တော်သလင်းလဆန်း (၇)ရက် ဗုဒ္ဓဟူးနေ့ နံနက် (၇)နာရီမှာ ခမည်းတော် ဦးစိုင်းဝန်း+ မယ်တော် ဒေါ်နန်းဝိုးတို့မှ မီးရှူးသန့်စင်ဖွားမြင်ခဲ့ပါတယ်။ ဖွားရာ ဇာတိကတော့ ကျိုင်းတုံမြို့ တင်ပါရပ်ကွက် ဖြစ်ပါတယ်။ မွေးချင်း(၇) ယောက် မှာ စတုတ္ထမြောက် သားရတနာဖြစ်ပါတယ်။ ငယ်မည်မှာ စိုင်းဆိုက်ဝန်း(ခ) စိုင်းဝန်းမီးဖြစ်ပြီး အခြားကလေးများနှင့်မတူ ခြားနားတဲ့ဗီဇပါလာသူ ဖြစ်ပါ တယ်။ စိုင်းဝန်းမီးဟာ ကလေးဘဝကတည်းကပင် အရာရာကို စူးစူးစမ်းစမ်း စူးစူးစိုက်စိုက် လုပ်တတ်တဲ့အကျင့်ကောင်းပါလာသူ ဖြစ်ပါတယ်။ အခြား ကလေးတွေနဲ့ ရောနှောပျော်ပါး ဆော့ကစားခြင်းမရှိဘဲ တစ်သီးတစ်ခြား ကန္ဒြေတစ်ခွဲသားနဲ့ အေးအေးဆေးဆေး နေခဲ့လေ့ရှိပါတယ်။

ဆရာတော်လောင်းလျာ စိုင်းဝန်းမီးဟာ ကျိုင်းတုံ အ. ထ. က(၄)မှာ သတ္တမတန်းအထိ ပညာသင်ကြားခဲ့ပြီး ကျောင်းထွက်ကာ ဖခင်ကြီးရဲ့ တောင်ယာလုပ်ငန်းခွင်မှာ ဝင်ရောက်ကူညီလုပ်ကိုင်ပေးခဲ့ရပါတယ်။ တောင်ယာကောင်းအောင် တင်မြှောက်ပသရတဲ့ ရိုးရာနတ်များကို ကလေး ဘဝကပင် အလွန်စိတ်ဝင်စားခဲ့ပါတယ်။ ငယ်ရွယ်နုပျိုစဉ် အသက် ၁၃၊ ၁၄၊ ၁၅ နှစ်အရွယ်များမှာ နတ်ကိုးကွယ်တဲ့ဘဝကနေ အခြားသော ဘာသာတရား များကို လက်လှမ်းမီသလောက် လေ့လာလိုက်စားခဲ့ပါတယ်။

ဒီလိုနဲ့ ၁၉၇၇ (၁၃၃၉၊ ပထမဝါဆိုလဆန်း (၇)ရက်) ဗုဒ္ဓဟူးနေ့မှာ သူငယ်ချင်းတွေနဲ့အတူ ကျိုင်းတုံ (အာစီယန်) ခရစ်ယာန်ဘာသာဝင် ဖြစ်လာ ခဲ့ပါတယ်။ ခရစ်ယာန်ဘာသာဝင်အဖြစ်နဲ့ တစ်နှစ်သာကြာလိုက်ပြီး ၁၉၇၈ (၁၃၄၀-ခုနှစ်၊ နတ်တော်လဆန်း (၉)ရက်) သောကြာနေ့မှာ တောင်ကြီးမြို့၊ မြို့မဗလီမှာ အစ္စလာမ်ဘာသာဝင် ဖြစ်လာခဲ့ပြန်ပါတယ်။

၁၉၇၉-ခုနှစ်မှာ အရောင်းအဝယ်လောက စီးပွားရေးသမားဘဝနဲ့ ရှင်သန် ခဲ့ပါတယ်။ လွိုင်လင်မြို့မှ သူငယ်ချင်း 'လောင်းလုံ' နဲ့အတူ သွားသွားလာလာ ရောင်းဝယ်ဖောက်ကား စီးပွားဖြစ်လာခဲ့ပါတယ်။ ဒီအချိန်မှာပဲ လုယက် တိုက်ခိုက်မှုနဲ့ ကြုံပြီး လောင်းလုံဆေးရုံပို့ရတဲ့အထိ ဒဏ်ရာပြင်းထန်ခဲ့ပါတယ်။ လောင်းလုံအတွက် သူကိုယ်တွင်းကသွေးတွေ ဖောက်ထုတ်လှူဒါန်းခဲ့ပေမယ့်

လောင်းလုံကို ဘယ်သူမှ မကယ်နိုင်တော့ပါဘူး။ ချစ်လှစွာသော သူငယ်ချင်း လောင်းလုံဟာ သူ့ကို အပြီးအပိုင် ခွဲခွာသွားပါပြီ။ ဘယ်တော့မှ မခွဲပါဘူးဆိုတဲ့ သူငယ်ချင်းနှစ်ယောက်ကို သေခြင်းတရားက ခွဲလိုက်ပါပြီ။

ဒုက္ခပူမီး၊ တွေ့ပြီးလေခါ
ငါလဲမုချ သေရဦးမှာ
မမြဲအနိစ္စ၊ စိတ်ကထင်လာ
သံဝေဂ မုချ ရှေးဦးစွာ။

ငယ်ငယ်ရွယ်ရွယ်နဲ့ သံဝေဂဉာဏ် သက်ဝင်လာတဲ့ စိုင်းဝန်းမီးဟာ မန္တလေးဘက် ထွက်လာခဲ့ပါတယ်။ မန္တလေး သာသနာ့အောင်မြေက စိုင်းဝန်းမီးကို ချွေးသိပ်ပန်းပြေ ခိုနားရာ ဖြစ်စေခဲ့ပါတယ်။ မန်းတောင်ရိပ်ခိုလို့ အေးပါစေ ဆိုတဲ့အတိုင်း စိုင်းဝန်းမီးဟာ မန္တလေး မြစိမ်းတောင်ပေါ်မှာ ဆရာတော်ဦး သီလဝံသကို ဥပဇ္ဈာယ်ပြုပြီး ကိုးပါးသီလခံယူကာ ရသေ့ဘဝသို့ ရောက်ခဲ့ပြန်ပါတယ်။ ၁၉၇၉-ခု၊ (၉) လပိုင်း (၉)ရက် (၉)နာရီ (၉)မိနစ် (၉)စက္ကန့်မှာ ကိုးပါးသီလခံယူပြီး ရသေ့ဖြစ်ခဲ့တယ်လို့ ဘဝမှတ်တမ်း ရေးထိုးထားခဲ့ပါတယ်။

ရသေ့ဘဝနဲ့ (၂)နှစ်ကြာ အားထုတ်ခဲ့ပြီး ငြီးငွေ့လာတာ နဲ့ လူထွက်ခဲ့ပြန်ပါတယ်။ ၁၉၈၁ မှာ လောင်းဝူးဆိုတဲ့ တောင်ကြီးက တရုတ်ကလေးနဲ့အတူ စီးပွားရေးအရောင်းအဝယ် လောကထဲ ပြန်ရောက်ခဲ့ပါလေရော၊ စွန့်စားတဲ့ ဝါသနာပါလာ ပြီးဖြစ်တဲ့ စိုင်းဝန်းမီးဟာ တရုတ်နယ်စပ်ဒေသတွေအထိ သွားလာကူးသန်းခဲ့ပါတယ်။ သူငယ်ချင်းလောင်းဝူးနဲ့အတူ တောတောင်တွေကြား သွားလာရင်း လောင်းဝူးငှက်ဖျားမိ၊ ဆေးရုံတက်ကုသပေမယ့် ဒီတစ်ခါ ဒီတစ်ယောက်လည်း သွားလေသူလောင်းလုံနောက် ကောက်ကောက်ပါအောင် လိုက်ပါသွားလေတော့ရဲ့။ ငယ်ငယ်ရွယ်ရွယ်နဲ့ သူ့ငွေးအိပ်မက်ပျက်ပြယ်သွားပြီး သေမင်းခေါ်ရာ လိုက်ပါသွားတဲ့ လောင်းဝူးကို သူ့ရင်ထဲက လှိုက်ကြွတက်လာတဲ့ သံဝေဂတွေနဲ့ပဲ နှုတ်ဆက်ခဲ့ရပြန်ပါတယ်။

သူ့ဘဝဟာ အပြောင်းအလဲတွေ မြန်လှဘိ၊ အချိုးအကွေ့တွေ များလှချည့်၊ သံဝေဂတွေနဲ့အတိပြီးတဲ့ သူ့ဘဝဟာ ဒီတစ်ခါတော့ဖြင့် 'ဖိုးသူတော်' ဖြစ်လာခဲ့ပါတယ်။ ၁၃၄၃-ခု၊ နယုန်လဆန်း(၈)ရက် ဗုဒ္ဓဟူးနေ့တင် ရန်ကုန်-အင်းစိန်မှာ ဘုန်းတော်ကြီး ဦးခန္တီသီလနန္ဒဆီမှာ ကိုးပါးသီလခံယူပြီး 'ဖိုးသူတော်ဘဝ' ရောက်ခဲ့ပါတော့တယ်။ ပိတ်ဖြူဝတ်နဲ့ သီလ ဖြူစင်အောင် ကြိုးစား

ပြီး သူအားထုတ်ခဲ့တာ (၅)နှစ်တောင် ကြာခဲ့ပါတယ်။

ငါးနှစ်တာကျင့်ကြံအားထုတ်ခဲ့တဲ့ အကျိုးရလဒ်ကတော့ လူတွေရဲ့ ရောဂါဝေဒနာဘေးဘယာတွေကို ကူညီချင် ကယ်တင်ချင်လာတာပါပဲ။ လူတွေဟာ မြေနိမ့်ရာလှံစိုက် ရေနစ်သူဝါးကူထိုးနဲ့ အားကိုးမှားနေကြပါရောလား။ ဒီလိုနဲ့ ဆရာတော်လောင်းလျာ 'ပယောဂဆရာ' ဘဝသို့ ရောက်ခဲ့ပြန်ကာ ခာတ်ရိုက်ခာတ်ဆင် ဆေးကုအလုပ်တွေနဲ့ ရှုပ်နေခဲ့ပြန်ပါတယ်။

ဒီအရှုပ်တွေကို မိခင်ကြီးက အသက်နဲ့ရင်းပြီး ရှင်းပေးခဲ့ရှာပါတယ်။ ဖြစ်ပုံက ဒီလိုပါ -

ဆရာတော်လောင်းလျာဟာ မိဘဘိုးဘွားတွေကို ကျေးဇူးဆပ်တဲ့အနေနဲ့ ကျိုင်းတုံမှာသည် မြန်မာပြည်အနှံ့ ဘုရားဖူးပို့ဆောင်ပေးခဲ့ပါတယ်။ မြန်မာပြည်အနှံ့ တန်ခိုးကြီးဘုရားတွေ လှည့်လည်ဖူးမြော်ရတဲ့ ကြည်နူးပီတိ အဟုန်ဟာ ကျိုင်းတုံသို့ပြန်ရောက်ကာနီး (၇)မိုင်ခန့် အလိုမှာပဲ ဖျပ်ခနဲ တန့်ရပ်သွားပါတယ်။ ဝုန်းခနဲ ကားကြီးမှောက်သွားပြီး မိခင်ကြီး အပါအဝင် (၃) ဦးဟာ ပွဲချင်းပြီးသေဆုံးသွားခဲ့ကြပါတယ်။ ဆရာတော်လောင်းလျာအတွက် တကယ့်ကို သွေးပျက်ထိတ်လန့်ဖွယ် သံဝေဂကြီးပါ။ သူငယ်ချင်းနှစ်ယောက် လောင်းလုံနဲ့ လောင်းဝူးတို့ သူ့ရှေ့မှာ သေဆုံးသွားပုံတွေကို မျက်ဝါးထင်ထင် တွေ့ကြုံကာ သံဝေဂနှစ်ကြိမ် ပြင်းထန်စွာရခဲ့ပြီးပါပြီ။ ယခု မိခင်ကြီးကိုယ်တိုင်က အသက်နဲ့ရင်းပြီး တတိယမြောက် သံဝေဂကို ပေးသွားခဲ့ပါပြီ။ စိုင်းဝန်းမီးဟာ ပယောဂဆရာဘဝရဲ့ အရှုပ်တွေကို ဒီမှာတွင်းရှင်း၊ ရင်းစားမရနိုင်တဲ့ အမေ့မေတ္တာ၊ အမေ့ကျေးဇူးတွေကို ပေးဆပ်ဖို့အတွက် သာသနာ့ဘောင်သို့ ဝင်ရောက်ခဲ့ပါတယ်။

၁၃၄၉-ခုနှစ်မှာ မိုးကုတ်မြို့ မဟာသတိပဋ္ဌာန် ကျောင်းတိုက်ဆရာတော် ဘဒ္ဒန္တသုနန္ဒ (ယခု နိုင်ငံတော်သံဃမဟာမဟာနာယက ဆရာတော်၊ အဂ္ဂမဟာပဏ္ဍိတ) ထံတော်မှာ (၄၅) ရက်ကြာဒုလ္လဘရဟန်းဝတ်ခဲ့ပါတယ်။ ကွယ်လွန်သူ မိခင်ကြီးအား သတိပဋ္ဌာန်တရားဖြင့် တစ်နေ့မပြတ် ကျေးဇူးဆပ်ခဲ့ပါတယ်။ လူထွက်လာပြီးတဲ့ နောက်တစ်နှစ်လုံးလုံးဟာလည်း ပြုံးစရာ ပျော်စရာမရှိ။ အိပ်မက်တွေထဲ ကိုယ့်ကိုယ်ကို ပြန်ပြန်တွေ့နေရတာက ဘုန်းကြီးဘဝ၊ ဘုန်းကြီးအသွင်ကိုပဲ တစ်နှစ်ပတ်လုံး အိပ်မက်မက်တိုင်းမှာ ပြန်မြင်နေခဲ့ရပါတယ်။ ဒါကြောင့် 'လောကီကိုဖြတ်မယ်' လို့ စိတ်ကိုဒုံးဒုံးချပြီး ၁၃၅၀-ခု၊ ကဆုန်လပြည့်နေ့ ဗုဒ္ဓနေ့မှာ 'ဟောင်လိတ်ထက် စိုင်မိုင်း စေတီတော်တောရ

ဥပဇ္ဈာယ်ဆရာတော် ဦးပညာစာရထံတော်မှာ ရှင်သာမဏေ ဝတ်ခဲ့ပါတယ်။ မိမိပိုင်ဆိုင်ခဲ့တဲ့ ရွှေငွေရတနာတွေကိုတော့ ဘုရားတည်ရာမှာ စေတနာသုံးတန် ပြဋ္ဌာန်းပြီး စွန့်လွှတ်လှူဒါန်းခဲ့ပါတယ်။ ရှင်သာမဏေ ဒကာ၊ ဒကာမများက တော့ တာချီလိတ်မြို့ ဝမ်ကောင်းရပ်က ဦးယုခင်+ ဒေါ်မမလေးတို့ ဖြစ်ပါ တယ်။

ရှင်သာမဏေဘဝနဲ့ တစ်နှစ်ကျော်ကြာပြီးမှ ၁၃၅၂-ခု၊ ပြာသိုလပြည့် ကျော် (၁၀)ရက် (၁၉၉၁၊ ဇန်နဝါရီလ (၉) ရက်) ဗုဒ္ဓဟူးနေ့ နံနက် ၉ နာရီ ၂၀ မိနစ်တွင် တာချီလိတ်မြို့ ဟောင်လိတ်ကျောင်း ဝမ်ယောင် ခဏ္ဍသိမ်တော် မှာ မြင့်မြတ်သော ရဟန်းဘဝသို့ ရောက်ရှိခဲ့ပါတယ်။ ဥပဇ္ဈာယ် ဆရာတော်မှာ (ယခု နိုင်ငံတော်သြဝါဒစရိယ၊ အဂ္ဂမဟာပဏ္ဍိတ၊ အဂ္ဂမဟာသဒ္ဓမ္မဇောတိကဓဇ နဂါးနှစ်ကောင် ကျောင်းဆရာတော် ဘဒ္ဒန္တဓမ္မသီရိ) ဖြစ်ပါတယ်။ ရဟန်း ဒကာ၊ ဒကာမများကတော့ တာချီလိတ်မြို့၊ ဆန်ဆိုင်းရပ်မှ ဦးစိုင်းဝန်းရင်း + ဒေါ်နန်းကျွန်မိသားစု ဖြစ်ပါတယ်။

ဆရာတော်ရဲ့ ရဟန်းဘွဲ့တော်ဟာ အရှင်ဝိမလဖြစ်ပါတယ်။ နောင်အခါ မှာတော့ ဆရာတော်ရဲ့ ငယ်နာမည် (စဝ်ဝန်းမီး)အဖြစ်နဲ့ပဲ ရှမ်းပြည်နယ်တလွှား ထင်ရှားခဲ့ပါတယ်။ ဆရာတော်ဟာ ရဟန်းဖြစ်တဲ့နှစ်မှာပဲ ပရိယတ်၊ ပဋိပတ် နှံ့မပ်အောင် ကြိုးစားအားထုတ်တော်မူခဲ့ပါတယ်။ ဆရာတော် တရားရှာ၊ တရား အားထုတ်ခဲ့ရာ ကမ္မဋ္ဌာန်းရိပ်သာကျောင်းများမှာ -

တောင်ကြီးမြို့၊ မိုးကုတ်ဝိပဿနာဓမ္မရိပ်သာ

အမရပူရမြို့၊ မိုးကုတ်ဝိပဿနာဓမ္မရိပ်သာ

ဆင်ဖြူကျွန်းမြို့၊ မိုးကုတ်ဝိပဿနာဓမ္မရိပ်သာ

ရန်ကုန်မြို့၊ မရမ်းကုန်း၊ စွန်းလွန်းဂူကျောင်း ဓမ္မရိပ်သာ

ရန်ကုန်မြို့၊ မဟာစည်ဓမ္မရိပ်သာ

ရန်ကုန်၊ စမ်းချောင်း၊ လယ်တီကမ္မဋ္ဌာန်းရိပ်သာ

မော်လမြိုင်၊ မုဒုံ၊ ဖားအောက်တောရ တို့ဖြစ်ပါတယ်။

ဝိပဿနာတရားများကို ဘယ်လောက်ထိ ကြိုးကုတ် လေ့လာအားထုတ်ခဲ့ တယ်ဆိုတာ အထူးပေါ်လွင်လှပါတယ်။ ဆရာတော်ဟာ ထိုမျှဖြင့် အားရ တင်းတိမ်ခြင်းမရှိဘဲ စာပေ ပရိယတ္တိအခြေခံကောင်းဖို့အတွက်လည်း ပခုက္ကူ အလယ်တောရတိုက်ကြီးမှာ စာဝါများကို (၂)နှစ်ကြာ လေ့လာသင်ယူ ခဲ့ပြန်ပါ တယ်။ ဒါကြောင့် ဆရာတော်ကို ပရိယတ်၊ ပဋိပတ် စွယ်စုံတဲ့ ဆရာတော်လို့

ဆိုရမှာဖြစ်ပါတယ်။

တောင်တန်းသာသနာပြုဆရာတော်ကြီးများကလည်း ရှမ်းဘာသာနဲ့ တရားဟောနိုင်မယ့် သံဃာတော်များကို ရှာဖွေနေစဉ်မှာ ဆရာတော်လေး စဝ်ဝန်းမိး (အရှင်ဝိမလ)ကို တွေ့ရှိ သွားကြပါတယ်။ ငယ်ရွယ်နုနယ်စဉ် 'စိုင်းဝန်းမိး' မှသည် လေးစားဖွယ် 'စဝ်ဝန်းမိး' ရယ်လို့ ကြည်ညိုမြတ်နိုးဖွယ် ဖြစ်လာခဲ့ပါပြီ။ ဆရာတော်စဝ်ဝန်းမိးဟာ ကျောက်မဲမှာ နှစ်လကြာ တရား မိုးကြီးရွာသွန်းဖြိုးခဲ့ပြီးနောက် သိန္နီ၊ မူဆယ်၊ နမ့်ခမ်းမြို့များဆီ ဓမ္မဒူတခရီး ဆန့်ခဲ့ပါတယ်။ ရှမ်းမြန်မာ နှစ်ဘာသာနဲ့ ဟောကြားတဲ့ ဆရာတော်ရဲ့ တရားပွဲ တွေဟာ တစ်မူထူးခြား ပြီး ခြိမ့်ခြိမ့်သဲသဲ ရှိခဲ့ပါတယ်။ ဆရာတော်ဟာ အများ အတွက်လည်း သာသနာပြု မိမိအတွက်လည်းအားထုတ်နဲ့ တဆိတကလေးမှ နားရတယ်မရှိခဲ့ပါဘူး။

၁၉၉၆-ခု၊ မေလထဲမှာ မိုင်းယန်းမြို့နယ်၊ မိုင်းလွေ့ရွာ အနီးက ပတ္တမြား ကျွဲချိုဂူထဲမှာ ဂူအောင်းအဓိဋ္ဌာန်ကို (၁၅) ရက် အဓိဋ္ဌာန်နဲ့ ပြင်းထန်စွာ အားထုတ်တော်မူခဲ့ပါတယ်။ ဒီအဓိဋ္ဌာန်အတွင်း ဆရာတော်ရဲ့ စိတ်အာရုံမှာ ရောင်ခြည်တော်ခြောက်သွယ် ကွန့်မြူးနေတဲ့ ရုပ်တော်မူဘုရားတစ်ဆူကို ဖူးမြင် ခဲ့ရပါတယ်။ လွယ်ကောင်းမွန်း သာသနာပွင့်ပေါ်တော့ မှာပါလား၊ ဆရာတော် ဟာ ဂူအောင်းအဓိဋ္ဌာန်က ထွက်လာပြီးတာနဲ့ မိုင်းခတ်မှာ ဘုရားတည်မှာဖြစ် ကြောင်း စစ်ဗျူဟာမှူး ဗိုလ်မှူးသိန်းဌေးနဲ့ တိုင်ပင်ညှိနှိုင်းခဲ့ပါတယ်။ ရှမ်းပြည်နယ် တစ်ခွင် ဘေးရန်ကင်းစင်စေအောင် ဉာဏ်တော် (၂၇) တောင် မြင့်တဲ့ ရုပ်တော်မူဘုရားကြီးကို ၁၉၉၇-ခုနှစ်မှာ အပြီးတည်ထားနိုင်ခဲ့ပါတယ်။

၁၃၅၈-ခုနှစ်၊ ကဆုန်လမှာတော့ ဆရာတော်ဟာ မိမိရဲ့ သမာဓိကို စမ်းသပ်သောအားဖြင့်လည်းကောင်း၊ မိုင်းခတ်နယ်က ဒေသခံများရဲ့ သဒ္ဓါ တရားကိုချိုးမြှောက်လိုသောကြောင့်လည်းကောင်း စေတီတစ်ဆူကို နေ့ချင်းပြီး အဓိဋ္ဌာန်နဲ့တည်တော်မူခဲ့သော မကြုံစဖူးထူးကဲစွာ အောင်တော်မူခဲ့ပါတယ်။ မိုင်းခတ်နယ်က နတ်နဲ့အခြား ဘာသာကိုးကွယ်တဲ့ ဗုဒ္ဓဘာသာအဖြစ်သို့ ကူးပြောင်းလာကြပါတယ်။ မိုင်းခတ်နယ် တိုင်းရင်းသားများရဲ့ ဗုဒ္ဓဘာသာ ခံယူပွဲကြီးဟာလည်း သမိုင်းဝင်အခမ်းအနားကြီးအဖြစ် မှတ်တမ်းတွင်ရစ်ခဲ့ပါ တယ်။

ဆရာတော်စဝ်ဝန်းမိးဟာ ဗုဒ္ဓဘာသာဝင်အဖြစ် ကူးပြောင်းလာကြတဲ့ တိုင်းရင်းသားများအား နားမျက်စိဖွင့်ပေးတဲ့ အနေနဲ့ ဘုရားစေတီများကို

မနေမနား တည်ထားကိုးကွယ်တော် မူခဲ့ပါတယ်။ ဗုဒ္ဓမြတ်စွာဘုရားက ပဥ္စဝဂ္ဂီ ငါးပါးအား တရားဦးဟောနေဟန် ရုပ်ပွားတော်များ၊ ရှင်သီဝလိနှင့် သာသနာ တော်မြတ်ကြီး အဓွန့်ရှည်အောင် စောင့်ရှောက်တော်မူလျက်ရှိသော အရှင် ဥပဂုတ္တ ရဟန္တာအရှင်မြတ်ကြီး ရုပ်ပွားတော်၊ အခြားသော သာသနိက အဆောက်အဦများကို အားသွန်ခွန်စိုက် ဦးဆောင်တည်ထားတော်မူခဲ့ပါတယ်။ ဒီလိုနဲ့ မိုင်းခတ်နယ်ဟာ သာသနာရောင်ဝါထွန်းတဲ့ ခေတ်တစ်ခုကို စတင်နိုင် ခဲ့ပါတယ်။ ဆရာတော်ရဲ့ တောကျောင်းကလေးဟာ နတ်ပြည်နတ်ရွာအလား သိုက်မြိုက်စည်ကား လင်းထိန်နေခဲ့ပါပြီ။ ရေအားလျှပ်စစ်ဖော်ထုတ်ခြင်း၊ ရေတွင်းရေကန်များ တူးဖော်ကာ ရေပိုက်များသွယ်တန်းပေးခြင်း စသည်ဖြင့် အကျိုးပြုလုပ်ငန်းတွေ ပျားပန်းခပ်အောင် ဆောင်ရွက်တော်မူခဲ့ပါတယ်။ ဆရာတော်ကိုလည်း သွားလာရေး လွယ်ကူအောင် မော်တော်ကားလှူသူတွေ ပေါ်ပေါက်ခဲ့ပါတယ်။ ဆရာတော်ကို ကံထပ်မင်္ဂလာပြုသူများလည်း တန်းစီ နေပါတော့တယ်။

*  တို့ဘုန်းအမော်၊ ဆရာတော်သည်
မြို့နော်မိုင်းလင်းရောက်ရှိခြင်း၏
နေခြင်းအစ၊ ခဏမညောင်း
တောသို့အောင်းပြီး. . .
. . . . . . . . . . . . .။

*  တောနက်ကြီးတွင်
သစ်သီထမင်း၊ သစ်သီးဟင်းနှင့်
ဝမ်းတွင်းမျှရုံ၊ လျှော်တေခြုံ၍
စံပုံသက်ကယ်၊ ကျောင်းဝယ်စံမြန်း
ပီတိရွှမ်း၏၊ ချမ်းမြေ့အေးရန်. . .

ဆရာတော်ဟာ အမွန်အမြတ်ထား၍ လှူဒါန်းထားသော ခေတ်ပေါ် ခေတ်မီ ရုပ်ဝတ္ထုပစ္စည်း ပစ္စယတွေကြားမှာ သာယာနေခြင်းမရှိခဲ့ပါ။ မကြာ ခဏ တောရဆောက်တည်ကာ ဘာဝနာပွားလေ့ရှိပါတယ်။ သစ်သီးဆွမ်းဖြင့် သာ မျှတစေ၍ တရားရှာကိုယ်မှာတွေ့ စေခဲ့ပါတယ်။ ၁၃၅၈-ခု၊ ဒုတိယဝါဆို လဆန်း (၇)ရက်၊ တနင်္လာနေ့၊ တာချီလိတ်မြို့နယ်၊ မိုင်းလင်း ထတ်စွမ်စိုင့် ဟိုနမ့်တောရသို့ ကြွလာသီတင်းသုံးချိန်ကစပြီး 'မိုင်းလင်းဆရာတော်' လို့ ထင်ပေါ် လာခဲ့ပါတော့တယ်။ ဘွဲ့တော်အပြည့်အစုံမှာ 'မိုင်းလင်းဆရာတော်

(စဝ်ဝန်းမီး) ဘဒ္ဒန္တဝိမလ' ဖြစ်ပါတယ်။ တစ်မိုင်ကျော်ဝေးတဲ့ အနီးပတ်ဝန်းကျင် ရွာတွေက ဆရာတော်ထံ နေ့စဉ်ဆွမ်းလာပို့ကြ ကုသိုလ်ယူကြပါတယ်။

ကျေးဇူးရှင် မိုင်းလင်းဆရာတော်စဝ်ဝန်းမီးမှ တပည့် ဒကာ ဝေနေယျများအား ပရိတ်ပဋ္ဌာန်းဂါထာတော်များနဲ့ ချီးမြှင့်ထားတဲ့ ဝတ်ရွတ်စဉ် ဂါထာတွေထဲက အချို့ကို ဆက်လက်ဖော်ပြပါမယ်။ အကျိုးကြီးတန်ခိုးကြီးတဲ့ ဂါထာတော်များကို အရကျက်၍ နေ့စဉ်ဝတ်မပျက် ပူဇော်ပွားများနိုင်ကြပါစေ။

## နတ္ထိမေသရဏံအညံ

(က) နတ္ထိ မေ သရဏံ အညံ၊ ဗုဒ္ဓေါ မေ သရဏံ ဝရံ
ဧတေနေ သစ္စ ဝဇ္ဇေန၊ ဟောတုတေဇယမင်္ဂလ

(ခ) နတ္ထိ မေ သရဏံ အညံ၊ ဓမ္မော မေ သရဏံ ဝရံ
ဧတေနေ သစ္စ ဝဇ္ဇေန၊ ဟောတုတေဇယမင်္ဂလံ

(ဂ) နတ္ထိ မေ သရဏံ အညံ၊ သံဃော မေ သရဏံ ဝရံ
ဧတေနေ သစ္စ ဝဇ္ဇေန၊ ဟောတုတေဇယမင်္ဂလံ

## ပဥ္စမာရေ(အောင်ခြင်းငါးပါး)

ပဥ္စမာရေ ဇိနေ်ာနာထော၊ ပတ္တော သမ္ဗောဓိမုတ္တမံ
စတုသစ္စံ ပကာသေသိ၊ ဝန္ဒာမိတံ မဟာဝိရံ
ဧတေန သစ္စ ဝဇ္ဇေန၊ သဗ္ဗေမာရာ ပလယန္တု၊
သဗ္ဗေ ဥပဒ္ဒဝါ ဝိနာသန္တု၊ သဗ္ဗေ အန္တရာယာ ဝိနာသန္တု
သဗ္ဗေရောဂါ ဝူပ သမေန္တုတေ။ ။

## ဒုက္ခရောဂါဘယာဝေရာ

ဒုက္ခရောဂါ ဘယာဝေရာ၊ သောကာ သတ္တုဥပဒ္ဒဝါ၊
အနေကာ အန္တရာ ယာပိ၊ ဝိနဿန္တုစ တေဇသာ၊
ဇယသိဒ္ဓိဓနံလာဘံ၊ သောတ္ထိ ဘာဂျံ သုခံ ဗလံ၊
သိရိအာယုစ ဝဏ္ဏောစ၊ ဘောဂံ ဝုဍ္ဎီ စယ သဝါ၊
သတ ဝဿစ အာယုစ၊ ဇီဝသိဒ္ဓီ ဘဝန္တုတေ။

ဆရာတော်က ဝေနေယျတို့ရဲ့ ပါရမီအနုအရင့်အလိုက် ကျင့်စဉ်များ ချီးမြှောက်ပါတယ်။ ပုတီးစိပ်လိုသူများအတွက်လည်း စနစ်ကျတဲ့ ပုတီးစိပ်နည်းကို အလေးအနက် သင်ယူစေပါတယ်။

## မဇ္ဈိမစာပေတိုက်

## ပုတီးစိပ်အဓိဋ္ဌာန်ကောင်း

နံနက် - သာဓုက္ကမံ ဖုဿဇိဝံ ဗုဒ္ဓဂုဏံ သရဏံ ဂစ္ဆာမိ ကမ္မဋ္ဌာနံ အဓိဋ္ဌာမိ၊ (ဒုတိယမ္ပိ၊ တတိယမ္ပိ၊ ဆက်ဆို)

နေ့လယ် - သာဓုက္ကမံ ဖုဿဇိဝံ ဓမ္မဂုဏံ သရဏံ ဂစ္ဆာမိ ကမ္မဋ္ဌာနံ အဓိဋ္ဌာမိ၊ (ဒုတိယမ္ပိ၊ တတိယမ္ပိ၊ ဆက်ဆို)

ညပိုင်း - သာဓုက္ကမံ ဖုဿဇိဝံ သံဃဂုဏံ သရဏံ ဂစ္ဆာမိ ကမ္မဋ္ဌာနံ အဓိဋ္ဌာမိ၊ (ဒုတိယမ္ပိ၊ တတိယမ္ပိ၊ ဆက်ဆို)

(သာဓု. . သာဓု. . သာဓု )

## ပုတီးစိပ်နည်း(အကျဉ်း)

နံနက် - ဝင်လေကို ဗုဒ္ဓဂုဏံ၊ ထွက်လေကို သရဏံ ဂစ္ဆာမိ

နေ့လယ် - ဝင်လေ ဓမ္မဂုဏံ၊ ထွက်လေ -သရဏံ ဂစ္ဆာမိ

ညပိုင်း - ဝင်လေ သံဃဂုဏံ၊ ထွက်လေ သရဏံ ဂစ္ဆာမိ

ဝင်လေထွက်လေတိုင်းမှာ သရဏဂုံတည်စေတဲ့ ပုတီးစိပ်နည်း ဖြစ်ပါတယ်။ ဝင်လေထွက်လေတစ်စုံမှာ ပုတီးတစ်လုံးချပါ။ မိမိတတ်နိုင်သလောက် အဓိဋ္ဌာန်ဖြင့် ပုတီးစိပ် ပွားများပါ။ ထူးခြားတဲ့ ပုတီးစိပ်နည်းဖြစ်ပြီး အင်မတန်အကျိုး ကြီးတယ်ဆိုတာ မုချယုံကြည်အပ်ပါတယ်။

## ဝိပဿနာ ကမ္မဋ္ဌာန်းအားထုတ်နည်း(အကျဉ်း)

(၁) ပထမ - ဝင်လေသိထွက်လေသိအောင် ကျင့်ကြံပွားများ အားထုတ်ကြပါ။

(၂) ဒုတိယ - ဝင်လာတဲ့လေ၊ ထွက်သွားတဲ့လေ ဘယ်မှာထိသလဲလို့ သိအောင် ပွားများအားထုတ်ပါ။

(၃) တတိယ - ထိတဲ့နေရာကို သဘောသဘာဝ လက္ခဏာ သိအောင် ပွားများ အားထုတ်ပါ။

သဘောသိမှ တရားသိမယ်၊ တရားသိမှ သဘောသဘာဝလက္ခဏာ သိမယ်၊ သဘောတရား တရားသဘောလို့ စာမှာရေးထားတာက -

(၁) အနိစ္စလက္ခဏာသဘောသဘာဝတရား

(၂) ဒုက္ခလက္ခဏာသဘောသဘာဝတရား
(၃) အနတ္တလက္ခဏာသဘောသဘာဝတရား
အနိစ္စ . . ဒုက္ခ . . အနတ္တ

* လက္ခဏာ သဘောသဘာဝတရားမြင်မှ ယထာဘူတဉာဏ်
* အပြစ်ကိုသိမှ မုန်းမယ်၊ မုန်းတဲ့ဉာဏ်က နိဗ္ဗိန္ဒဉာဏ်
* မုန်းမှ ချုပ်ဆုံးသွားတာ သိတဲ့ဉာဏ်ကမဂ်ဉာဏ်

အဲဒီ မဂ်ဉာဏ်မှနိဗ္ဗာန်ကို အာရုံပြုနိုင်မယ်။ ဒါကြောင့် အဲဒီ လှေကားထစ်သုံးဆင့်နဲ့ ကြိုးစားပွားများအားထုတ်သွားရင် နိဗ္ဗာန်သွားရာ လမ်းကြောင်း အကျင့်ကောင်း အကျင့်မှန်တရားတွေပဲ။ ဆက်လက်ပြီးတော့ ကျင့်ကြံပွားများ မှတ်သား အားထုတ်နိုင်ကြပါစေ။

မိုင်းလင်းဆရာတော်ရဲ့ ဝိပဿနာ ကမ္မဋ္ဌာန်ကျောင်းတိုက်မှာ ရဟန်းရှင်လူများ လာရောက်တရားအားထုတ်နေကြပါပြီ။ စည်းကမ်းနဲ့အညီ အားထုတ်ရင် သမာဓိအကြည်ဓာတ် လျင်မြန်စွာရရှိပြီး ဝိပဿနာရဲ့ အကျိုးကျေးဇူးများကို အထူးခံစားရမှာ ဖြစ်ပါတယ်။

မိုင်းလင်းဆရာတော်၏ သီလ၊ သမာဓိ၊ ပညာ မေတ္တာတော်များဖြင့် ရှမ်းပြည်နယ်အရှေ့ပိုင်းမှာ သာသနာပွင့်လင်း စည်ပင်နေပါပြီ။ ဘဝဒုက္ခလောကဓံများမှ သံဝေဂတရားကို အရင်းတည်ပြီး မြန်မာပြည်အနှံ့ ခြေဆန့်ကာ တရားရှာခဲ့ပြီးမှ ဇာတိဒေသရှမ်းပြည်နယ်မှာ မိုင်းလင်းဆရာတော် (စဝ်ဝန်းမီး) သာသနာပြုတာဟာ အလွန်အားရကြည်ညိုဖွယ်ကောင်းလှပါတယ်။

**ညွှန်း/**

၂၀၀၃၊ ဇန်နဝါရီလထုတ် မိုင်းလင်းဆရာတော် စဝ်ဝန်းမီး ဘဒ္ဒန္တဝိမလ၏ မိုင်းလင်းဟိုနမ့်တောရ ကမ္မဋ္ဌာန်း ကျောင်းတိုက် ဝတ်ရွတ်စဉ်။





အင်းလေးဒေသမှ သက်တော်ရှည် သာနာပြုဆရာတော်ကြီး ဦး ဂန္ဓမာ

# ရက်ကန်းစင်တောင်ဆရာတော်ကြီး၏တပည့်
## အင်းလေးဒေသမှ
# သက်တော်ရှည်
# သာသနာပြုဆရာတော်ကြီး ဦးဂန္ဓမာ

ကျွန်တော်သည် ဝိဇ္ဇာမဂ္ဂဇင်းတွင် ကျေးဇူးရှင် ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီး၏ သာသနာပြုပုံများကို ကြိုးစားတင်ဆက်လျက်ရှိပါသည်။ ဆရာတော်ကြီးအကြောင်းကို ဤ၍ဤမျှ ပြည့်စုံအောင် ရေးသားနိုင်ခြင်းမှာ ဘဒ္ဒန္တဝါသေဋ္ဌ၏ 'ရွှေဘုန်းပွင့်ဘုရားသမိုင်း' စာအုပ်ကို ကိုးကားခွင့်ရခဲ့သောကြောင့် ဖြစ်ပါသည်။ ရွှေဘုန်းပွင့်ဘုရားသမိုင်းနှင့် ရက်ကန်းစင်တောင် ဆရာတော်ကြီးအကြောင်းတို့ကို ဆရာတော်ဦးဂန္ဓမာ ပြောပြ၍သာ ဤမျှ ခိုင်လုံတိကျစွာ သိခွင့်ရခဲ့ခြင်းဖြစ်ပါသည်။ ရွှေဘုန်းပွင့်ဘုရားသမိုင်းစာအုပ်တွင် ဆရာတော် ဦးဂန္ဓာမာ၏သက်တော်မှာ (၈၀) ကျော်ဖြစ်သော်လည်း ယခုအခါ သက်တော် (၉၄) နှစ်ရှိပြီဖြစ်ပါသည်။ ယခုတိုင် ကျန်းမာချမ်းသာစွာဖြင့် သာသနာပြုလျက်ရှိကြောင်းကို ဆရာတော်ကြီး၏တပည့်များဖြစ်ကြသော ဆရာမျိုးအောင်ထက်နှင့် ဒါရိုက်တာမောင်သီတို့ ပြောပြ၍ သိရပါသည်။

ဒါရိုက်တာ မောင်သီတို့အဖွဲ့သည် အင်းလေးဖောင်တော်ဦးဘုရားပွဲသို့ နှစ်စဉ်အရောက်သွား ကုသိုလ်ယူလေ့ရှိ ကြသည်။ ဒါရိုက်တာမောင်သီမှာ ဘာသာ သာသနာဆိုင်ရာအကြောင်းအရာများကို လေ့လာမှတ်သား စုဆောင်းထားလေ့ ရှိသည်။ ယခုလည်း အင်းလေးဖောင်တော်ဦးဘုရားများနှင့် ဆက်စပ်ပြီး ဒုတိယစံကျောင်းတော်ကြီး ဖော်ထုတ်တည်ဆောက်ပုံ၊ ဆရာတော်ကြီး

ဦးဂန္ဓာ၏ သာသနာပြုပုံအချက်အလက်များကို ဓာတ်ပုံများနှင့်တကွ ရှင်းလင်းပြောပြခဲ့ပါသည်။

ကျွန်တော် အလွန်ဝမ်းမြောက်စွာ သာဓုခေါ်လိုက်ပါ၏။ ကျွန်တော်၏ဆောင်းပါးတွင် အလွန်လိုအပ်လျက်ရှိသော ဆရာတော်ကြီး ဦးဂန္ဓမာ၏ပုံတော်ကိုလည်း ဒါရိုက်တာမောင်သီထံမှပင် ရခဲ့ပါသည်။ အလွန်ပင် ကျေးဇူးတင်ရပါ၏။

ဆရာမျိုးအောင်ထက်နှင့် ဒါရိုက်တာ မောင်သီအဖွဲ့တို့၏ အင်းလေးခရီးစဉ်မှ ဆရာတော်ကြီး ဦးဂန္ဓမာ၏ သာသနာပြုပုံများမှတ်တမ်း တစ်စိတ်တစ်ဒေသကို ရရှိခဲ့သမျှ ပြန်လည် ဖော်ပြလိုက်ပါသည်။

ဆရာတော်ဘုရားကြီးသည် သာသနာအကျိုး၊ ဆရာသမားအကျိုး၊ သုံးဆယ့်တစ်ဘုံအကျိုး၊ ဆရာသမားများ ကိစ္စအဝဝအောင်မြင်ပါစေဆိုသည်ကို သစ္စာအဓိဋ္ဌာန်အဖြစ် ဦးထိပ်ပန်ဆင်၍ မွန်မြတ်ထက်သန်လှသည့် စိတ်စေတနာ သဒ္ဓါဖြင့် မမေ့မပျောက်ကောင်းသော အဖိုးအနဂ္ဃ တုနှိုင်းမရသည့် သာသနာ့ပန္နက်တော်များကို မဆုတ်မနစ်သော လုံ့လ ဥဿာဟဖြင့် တစ်စိုက်မတ်မတ် ဖော်ထုတ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ခဲ့ရာ တိမ်မြုပ်ပျောက်ကွယ်နေသည့် ဖောင်တော်ဦး ဗုဒ္ဓရှင်တော်မြတ်ဘုရားများ သီတင်းသုံး ကိန်းဝပ်စံပယ်တော်မူခဲ့ရာ ဒုတိယကျောင်းတော်ရာကို ပြန်လည်ဖော်ထုတ၍ သမိုင်းသုတေသီများနှင့် အမျိုး ဘာသာ သာသနာအတွက် လိုအပ်ချက်အဖြစ် ဒုတိယစံကျောင်းတော်ကြီးပေါ်ပေါက်ရေး ကြိုးပမ်းခဲ့ရာ ယခုအခါ ထည်ထည်ဝါဝါဖြင့် မြင်ရသူများ ဘဝနှလုံးရွှင်ပြုံးစရာအဖြစ် တွေ့မြင်နိုင်ပြီဖြစ်ပါသည်။

ဆရာတော်ဘုရားကြီးသည် ထွက်ရပ်ပေါက်ပုဂ္ဂိုလ်ထူး ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီးနှင့် ရန်ကုန်တွင် လေးကြိမ်တိုင်တိုင်ဆုံခဲ့ရပြီး ယောဂီဘဝ၊ ကိုရင်ဘဝ၊ ရဟန်း ဘဝတို့ဖြင့် ပါရမီဖြည့်ဆည်းကာ ဆရာတော်ကြီး၏ ဘဝဆက်၊ ပါရမီဆက်၊ ပဋ္ဌာန်းဆက်ကြီးမားသည့်အားလျော်စွာ ရက်ကန်းစင်တောင်ဆရာတော်ဘုရားကြီးသည် ဆရာတော်ကြီး၏ ပင့်ပန်လျှောက်ထားမှုအရလည်းကောင်း၊ မြန်မာ့မြေမှာ ဗုဒ္ဓယဉ်ကျေးမှု အမွေအနှစ်များ အမြစ်အညွန့် ရှင်သန်ရေးဟူသော ရည်ရွယ်ချက်များ အရလည်းကောင်း၊ ၁၃၂၉ ခုနှစ်၊ တပေါင်းလတွင် ရှမ်းပြည်တောင်ပိုင်း တောင်ကြီးမြို့သို့ ကြွရောက်ခဲ့ပါသည်။

ထိုမှ အင်းလေးရေသာရွာ၊ အဖေကြီးဓမ္မာရုံသို့ရောက်ရှိပြီး ရေသာဘုရားကျိန်းကျောင်းဝင်းအတွင်းရှိ ရှေးနှစ်ပေါင်းများစွာက တည်ထား၍ ယိုယွင်းပျက်စီးနေသော ရှေးဟောင်းစေတီ (မဟာဒုတ်ဘုရား) ကို ဆရာတော်ကြီး ဦးဂန္ဓမာ၏ တောင်းပန်လျှောက်ထားချက်အရ ရက်ကန်းစင်တောင် ဆရာတော်ကြီးမှ ပြန်လည်ပြုပြင်ရန် ပန္နက်ရိုက်၍ အခါတော်များချမှတ်ပေးရာ ယခုအခါ ဆရာတော်ကြီးနှင့် ပါရမီရှင်တို့ကြိုးပမ်းမှုဖြင့် ရွှေရင်မျှော် ဆုတောင်းပြည့်ဘုရားအဖြစ် မသိသူကျော်သွား သိသူအကျိုးများ သုံးဆယ့်တစ်ဘုံသားများ လောကီ၊ လောကုတ္တရာ နှစ်ဖြာအကျိုး၊ တိုးပွားစေခဲ့ပြီ ဖြစ်ပါသည်။

တောင်ကြီးမြို့၊ တောင်ထိပ်တွင်လည်း ရှမ်း၊ မြန်မာ၊ လောကီ, လောကုတ္တရာ နှစ်ဖြာအကျိုး တိုးရန်ရည်မျှော်ကိုး၍လည်း ရက်ကန်းစင်တောင် ဆရာတော်ဘုရားကြီးနှင့် ပျဉ်းမနားဓမ္မာရုံအဖေကြီး ဦးစောလှတို့ ၏အလိုအရ ရွှေဘုန်းပွင့်စေတီတော်ကြီး တည်ထားကိုးကွယ်ရန် ရက်ကန်းစင်တောင် ဆရာတော်ကြီးမှ တာဝန်ပေးချက်အရ ဆရာတော်ကြီး ဦးဂန္ဓမာသည် အခက်အခဲအမျိုးမျိုးကြားမှ ကြိုးစားခဲ့ရရာ သစ်တောဂိတ်မှ တောင်ပေါ်ထိလမ်းနှင့် ရွှေဘုန်းပွင့်စေတီတော်ကြီးကို (၁၃၂၉) ခုနှစ်တွင် ပြီးမြောက်အောင်မြင်ပြီးပြီ ဖြစ်၍ ယခုအခါ တောင်ကြီးမြို့၏ ကျက်သရေ ဆောင်တန်ခိုးကြီးဘုရား တစ်ဆူအဖြစ် အများပြည်သူ ကြည်နူးဖွယ်ရာ ဖူးမြော်နေရပြီဖြစ်ပါသည်။

တစ်ချိန်တည်းတွင် တောင်ကြီးတောင်ထိပ် ရွှေမုဋ္ဌောဘုရားအနီး ပုဂံပြည့်ရှင် အလောင်းစည်သူမင်းတရားကြီး တည်ထားခဲ့သော ဓာတ်တော်ကြို ဘုရားကိုလည်း အိပ်မက်ဖြင့် တာဝန်ပေး၍ သစ်ပင်ခြုံနွယ်များ ထူထပ်သည့်ကြားမှ ရှာဖွေဖော်ထုတ်ကာ တပ်မတော်အရာရှိ စစ်သည်နှင့် ပါရမီရှင်များ ဝိုင်းဝန်းကြ၍ ဓာတ်တော်ကြိုစေတီတော်နှင့် ဓာတ်တော်ကြို ကျောင်းတိုက်ကို တည်ကာ ပရိယတ္တိ၊ ပဋိပတ္တိလုပ်ငန်းများဖြင့် သာသနာ့အကျိုး သယ်ပိုးလျက်ရှိပါသည်။

အလားတူပင် ဖောင်တော်ဦးဘုရားဒါယကာ ပုဂံပြည့်ရှင် အလောင်းစည်သူမင်းကြီး၏ အင်းလေးဒေသ ဖောင်စကြာခရီးစဉ်တစ်ခုအဖြစ် အင်းတိန်ဒေသတွင် အထင်အရှားရှိခဲ့သော ဖောင်တော်ချည်၊ ဖောင်တော်ဆိပ် စေတီနှစ်ဆူကိုလည်း တောခြုံအတွင်း ပျက်စီးယိုယွင်းနေသည့်အတွက် ပြန်လည်ရှင်းလင်းပြုပြင်ပြီး လေးကျွန်းစကြာဖောင်တော်ချည်စေတီတော်နှင့် လေးကျွန်းစကြာဖောင်တော်ဆိပ်စေတီတော်အဖြစ် တည်ထားပြီး ဖောင်တော်ဆိပ်ကျောင်း

ကိုလည်း သမထ၊ ဝိပဿနာ ဘာဝနာအလုပ် ကြိုးပမ်းအားထုတ်လျက် ရှည်လျားသံသရာ လွတ်ကြောင်းရှာလိုသူ ပါရမီရှင် သူတော်စင်များအတွက် ဆောက်လုပ်ခဲ့ပြီး သိမ်ကျောင်းနှင့်တရားစခန်း၊ ဓမ္မာရုံနေရာများ သတ်မှတ်ထားရှိပြီးဖြစ်ပါသည်။

ရွှေအင်းတိန်ဘုရားကြီး ညလုံးပေါက် အလင်းမီးဝင်းနိုင်ရေးအတွက်လည်း တောင်ခြေရေအားလျှပ်စစ်မှ မီးကြိုးမီးတိုင်များ (၁၈)သိန်းခန့် ကုန်ကျခံ၍ လှူဒါန်းဆောင်ရွက်ပူဇော် ထားပြီး ဖြစ်ပါသည်။ ဖောင်တော်ဦး ဗုဒ္ဓရှင်တော်မြတ်များ အင်းတိန်သို့ကြွရာ ကရဝိက်ဖောင်တော် ဆိုက်ကပ်ပင့်ဆောင်ရာ အဆင်ပြေချောမွေ့စေရေးအတွက် အုတ်လှေကားကိုလည်း ဆောက်လုပ်လှူဒါန်းထားရှိပြီး ဖြစ်ပါသည်။

ပြည်တွင်း ပြည်ပတွင် ထင်ရှားကျော်ကြား တန်ခိုးကြီးမားသည့် ဖောင်တော်ဦး ဗုဒ္ဓရှင်တော်မြတ်များနှင့်ပတ်သက်၍လည်း ဆရာတော်ကြီးအနေဖြင့် သက်တော်ထင်ရှား မြတ်စွာဘုရားများကို ဖူးမြော်ရသည့်အလား ကြည်ညို သဒ္ဓါတရား တဖွားဖွားဖြစ်၍ ဖောင်တော်ဦး ဗုဒ္ဓရှင်တော်မြတ်များနှင့်ပတ်သက်သည့် ကိစ္စအဝဝကို တာဝန်ရှိသူတစ်ဦးအလား အစဉ်တစိုက်စောင့်ရှောက်၍ ရှေးအစဉ်အလာ မပျက်ဖြစ်စေရန် တာဝန်ရှိသူများ၊ ဘုန်းမီးနေလ တောက်ပသည့် သာသနာပြုမင်းများနှင့် ဒေသအာဏာပိုင်စော်ဘွားများမှ ယုံကြည်ကိုးစား တာဝန်ပေးအပ်ထားသော အစည်တော်များကို လက်လွှမ်းမီ သမျှအခါမလပ် အကြံပြုထိန်းသိမ်းစောင့်ရှောက်လျက် ရှိပါသည်။

ဖောင်တော်ဦး ဗုဒ္ဓရှင်တော်မြတ်ဘုရားများ နှစ်စဉ် ဒေသစာရီကြွသည့်အခါ ကျောင်းတော်မှကြွဆင်း၍ အင်းတိန်သို့ ကြွရာရေသာရွာ (ရွာကြီးဗန့်ပုံ) ဒုတိယစံကျောင်းတော်ရာသို့ မရောက်မီ ဆရာတော်ကြီး သီတင်းသုံးရာ ဓမ္မာရုံကျောင်းရှေ့တွင် အစဉ်အလာမပျက် ခေတ္တတန့်နား ပူဇော်ခံရာ ဆရာတော်ကြီးနှင့် ပါရမီဖြည့်ဖက် ပါရမီဆက်ရှိရာ ရောက်လာကြသော ရပ်နီးရပ်ဝေးမှ တပည့်ဒကာသာဝက ဝေနေယျအပေါင်းက စေတနာ သဒ္ဓါထက်သန်စွာဖြင့် ဆွမ်း၊ ပန်း၊ ရေချမ်း၊ ရေကြည်တော်၊ ရွှေသက်န်းများ၊ ရွှေငွေပေဒသာပင်များ၊ စပါးဆန်၊ ထီးတော်များ၊ သာသနာ့အလံတော်များ ဆက်ကပ်လှူဒါန်း ပူဇော်ခြင်း၊ ဘုရားမကြွမီ တစ်ရက်ကြိုတင်၍လည်း ဖောင်တော်တွင် လိုအပ်သော ကနက္ကဒဏ်ထီးဖြူများ၊ ရွှေထီးများ၊ ဘုရားပလ္လင်တော်ပေါ် အခင်းများ၊ ပိတာန်

များ ပို့ဆောင်ပူဇော်ပြင်ဆင်မှုများ ဆောင်ရွက်ပေးခြင်း၊ ကျောင်းတော်ဝင်ပြီး ဓမ္မာရုံကျောင်းတွင် အဆိုပါ ပစ္စည်းအပ်နှံသိမ်းဆည်းထားခြင်း တာဝန်များ အစဉ်အလာမပျက် တာဝန်ယူ ဆောင်ရွက်ပေးခဲ့သည်မှာ ၁၃၂၇ ခုနှစ်မှစ၍ ယနေ့တိုင်ဖြစ် ၍ (၄၄)ကြိမ်မြောက် ဖြစ်ပါသည်။

## နိဂုံး

ကျေးဇူးရှင် သာသနာပြုဆရာတော်ကြီး ဦးဂ ၁သည် သက်တော်ရှည် ဆရာတော်ကြီးဘဝဖြင့် သာသနာတော်ကြီး ဇာခွန်.ရှည်အောင် ကြိုးပမ်း ဆောင်ရွက်ဆဲရှိပါကြောင်း . . .။





ဒီစာအုပ်မှာ
သမထ၊ ဝိပဿနာ၊ ပဋိပတ် ကျင့်စဉ်များကို
အထူးပြုဖော်ထုတ်ထားပါတယ်။
တရားရှာတယ်ဆိုတာ
စီပွားရှာရတာထက် ဘယ်လောက်ခက်တယ်ဆိုတာ
သိစေလိုရင်းပါပဲ။
သူတော်ကောင်းကြီးများ ဘဝနဲ့အသက်နဲ့ရင်းပြီး ရှာပေးတဲ့
တရားဓမ္မကို လောကထဲ၊ ဘဝထဲမှာ
အစဉ်အမြဲထွန်းညှိပူဇော်ထားချင်တာပါပဲ။





# ကျေးဇူးရှင် ဆရာတော်ကြီးများ၏

# အံ့ဖွယ်ဘဝဖြစ်စဉ်နှင့် ဓမ္မကျင့်စဉ်များ



## မောင်သွေးချွန်

